# كتاب الكبائر والصغائر

# ကဗီရဟ် ကြီးလေးသောပြစ်မှုများနှင့်
# စွဂီရဟ် သေးငယ်သောပြစ်မှုများဆိုင်ရာကျမ်း


تأليف: محمد إقبال كيلاني

ترجمة: الشيخ شاهد نور الإسلام الأثري

ဘာသာပြန်ဆိုသူ

**ဆရာရှိုင်ခ် ရှာဟိဒ် (MEDIU)**

رئيس هيئة شؤون القرآن والسنة (المركزية)
جمهورية اتّحاد ميانمار, مدينة يانجون
ورئيس هيئة العلماء للمجلس الأعلى للشؤون الإسلامية
جمهورية اتّحاد ميانمار, مدينة يانجون

| စဉ် | အကြောင်းအရာ | စာ |
|---|---|---|

| စဉ် | အကြောင်းအရာ | စာ |
|---|---|---|
| | **အုပ်ချုပ်မှုနှင့်သက်ဆိုင်သောပြစ်မှုကြီးများ** | |
| (၁) | တိုင်းသူပြည်သားများအား လိမ်ပြောခြင်း | ၁၉၂ |
| (၂) | အုပ်ချုပ်သူက ပြည်သူများ၏ အခွင့်အရေးများကို အလွဲသုံးစားလုပ်ခြင်း | ၁၉၂ |
| (၃) | အုပ်ချုပ်သူက လူတို့အား မတရားညှင်းပန်းနှိပ်စက်ခြင်း | ၁၉၄ |
| (၄) | အလ္လာဟ်အရှင်မြတ်၏ သတ်မှတ်ချက်စည်းမျဉ်း ဥပဒေများကို အဟန့်အတားလုပ်ခြင်း | ၁၉၅ |
| (၅) | မတရားသောအုပ်ချုပ်သူအား ကူညီခြင်း | ၁၉၈ |
| (၆) | လောကီအကျိုးတစ်စုံတရာအတွက် အုပ်ချုပ်သူအား ကူညီခြင်း | ၁၉၈ |
| (၇) | စီရင်ဆုံးဖြတ်ရာတွင် တရားမျှတမှုမရှိခြင်း | ၁၉၉ |
| (၈) | အစိုးရရာထူးလက်ခံထားသူသည် လူတို့ထံမှ လက်ဆောင်ယူခြင်း | ၂၀၀ |
| (၉) | အာဏာတည်မြဲရေးအတွက် မိမိအား ဆန့်ကျင်သူကို သတ်ဖြတ်ခြင်း | ၂၀၁ |

## ဘာသာပြန်ဆိုသူ၏အမှာစာ

**الحمدُ لله رب العالمين، ولا عدوان إلا على الظالمين، والصلاةُ والسلام على سيدنا محمد، سيد المرسلين، وإمام المتقين، وعلى آله وصحبه أجمعين.**

ဤကျမ်းသည် တစ်မူထူး၏။ ထုတ်ဝေသမျှဘာသာရေး စာအုပ်စာပေများမှာ ကျင့်ရန်သာဖြစ်နေချိန်တွင် ဤကျမ်းငယ်က ကြဉ်ရန်များကိုသာ ထုတ်နုတ်ရေးသားထားခြင်းကြောင့်ဖြစ်၏။ ကျင့်ကြံအားထုတ်ရန် ရေးသားထားသောစာအုပ်စာတမ်းအများစုမှာလည်း ကုရ်အာန်–မှန်ကန်ခိုင်လုံသော ဟဒီးစ်တော်လာ အချက်များမဟုတ်ဘဲ ရှေးသူတော်စင် ဆရာသမားကြီးများ၏ ကောင်းရာကောင်းကြောင်း သီကုံးရေးသားထားချက်များသာ ဖြစ်နေ၏။ ဥပဒေစည်းကမ်းတစ်ခုကို လိုက်နာရန်ပျက်ကွက်ခြင်းတွင် “ဥပဒေစည်းကမ်းက ပြုလုပ်ရန်ပြဋ္ဌာန်းထားသည့်အချက်များကို မပြုမလုပ်ပျက်ကွက်ခြင်း၊ မပြုလုပ်ရဟု တားမြစ်ထားသည်များကို ပြုလုပ်ကျူးလွန်ခြင်းတို့သည် လိုက်နာရန်ပျက်ကွက်ခြင်းဖြစ်၏။ မကောင်းမှုအကုသိုလ် အပြစ်ဒုစရိုက်ဆိုသည်တို့ကို ရှောင်ကြဉ်ခြင်း၊ (မကောင်းတာမလုပ်ရင်ပြီးတာဘဲ) ဆိုခြင်းသည်မလုံလောက် (ကောင်းတာလုပ်ဖို့) ကုသိုလ်လုပ်ဖို့ ညွှန်ကြားသည်ကို လိုက်နာမှသာ တာဝန်ကျေမည် ဖြစ်၏။ ကုသိုလ်ကောင်းမှုအဘယ်မျှလုပ်သည်ဖြစ်စေ၊ အကုသိုလ် မကောင်းမှုဒုစရိုက်တို့ကို ရှောင်ကြဉ်ခြင်းမရှိလျှင်ကား သမင်မွေးရင်း ကျားစားရင်းသာ ဖြစ်ချေမည်။

တမန်တော်မြတ် ﷺ ၏ သာဝကတော်ကြီးများအနက် သာဝကကြီး ဟုဖိုင်ဖဟ်ဗင်န်ယမာန်သည် တမန်တော်မြတ်ကြီး ﷺ အား အကောင်းနှင့်ပတ်သက်၍ မေးမြန်းလေ့မရှိဘဲ အဆိုးနှင့်ပတ်သက်၍ သာမေးမြန်းလေ့ရှိကြောင်း ဗုခါရီကျမ်းတွင် ယခုလို ဆင့်ဆိုချက်လာရှိထားသည်။

عن حذيفة بن اليمان رضي الله عنه قال كان الناس يسألون رسول الله صلى الله عليه وآله وسلم عن الخير وكنت أسأله عن الشر مخافة أن يُدركني ،--

သာဝကကြီးဟုဖိုင်ဖဟ်ဗင်န်ယမာန် ရဿ က ပြောပြ၏။ လူတို့သည် အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော် ﷺ ကို ကောင်းတာနှင့်ပတ်သက်၍ မေးမြန်းလေ့ရှိကြ၏။ ကျွန်ုပ်ကမူ ကိုယ်တော်မြတ်ကို အဆိုးနှင့်ပတ်သက်၍သာမေးမြန်းလေ့ရှိ၏။ အကြောင်းမှာ ယင်းအဆိုးဟာ ကျွန်ုပ်ဆီရောက်လာမည်ကို စိုးရိမ်၍ (ကြိုတင်ကာကွယ်နိုင်ရန်) ဖြစ်သည်။[၁]

သို့ပါ၍ မွတ်စ်လင်မ်များသည်လည်း ကောင်းမှုကုသိုလ်ကိုသာ သိပြီး မကောင်းမှု (အကုသိုလ်)ကိုမသိပါက ယင်းမကောင်းမှုမှ ရှောင်ကြဉ်ရန်ခက်ခဲမည်ဖြစ်သည်။ အစ္စလာမ်သာသနာတော်သည်ကား လူသားကမ္ဘာအတွက် ကိယာမသ်ကမ္ဘာဆုံးတိုင် လူတို့ ကျင့်သုံးတည်ဆောက်ရမည့် ရှရီအဟ်သာသနာဖြစ်၏။ လူသားကမ္ဘာအတွက် နောက်ဆုံးစေလွှတ် ပွင့်ပေါ်စေသော နဗီတမန်တော်မြတ် ﷺ အား ဖြင့် လူသားကမ္ဘာအတွက် အခင်းကြီး၊ ငယ်စွန့်ခြင်းမှသည် ကမ္ဘာလောကကို ငြိမ်းချမ်းတည်ငြိမ်စွာ မည်သို့ ဖြတ်သန်းရမည်ကို သင်ကြား ပို့ချပေးထားသော သာသနာဖြစ်၏။ အကောင်းနှင့်အဆိုး အကျိုးနှင့် အပြစ်

---

၁ - ဗုခါရီကျမ်း - ဟဒီးစ်နံပါတ် ၃၆၀၆။

အသေးစိတ်ကို ပြဌာန်းပေးထားသည့် ပြီးပြည့်စုံသောသာသနာ့ အစီအစဉ်ဖြစ်၏။

ဤကျမ်းငယ်တွင် “ကဗီရဟ်” ကြီးလေးသောပြစ်မှုများနှင့် “စွဂီရဟ်” သေးငယ်သောပြစ်မှုများကို ကျမ်းဂန်တော်ကုရ်အာန်နှင့် တမန်တော်မြတ် ﷺ ၏ ဟဒီးစ်တော် အကိုးအကားများဖြင့် တင်ပြထားပါသည်။ မွတ်စ်လင်မ်များ ရှောင်ကြဉ်နိုင်ရန်ဖြစ်ပါသည်။ အလွန်ပြီးပြည့်စုံပြီး အဖိုးထိုက်လှသော ကျမ်းငယ်တစ်ဆူအဖြစ် တွေ့ရှိရ၍ မြန်မာမွတ်စ်လင်မ်များအဖို့ အကျိုးဖြစ်ထွန်းမည့်ကျမ်းဖြစ်သည်ဟု ယုံကြည်သောကြောင့် မြန်မာဘာသာသို့ ပြန်ဆိုတင်ပြလိုက်ရခြင်းဖြစ်ပါသည်။ ကျမ်းပြုသူ၏ အမှာစာသည် အလွန်ပင် ရှည်လျားသောကြောင့်နှင့် စာအုပ်အတွင်းတွင် ထိုအကြောင်းအရာများ ပါရှိပြီးဖြစ်သောကြောင့် ကျမ်းလေးမည်စိုး၍ ချန်လှပ်ခဲ့ပါသည်။ ဖတ်ရှုပြီးလျှင်မူ ဤကျမ်းငယ်သည် အီမာန်ရှင်တို့ အိမ်တိုင်း၊ မိသားစုတိုင်း၊ လူငယ်လူရွယ်တိုင်း လက်စွဲထားသင့်သည့် ကျမ်းငယ်ဖြစ်ကြောင်း စာရှုသူမှ မုချမသွေ ဆုံးဖြတ်လိမ့်မည်ဟု ယုံကြည်ပါသည်။

ရှိုင်ခ်ရှာဟိဒ် **(MEDIU)**

ရန်ကုန်မြို့။ ၂၀၂၂၊ ဧပြီလ၊ ၃ရက်။

## အကုသိုလ်အမျိုးအစားများ

**မတ်စ်အလဟ် – (၁)အပြစ်အကုသိုလ် နှစ်မျိုးရှိသည်။ (၁) ကြီးလေးသော အပြစ်အကုသိုလ်နှင့် သေးငယ်သောအပြစ်အကုသိုလ်။ အလ္လာဟ်အရှင်မြတ်မိန့်ကြားတော်မူသည်။**

إِن تَجْتَنِبُوا۟ كَبَآئِرَ مَا تُنْهَوْنَ عَنْهُ نُكَفِّرْ عَنكُمْ سَيِّـَٔاتِكُمْ وَنُدْخِلْكُم مُّدْخَلًا كَرِيمًا ﴿٣١﴾

"အကယ်၍ အသင်တို့သည် အသင်တို့အား တားမြစ်ပြီးဖြစ်သော အပြစ်ကြီးများမှ ရှောင်ကြဉ်ကြလျှင် ငါအရှင်မြတ်သည် အသင်တို့၏ မကောင်းမှု (အသေး)များကို အသင်တို့ထံမှ ဖယ်ရှားတော်မူပြီး အသင်တို့အား ဂုဏ်ရှိသော နေရာသို့ ဝင်ရောက်စေတော်မူမည်။"[၁]

အဗူဟုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "စွလားသ်တစ်ကြိမ်သည် နောက်စွလားသ်တစ်ကြိမ်ထိ၊ ဂျုမုအဟ်တစ်ကြိမ်သည် နောက်ဂျုမုအဟ်တစ် ကြိမ်ထိ (တစ်ပတ်လုံး)၊ ရမဇန်လတစ်လသည် နောက်ရမဇာန်လအထိ (တစ်နှစ်ပတ်လုံး)၏ အပြစ်အကုသိုလ်များကို ပယ်ဖျက်ပေးသည်။ စည်းကမ်းချက်မှာ ကြီးလေးသောအပြစ်များမှ ရှောင်ကြဉ်ရမည်။"[၂]

**မတ်စ်အလဟ် – (၂) ကြီးလေးသောအပြစ်များအနက် တချို့သောအပြစ်များသည် အဆင့်နိမ့်၍ တချို့သောအပြစ်များမှာ အဆင့်မြင့်သည်။**

မှတ်ချက်။ (မတ်စ်အလဟ် (၁၁)အောက် တွင် ရှင်းလင်းချက်ကို ရှုပါ။



---

၁ – ကုရ်အာန် (၄း၃၁)

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၃၃

## ကြီးလေးသောအပြစ်အကုသိုလ်များ၏ နိမိတ်လက္ခဏာ

**မတ်စ်အလဟ် – (၃)** ကုရ်အာန်ကျမ်းမြတ်တွင် ပျက်စီးဆုံးရှုံးမည်ဟူသော စကားလုံးမျိုးဖြင့် ဖော်ကျူးထားသော အပြစ်အကုသိုလ်များသည် ကြီးလေးသောအကုသိုလ် ဖြစ်သည်။ ဥပမာ –

وَيْلٌ لِّكُلِّ هُمَزَةٍ لُّمَزَةٍ ۝١

"နောက်ကွယ်အတင်းပြောသူတိုင်း၊ ရှေ့တွင် စောင်းချိတ်ရှုတ်ချသူ အပြစ်ပြောသူတိုင်းအတွက် ပျက်စီးမှု(ငရဲဘုံထဲမှ လျှိုတစ်ခု)ရှိသည်။"[၁]

**မတ်စ်အလဟ် – (၄)** ဂျဟန္နမ်ငရဲဘုံနှင့် ခြိမ်းခြောက်မှုလာရှိသောပြစ်မှုသည် ကြီးလေးသောအကုသိုလ်ဖြစ်သည်။ ဥပမာ –

"အဗ်ဒုလ္လာဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ငါတို့ကိုလှည့်စားသူသည် ငါတို့အနက်မှ မဟုတ်။ လှည့်စားဖြားယောင်းခြင်းသည် ငရဲဘုံတွင်ရှိမည်။"[၂]

**မတ်စ်အလဟ် – (၅)** လအ်နသ်ကျိန်ဆိုချက်ဖြင့် သုံးနှုန်းထားသောပြစ်မှုသည် ကြီးလေးသော အကုသိုလ်ဖြစ်သည်။ ဥပမာ –

အဗ်ဒုလ္လာဟ်ဗင်န် အုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် လာဘ်ပေးသူနှင့် လာဘ်ယူသူတို့ကို ကျိန်ဆဲတော်မူခဲ့သည်။[၃]

**မတ်စ်အလဟ် – (၆)** အလ္လာဟ်အရှင်မြတ်၏ အမျက်ဒေါသကို ဖော်ကျူး

---

၁ – ကုရ်အာန် (၁၀၄း၁)

၂ – အိဗ်နဟိဗ်ဗာန်ကျမ်း၊ တွဲ – ၂၊ နံပါတ် – ၅၆၇။

၃ – သိရ်မိဇီကျမ်း၊ နံပါတ် – ၁၀၇၄။

ထားသောပြစ်မှုများသည် ကြီးလေးသောအကုသိုလ်ဖြစ်သည်။ ဥပမာ - အကြင်သူကို အလ္လာဟ်အရှင်မြတ်က သန့်ပြန့်စင်ကြယ် အောင်လုပ်တော်မူမည်မဟုတ်၊ သို့မဟုတ် အကြင်သူကို အလ္လာဟ် အရှင်မြတ်က ကရုဏာပြုတော်မူမည်မဟုတ်၊ သို့မဟုတ် အကြင်သူကို အလ္လာဟ်အရှင်မြတ် စကားပြောတော်မူမည်မဟုတ်၊ စသဖြင့်။

အဗူဇရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "လူပုဂ္ဂိုလ်သုံးဦးကို အလ္လာဟ်အရှင်မြတ် သည် ကိယာမသ်နေ့တွင် စကားပြောတော်မူမည်မဟုတ်ပေ။ သူတို့ဘက်သို့ လှည့်ကြည့်တော်မူမည်လည်းမဟုတ်၊ သူတို့အား သန့်ပြန့်စင် ကြယ်အောင် လုပ်ပေးတော်မူမည်လည်းမဟုတ်ပေ။ ထို့ပြင် သူတို့ အတွက် နာကျင်ဖွယ်ကောင်းသောပြစ်ဒဏ်ရှိပေသည်။ အထက်ပါ စကားရပ်ကို တမန်တော်မြတ် ﷺက သုံးကြိမ်တိုင်တိုင် မိန့်ကြားတော်မူခဲ့သည်။ ထိုအခါ အဗူဇရ် ﷺက လျှောက်တင်သည်။ အို - တမန်တော်၊ ထိုသူတို့သည် ပျက်စီးဆုံးရှုံးသူများ ဖြစ်ကြပါသည်၊ ထိုသူများမှာ မည်သူများပါနည်း။ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ လုံချည်ကို ခြေမျက်စိအောက် တရွတ်တိုက်ဝတ်သူ၊ ကျေးဇူးပြုပြီးနောက် ဂုဏ်ဖော်သူ၊ လိမ်လည်ကျိန်ဆိုပြီး ကုန်ပစ္စည်းရောင်းချသူတို့ ဖြစ်သည်။"[၁]

**မတ်စ်အလဟ် - (၇) ငါတို့အနက်မှ မဟုတ်ဟု သုံးနှုန်းထားသောပြစ်မှုများသည် ကြီးလေးသောအကုသိုလ်များ ဖြစ်သည်။**

အဗူဟုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "အမျိုးသမီးတစ်ဦးအား သူမ၏လင် ယောကျ်ားနှင့် ဆန့်ကျင်ရန် မြှောက်ပေးသူ၊ သို့မဟုတ် ကျေးကျွန်အား သခင်နှင့်ဆန့်ကျင်ရန် မြှောက်ပေးသူတို့သည် ငါတို့အနက်မှမဟုတ်ပေ။"[၂]

---

၁ - မွတ်စ်လင်မ်ကျမ်း၊ နံပါတ် - ၁၀၆။

၂ - အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် - ၂၁၇၅။

**မတ်စ်အလဟ် – (၈) ပြင်းထန်သောစကားလုံးများဖြင့် သုံးနှုန်းထားသော ပြစ်မှုများသည် ကြီးလေးသောအကုသိုလ်များ ဖြစ်သည်။ ဥပမာ – အကြင် ပြစ်မှုသည် သာသနာကို အမြစ်မှုနှုတ်သောအရာဖြစ်သည်။**

ဇိုပိုင်းရ်ဗင်န် အောက်ဝါးမ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ ရှေးယခင်လူမျိုးများတွင် စွဲကပ်ခဲ့သောရောဂါများဖြစ်သည့်မနာလိုဝန်တိုမှုနှင့်မလိုမုန်းတီးမှုရောဂါများသည် အသင်တို့ အတွင်းသို့လည်း ဝင်ရောက်လာလေပြီ။ အမှန်စင်စစ်တွင် ဤအရာနှစ်ခုသည် ရိတ်သိမ်းပစ်သောအရာများဖြစ်သည်။ ဆံပင်ကို ရိတ်သိမ်းပစ်သည်ဟု ငါမဆိုလို။ သာသနာကို ရိတ်သိမ်းလိုက်ခြင်းဟု ငါဆိုလိုသည်။[၁]

**မတ်စ်အလဟ် – (၉) "ဂျန္နသ်သုခဘုံသို့ ဝင်ရောက်ရမည်မဟုတ်"ဟု သုံးနှုန်းထားသောပြစ်မှုသည် ကြီးလေးသောအကုသိုလ်ဖြစ်သည်။ ဥပမာ –**

ဂျူပိုင်းရ်ဗင်န် မုသ္ဂအင်မ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ဆွေမျိုးသားချင်း အဆက်အသွယ်ဖြတ်တောက်သူသည် ဂျန္နသ်သုခဘုံသို့ ဝင်ရောက်ရမည်မဟုတ်။[၂]

**မတ်စ်အလဟ်(၁၀)"ကုဖ်ရ် – သွေဖည်ပြင်းဆန်ခြင်းစကားလုံးကို သုံးနှုန်းထားသော ပြစ်မှုများသည် ကြီးလေးသောအကုသိုလ်ဖြစ်သည်။ ဥပမာ –**

အဗူဟုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ လူတို့တွင် အချက်နှစ်ချက်ရှိပါက ကုဖ်ရ်ဖြစ်သည်။ (၁) သွေးသားတော်စပ်မှုကို စွပ်စွဲပြောဆိုခြင်း။ (၂) သေဆုံးသူအပေါ် အော်ဟစ်ငိုကြွေးကာ ငိုချင်းချခြင်းတို့ဖြစ်သည်။[၃]

---

၁ – သိရ်မိဇီကျမ်း – နံပါတ် – ၂၀၈၃။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၅၅၆။

၃ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၆၇။

(ဤနေရာတွင် ကုဖ်ရ်သွေဖည်ခြင်းဟူသည် အစ္စလာမ့်ဘောင် အတွင်းမှပြင်ပသို့ရောက်သွားသည်ဟု မဆိုလိုပေ။ ပြစ်မှုကြီးလေးကြောင်း ထုတ်ဖော်ခြင်းသာဖြစ်သည်။)

# အကီဒဟ်ယုံကြည်ချက်ပိုင်းနှင့်ဆိုင်သော ပြစ်မှုကြီးများ

## (၁)ရှိရ်က်-အလ္လာဟ်အရှင်မြတ်နှင့်အတူ အခြားတစ်စုံတရာကို တုဖက်ကိုးကွယ်ခြင်း

မတ်စ်အလဟ် – (၁၁) ရှိရ်က်တုဖက်ကိုးကွယ်ခြင်းအမှုသည် လူတစ်ဦးအား အစ္စလာမ့်ဘောင် ပြင်ပသို့ ရောက်သွားစေသည်။

لَقَدْ كَفَرَ الَّذِيْنَ قَالُوْٓا اِنَّ اللّٰهَ هُوَ الْمَسِيْحُ ابْنُ مَرْيَمَ ؕ وَ قَالَ الْمَسِيْحُ
يٰبَنِيْٓ اِسْرَآءِيْلَ اعْبُدُوا اللّٰهَ رَبِّيْ وَ رَبَّكُمْ ؕ اِنَّهٗ مَنْ يُّشْرِكْ بِاللّٰهِ فَقَدْ
حَرَّمَ اللّٰهُ عَلَيْهِ الْجَنَّةَ وَ مَاْوٰىهُ النَّارُ ؕ وَ مَا لِلظّٰلِمِيْنَ مِنْ اَنْصَارٍ ﴿٧٢﴾
لَقَدْ كَفَرَ الَّذِيْنَ قَالُوْٓا اِنَّ اللّٰهَ ثَالِثُ ثَلٰثَةٍ ۘ وَ مَا مِنْ اِلٰهٍ اِلَّآ اِلٰهٌ وَّاحِدٌ ؕ وَ
اِنْ لَّمْ يَنْتَهُوْا عَمَّا يَقُوْلُوْنَ لَيَمَسَّنَّ الَّذِيْنَ كَفَرُوْا مِنْهُمْ عَذَابٌ اَلِيْمٌ ﴿٧٣﴾

“အမှန်စင်စစ် *အလ္လာဟ်* အရှင်မြတ်သည် *မရ်ယမ်*၏သားတော် *မစီဟ် (အီစာ)*ပင်ဖြစ်သည်” ဟု ပြောဆိုခဲ့ကြသောသူများသည် အမှန်ပင် *ကာဖိရ်*ဖြစ်သွား ခဲ့ကြပြီဖြစ်သည်။ ထို့ပြင် *မစီဟ်* (*အီစာ* ကိုယ်တိုင်) ကမူ “အို – *အစ္စရာအီလ်*မျိုးနွယ် အပေါင်းတို့၊ အသင်တို့သည် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်နှင့် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်ဖြစ်တော်မူသည့် *အလ္လာဟ်*အရှင်မြတ်ကိုသာ ကိုးကွယ်ကြပါဟု ပြောဆိုခဲ့သည်။ အမှန်မှာ မည်သူမဆို *အလ္လာဟ်* အရှင်မြတ်နှင့် တွဲဖက် (ကိုးကွယ်)လျှင် *အလ္လာဟ်*အရှင်မြတ်သည် ထိုသူ့အတွက် *ဂျန္နသ်* သုခဘုံကို အမှန်ပင် *ဟာရာမ်*ပြုလုပ်တားမြစ်ထားတော်မူမည်။ ၎င်းပြင် သူ၏နေရာထိုင်ခင်းသည် ငရဲမီးပင်ဖြစ်သည်။ ထို့ပြင် မတရားကျူးလွန်သောသူ

များအား ကူညီမည့်သူ တစ်ဦးတစ်ယောက်မှရှိမည် မဟုတ်ပေ။ "အမှန်ပင် *အလ္လာဟ်* အရှင်မြတ်သည် (အရှင်)သုံးပါးထဲမှ တတိယ တစ်ပါးဖြစ်သည်" ဟုပြောဆိုခဲ့ကြ သောသူများသည်လည်း အမှန်စင်စစ် *ကာဖိရ်*များပင် ဖြစ်သွားခဲ့ကြသည်။ ၎င်းပြင်(အမှန်မှာ) တစ်ပါးတည်းသော ကိုးကွယ်ထိုက်သည့် (*အလ္လာဟ်* )အရှင်မြတ်မှလွဲ၍ အခြားကိုးကွယ် ထိုက်သည့်အရှင် လုံးဝမရှိပေ။ အကယ်၍ သူတို့သည် သူတို့၏ပြောဆိုမှုများကို မရပ်စဲကြလျှင် သူတို့ထဲမှ (ဆက်ပြီး)ငြင်းနေကြသောသူများအပေါ် အလွန်နာကျင်စေသောအပြစ်ဒဏ် အမှန်ပင်ဆိုက်ရောက်လာမည်။[၁]

အဗူဗက်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်ုပ်တို့သည် တမန်တော်မြတ် ﷺ၏ ထံတော်ပါးတွင်ရှိနေစဉ် တမန်တော်မြတ် ﷺက မိန့်ကြားတော်မူခဲ့သည်။ "ငါကိုယ်တော်သည် အသင်တို့အား အရာအားလုံးထက် အကြီးလေးဆုံးဖြစ်သောပြစ်မှုများကို ပြောပြရမည်လော။ ကိုယ်တော်မြတ် ﷺက ထိုသို့ သုံးကြိမ်မိန့်ကြားတော်မူခဲ့သည်။ (၁) အလ္လာဟ်အရှင်မြတ်နှင့်အတူ အခြားအရာအား တုဖက်ယှဉ်တွဲခြင်း။ (၂) မိဘနှစ်ပါးကို ဒုက္ခပေးခြင်း။ (၃) လိမ်လည်သက်သေထွက်ဆိုခြင်း၊ သို့မဟုတ် လိမ်လည်ပြောဆိုခြင်းတို့ ဖြစ်သည်။ တမန်တော်မြတ် ﷺသည် မှီ၍ ထိုင်နေရာမှ ထထိုင်တော်မူလိုက်သည်။ အထက်ပါစကားကို ထပ်ပြန်တလဲလဲ မိန့်တော်မူနေခဲ့သည်။ အဘယ်မျှပင်ဟူမူ ကိုယ်တော်မြတ် ﷺသည် ဆက်မပြောလျှင်ကောင်းမည်ဟု ကျွန်ုပ်တို့ မျှော်လင့်မိသည်။[၂]



## (၂) ကျမ်းမြတ်ကုရ်အာန်၏အာယသ်တော်များကို ငြင်းပယ်ခြင်း

မတ်စ်အလဟ် – (၁၂) ကျမ်းတော်မြတ်ကုရ်အာန်၏ အာယသ်တော် တစ်ပိုဒ်

---

၁ – ကုရ်အာန် (၅း၇၂ – ၇၃)

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၈၇။

ပိုဒ် သို့မဟုတ် ထို့ထက်ပိုသောအာယသ်တော်များကို ငြင်းပယ်ခြင်းသည် ကြီးလေးသောပြစ်မှုဖြစ်သည်။ ယင်းပြစ်မှုကျူးလွန်သူသည်အစ္စလာမ်သာသနာ၏ပြင်ပသို့ရောက်သွားပေသည်။

وَكَذٰلِكَ اَنْزَلْنَآ اِلَيْكَ الْكِتٰبَ ۭ فَالَّذِيْنَ اٰتَيْنٰهُمُ الْكِتٰبَ يُؤْمِنُوْنَ بِهٖ ۚ وَمِنْ هٰٓؤُلَاۗءِ مَنْ يُّؤْمِنُ بِهٖ ۭ وَمَا يَجْحَدُ بِاٰيٰتِنَآ اِلَّا الْكٰفِرُوْنَ ﴿٤٧﴾

ထို့ပြင် ထိုသို့ပင် ငါအရှင်မြတ်သည် အသင့်ထံသို့ ကျမ်းဂန်ချပေးတော်မူခဲ့ သည်။ ထို့ပြင် ငါအရှင်မြတ်က ကျမ်းဂန်ချပေးတော်မူခဲ့သည့်သူများသည် ၎င်းကျမ်းကိုလည်း ယုံကြည်ကြသည်။ ထို့ပြင် ၎င်းသူ(*မက္ကာဟ်*သား)များထဲမှလည်း ၎င်းကျမ်းကို ယုံကြည်သူများရှိကြသည်။ ထို့ပြင် ငါအရှင်မြတ်၏ *အာယသ်*တော်များအား *ကာဖိရ်*များသာ ငြင်းပယ်ကြသည်။[၁]

  

## (၃) အစ္စလာမ်မဟုတ်သောအခြားသာသနာကို နှစ်သက်ခြင်း။

မတ်စ်အလဟ်-(၁၃) အစ္စလာမ်သာသနာအပြင် အခြားသောသာသနာတစ်ခုကို နှစ်သက်ခြင်းသည် ကြီးလေးသောပြစ်မှု ဖြစ်သည်။ ယင်းပြစ်မှုကျူးလွန်သူသည်အစ္စလာမ်သာသနာပြင်ပသို့ရောက်သွားပေသည်။

وَمَنْ يَّبْتَغِ غَيْرَ الْاِسْلَامِ دِيْنًا فَلَنْ يُّقْبَلَ مِنْهُ ۚ وَهُوَ فِي الْاٰخِرَةِ مِنَ الْخٰسِرِيْنَ ﴿٨٥﴾

ထို့ပြင် မည်သူမဆို *အစ္စလာမ်* သာသနာမှလွဲ၍ အခြားသာသနာတစ်ခုခုကို လိုလားရှာဖွေလျှင် ထိုသူ၏ထံမှ (သူရှာဖွေထားသောသာသနာသည် အရှင်မြတ်ထံတွင်) သဘောတူ လက်ခံတော်မူခြင်း လုံးဝခံရမည်မဟုတ်ပေ။ ထို့ပြင် ထိုသူသည် တမလွန်ဘဝ၌လည်း ဆုံးရှုံးသူများထဲ

---

၁- ကုရ်အာန် (၂၉း၄၇)

တွင်ဖြစ်လိမ့်မည်။[၁]

  

## (၄) အလ္လာဟ်အရှင်မြတ် ချပေးတော်မူသော တရားဒေသနာတော်များကို မနှစ်သက်ခြင်း။

မတ်စ်အလဟ် – (၁၄) အလ္လာဟ်အရှင်မြတ် ချပေးတော်မူသောတရား ဒေသနာတော်များကို မနှစ်သက်ခြင်း။

وَالَّذِيْنَ كَفَرُوْا فَتَعْسًا لَّهُمْ وَاَضَلَّ اَعْمَالَهُمْ ۝٨ ذٰلِكَ بِاَنَّهُمْ كَرِهُوْا مَآ اَنْزَلَ اللّٰهُ فَاَحْبَطَ اَعْمَالَهُمْ ۝٩

“*ကာဖိရ်*များ အတွက်ကမူ ပျက်စီးခြင်းပင် ရှိမည်။ ထို့ပြင် သူတို့၏ လုပ်ရပ်များကိုလည်း အရှင်မြတ်သည် အလဟဿအကျိုးမဲ့ဖြစ်စေတော်မူမည်။ ဤသည် *အလ္လာဟ်*အရှင်မြတ်ချပေးတော်မူသောအရာ(အမိန့်တော်များ)ကိုအမုန်းစင်စစ်သူတို့သည်စက်ဆုပ်ခဲ့ကြသည့်အတွက်ကြောင့် ဖြစ်သည်။ သို့ဖြစ် ရာ အရှင်မြတ်သည် သူတို့၏ လုပ်ရပ်များကို အလဟဿ အကျိုးမဲ့ဖြစ်စေတော်မူခဲ့သည်။[၂]

  

## (၅) အလ္လာဟ်အရှင်မြတ် ချပေးတော်မူထားသော ဥပဒေများကို စွန့်ပယ်ပြီး စီရင်ဆုံးဖြတ်ခြင်း။

မတ်စ်အလဟ် – (၁၅) အလ္လာဟ်အရှင်မြတ် ပြဋ္ဌာန်းပေးထားသော တရား ဥပဒေများကို အားနည်းချက်ရှိသည်၊ သို့မဟုတ် ပြည့်ဝစုံလင်မှုမရှိ၊ သို့မ

---

၁ – ကုရ်အာန် (၃း၈၅)

၂ – ကုရ်အာန် (၄၇း၈ – ၉)

ဟုတ် လိုက်နာကျင့်သုံးလို့မရနိုင်ဟု ယုံကြည်ကာ အခြားသော တရားဥပဒေများကို ကျင့်သုံးခြင်းသည် ကြီးလေးသောပြစ်မှုဖြစ်သည်။ ဤလုပ်ရပ်သည် အစ္စလာမ်သာသနာတော်ပြင်ပသို့ ရောက်သွားစေသည်။

وَمَنْ لَّمْ يَحْكُمْ بِمَآ اَنْزَلَ اللّٰهُ فَاُولٰٓئِكَ هُمُ الْكٰفِرُوْنَ ﴿٤٤﴾

ထို့ပြင် မည်သူမဆို *အလ္လာဟ်*အရှင်မြတ်ချမှတ်တော်မူသည့်အတိုင်း စီရင်ဆုံးဖြတ်ခြင်းမပြုခဲ့လျှင် ထိုသူများပင် *ကာဖိရ်* ငြင်းပယ်သူများ ဖြစ်ကြသည်။[၃]

မတ်စ်အလဟ် – (၁၆) အလ္လာဟ်အရှင်မြတ် ချပေးထားတော်မူသောတရားဥပဒေများကို ပြည့်ဝသည်၊ လိုက်နာကျင့်သုံးရသည်ဟူ၍ကား ယုံကြည်သည်။ သို့သော် လက်တွေ့ကျင့်သုံးရာတွင်မူ ထိုတရားဥပဒေများကို စွန့်လွှတ်ပြီး အခြားသောဥပဒေများနှင့်အညီ စီရင်ဆုံးဖြတ်ခြင်းသည်လည်း ကြီးလေးသောအပြစ် ဖြစ်သည်။

وَمَنْ لَّمْ يَحْكُمْ بِمَآ اَنْزَلَ اللّٰهُ فَاُولٰٓئِكَ هُمُ الْكٰفِرُوْنَ ﴿٤٤﴾

ထို့ပြင် မည်သူမဆို အလ္လာဟ်အရှင်မြတ်ချမှတ်တော်မူသည့်အတိုင်း စီရင်ဆုံးဖြတ်ခြင်းမပြုခဲ့လျှင် ထိုသူများပင် ကာဖိရ်ငြင်းပယ်သူများ ဖြစ်ကြသည်။[၄]

وَمَنْ لَّمْ يَحْكُمْ بِمَآ اَنْزَلَ اللّٰهُ فَاُولٰٓئِكَ هُمُ الْفٰسِقُوْنَ ﴿٤٧﴾

ထို့ပြင် မည်သူမဆို *အလ္လာဟ်* အရှင်မြတ် ချမှတ်တော်မူသည့်အတိုင်း စီရင်ဆုံးဖြတ်ခြင်းမပြုခဲ့လျှင် ထိုသူများသည် *ဖာစိက်* စည်းကမ်းဖောက်ဖျက်သူများပင် ဖြစ်ကြသည်။[၅]

  

---

၃ – ကုရ်အာန် (၅း၄၄)

၄ – ကုရ်အာန် (၅း၄၄)

၅ – ကုရ်အာန် (၅း၄၇)

## (၆) သာသနာကို လှောင်ပြောင်ခြင်း

မတ်စ်အလဟ် - (၁၇) သာသနာ့အမိန့်တော်များကိုလှောင်ပြောင်ခြင်းသည် ကြီးလေးသောပြစ်မှုထိုက်ပြီး အစ္စလာမ့်ဘောင်တွင်းမှ အပြင်သို့ရောက်သွားစေသည်။

قُلْ أَبِاللَّهِ وَآيَاتِهِ وَرَسُولِهِ كُنتُمْ تَسْتَهْزِئُونَ ﴿٦٥﴾ لَا تَعْتَذِرُوا قَدْ كَفَرْتُم بَعْدَ إِيمَانِكُمْ

(အို - တမန်တော်) အသင်ပြောကြားပါလေ - "အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့် အရှင်မြတ်၏ *အာယသ်*တော်များအပြင် အရှင်မြတ်၏ တမန်တော်ကို ပြက်ရယ်ပြောင်လှောင်နေကြသလော။ အသင်တို့သည် အကြောင်းမပြကြလေနှင့်။ အမှန်စင်စစ် အသင်တို့သည် အသင်တို့ *အီမာန်*ယုံကြည်(သည်ကို ထုတ်ဖော်ပြောဆို)ပြီးနောက် သွေဖည်ငြင်းပယ်ခဲ့ကြသည်။[၁]

မတ်စ်အလဟ် - (၁၈) ရှရီအသ်တရားတော်၏ အမိန့်ပညတ်ချက်များကို လှောင်ပြောင်သောသူသည် ဂျဟန္နမ်ငရဲဘုံတွင် အမြဲထာဝရနေရပေလိမ့်မည်။

وَقِيلَ الْيَوْمَ نَنسَاكُمْ كَمَا نَسِيتُمْ لِقَاءَ يَوْمِكُمْ هَٰذَا وَمَأْوَاكُمُ النَّارُ وَمَا لَكُم مِّن نَّاصِرِينَ ﴿٣٤﴾ ذَٰلِكُم بِأَنَّكُمُ اتَّخَذْتُمْ آيَاتِ اللَّهِ هُزُوًا وَغَرَّتْكُمُ الْحَيَاةُ الدُّنْيَا ۚ فَالْيَوْمَ لَا يُخْرَجُونَ مِنْهَا وَلَا هُمْ يُسْتَعْتَبُونَ ﴿٣٥﴾

ထို့ပြင် (သူတို့သည် ဤသို့) ပြောဆိုခြင်းခံကြရမည်။ အသင်တို့သည် အသင်တို့၏ ဤနေ့၏တွေ့ဆုံမှုကို မေ့လျော့ခဲ့ကြသကဲ့သို့ ငါအရှင်မြတ်သည်လည်း ယနေ့ အသင်တို့အား မေ့လျော့တော်မူမည်။ ထို့ပြင် အသင်တို့၏ ခိုလှုံရာဌာနသည် ငရဲမီးပင် ဖြစ်သည်။ ထို့ပြင် အသင်တို့တွင်

---

၁ - ကုရ်အာန် (၉း၆၅ - ၆၆)

ကူညီမည့်သူလည်း မည်သူမျှ မရှိတော့ပေ။ ထိုအရာသည် အသင်တို့က *အလ္လာဟ်* အရှင်မြတ်၏ *အာယသ်*တော်များကို ပြောင်လှောင်စရာအဖြစ် ပြုလုပ်ခဲ့ကြသည့်အတွက်နှင့် လောကီဘဝက အသင်တို့အား လှည့်စားခဲ့သည့်အတွက်ကြောင့်ဖြစ်သည်။ ထို့ပြင် ယနေ့မှ သူတို့သည် ထိုငရဲမီးမှ ထွက်စေခြင်းခံကြရမည် မဟုတ်တော့ပေ။(အရှင် မြတ်ကို )ကျေနပ်အောင် ခွင့်လွှတ်တောင်းပန်မှုလုပ်ရန် တောင်းဆိုခြင်းကိုလည်း ခံကြရမည်မဟုတ်ပေ။[၁]



## (၇) မွတ်စ်လင်မ်များနှင့်ဆန့်ကျင်ရန် ကာဖိရ်များကို ကူညီခြင်း

မတ်စ်အလဟ် – (၁၉) မွတ်စ်လင်မ်များနှင့်ဆန့်ကျင်ပြီး ကာဖိရ်များကို အကူအညီပေးခြင်းသည် ကြီးလေးသောပြစ်မှုဖြစ်သည်။ ဤအမှုကို ကျူးလွန်သူသည် အစ္စလာမ်သာသနာ၏ပြင်ပသို့ ရောက်သွားပေသည်။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ لَا تَتَّخِذُوا۟ ٱلْيَهُودَ وَٱلنَّصَٰرَىٰٓ أَوْلِيَآءَ ۘ بَعْضُهُمْ أَوْلِيَآءُ بَعْضٍ ۚ وَمَن يَتَوَلَّهُم مِّنكُمْ فَإِنَّهُۥ مِنْهُمْ ۗ إِنَّ ٱللَّهَ لَا يَهْدِى ٱلْقَوْمَ ٱلظَّٰلِمِينَ ﴿٥١﴾

"အို – *အီမာန်*ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် *ယဟူဒီ*များနှင့် *နတ်စ္စ်ရာနီ*များကို မိတ်ဆွေအပေါင်းအသင်းများအဖြစ်မပြုလုပ်ကြနှင့်။ သူတို့သည်(အသင်တို့ကို ဆန့်ကျင်ရာတွင်) အချင်းချင်းကူညီရိုင်းပင်းကြသော အဆွေခင်ပွန်းများပင်ဖြစ်ကြသည်။ ၎င်းပြင် အသင်တို့ထဲမှ မည်သူမဆို သူတို့အား မိတ်ဆွေအပေါင်းအသင်း ပြုလုပ်လျှင် ထိုသူသည် အမှန်ပင် သူတို့ထဲမှဖြစ်သည်။ အမှန်စင်စစ် *အလ္လာဟ်*အရှင်မြတ်သည် မတရား

---

၁ – ကုရ်အာန် (၄၅း ၃၄ – ၃၅)

ကျူးလွန်သောသူများကို လမ်းမှန်ညွှန်ကြားပြသတော်မူမည်မဟုတ်ပေ။[၁]

  

## (၈) တမန်တော်မြတ် ﷺ ကို စော်ကားဆဲဆိုခြင်း

**မတ်စ်အလဟ် – (၂၀) တမန်တော်မြတ် ﷺ ကို စော်ကားခြင်း၊ ဆဲဆိုခြင်း သည်ကြီးလေးသောပြစ်မှုဖြစ်သည်။ ကျူးလွန်သူသည်အစ္စလာမ်သာသနာ၏ပြင်ပသို့ ရောက်သွားပေသည်။**

အဗူဗရ်ဇဟ် ؓ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ သူက ပြောပြသည်။ ကျွန်ုပ်သည် အဗူဗက်ရ် ؓ ထံတွင် ရှိနေခဲ့သည်။ သူသည် လူ တစ်ဦးအပေါ် ပြင်းပြင်းထန်ထန်အမျက်ဒေါသထွက်နေခဲ့သည်။ ကျွန်ုပ်က ပြောသည်။ အို – တမန်တော်မြတ် ﷺ ၏ ခလီဖဟ်ကြီး၊ အသင် ခွင့်ပြုပါက ကျွန်ုပ်သည် ထိုသူအား ကွပ်မျက်လိုက်ပါမည်။ ကျွန်ုပ်၏ ထို စကားကိုကြားပြီး အဗူဗက်ရ် ؓ သည် ဒေါသပြေပျောက်သွားလေသည်။ ထို့နောက် ထရပ်လိုက်ပြီး အထဲသို့ ဝင်သွားခဲ့သည်။ ထို့နောက် ကျွန်ုပ်အား ခေါ်ခိုင်းပြီး ဤသို့ မေးသည်။ အခုနက အသင် ဘာပြောလိုက်သနည်း။ ကျွန်ုပ်က "အို – တမန်တော်မြတ် ﷺ ၏ ခလီဖဟ်ကြီး၊ အသင် ခွင့်ပြုပါက ကျွန်ုပ်သည် ထိုသူအား ကွပ်မျက်လိုက်ပါမည်။" ဟုပြောသည်။ ထိုအခါ အဗူဗက်ရ် ؓ က မိန့်သည်။ ကျွန်ုပ်ခွင့်ပြုလျှင် အသင်သည် ထိုသူအား အမှန်တကယ် ကွပ်မျက်မည်လော။ ကျွန်ုပ်ကဟုတ်ကဲ့ဟု လျှောက်တင်သည်။ ထိုအခါ သူက အမိန့်ရှိသည်။ "အလ္လာဟ် အရှင်မြတ်၏ ကစမ်၊ တမန်တော်မြတ် ﷺ အား စော်ကားဆဲဆိုခြင်းကြောင့် သေဒဏ်ပေးခြင်းကို မုဟမ္မဒ် ﷺ ၏နောက်တွင် မည်သူမျှ လုပ်ပိုင်ခွင့်မရှိတော့ပေ။[၂]

  

---

၁ – ကုရ်အာန် (၅း၅၁)

၂ – အဗူဒါဝူဒ်ကျမ်း၊ နံပါတ် – ၄၃၆၃

## (၉) စွဟာဗဟ် ﷺ တို့အား စော်ကားဆဲဆိုခြင်း

**မတ်စ်အလဟ် - (၂၁) စွဟာဗဟ် ﷺ တို့အား စော်ကားပြောဆိုသူ၊ ဆဲဆိုသူအပေါ်သို့ အလ္လာဟ်အရှင်မြတ်၊ ကောင်းကင်တမန်များနှင့် မုအ်မင်န်ယုံကြည်သူအားလုံး၏ လအ်နသ်ကျိန်ဆဲမှု ကျရောက်ပေသည်။**

အနတ်စ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "မည်သူမဆို ငါကိုယ်တော်၏ စွဟာဗဟ်သာဝကများကို ဆဲရေးတိုင်းထွာပါက ထိုသူ့အပေါ် အလ္လာဟ်အရှင်မြတ်၊ ကောင်းကင်တမန်များနှင့် လူသားအားလုံး၏ လအ်နသ်ကျိန်ဆဲမှု ကျရောက်ပေလိမ့်မည်။ အလ္လာဟ်အရှင်မြတ်သည် ထိုသူပြုလုပ်သော ဖရဇ်နှင့်နဖိလ်မည်သည့်အိဗာဒသ်ကိုမျှ လက်ခံတော်မူမည်မဟုတ်ပေ။"[၁]

  

## (၁၀) တမန်တော်မြတ် ﷺ ၏ အမည်ဖြင့် မဟုတ်မမှန် လုပ်ကြံပြောဆိုခြင်း

**မတ်စ်အလဟ် - (၂၂) တမန်တော်မြတ် ﷺ ၏ အမည်ကိုကိုင်၍ တမန်တော်မြတ် ﷺ မပြောခဲ့သောစကားကို လိမ်လည်လုပ်ကြံပြောဆိုသူသည် ဂျဟန္နမ်ငရဲဘုံသို့ ကျရောက်ပေမည်။**

အဗူဟုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "အကြင်မည်သူမဆို ငါကိုယ်တော့်အပေါ် တမင် လိမ်လည်လုပ်ကြံပြောဆိုပါက မိမိ၏နေရာထိုင်ခင်းကို ငရဲဘုံတွင် ပြုလုပ် ထားလိုက်ပါ။"[၂]

  

---

၁ - စိလ်စိလာသုလ် အဟာဒီစွစ် စွဟီဟဟ်ကျမ်း၊ နံပါတ် ၂၃၄၀။

၂ - မွတ်စ်လင်မ်ကျမ်း၊ နံပါတ် - ၃

## (၁၁) မိမိ၏ အယူအဆကိုရှေ့တန်းတင်ပြီး ဟဒီးဆ်ကို စွန့်လွှတ်လိုက်ခြင်း

မတ်စ်အလဟ် – (၂၃) စစ်မှန်ခိုင်လုံတိကျသောဟဒီးဆ်တော်ကို သိပါလျက်နှင့် အိမာမ်တစ်ပါးပါး၊ သို့မဟုတ် မုဂ်ျသဟိဒ်တစ်ပါးပါး၊ သို့မဟုတ် ဆရာသခင်တစ်ပါးပါး၏ အယူအဆကို ရှေ့တန်းတင်ခြင်းသည် ကြီးလေးသောပြစ်မှုဖြစ်သည်။

يَاَيُّهَا الَّذِيْنَ اٰمَنُوْا لَا تُقَدِّمُوْا بَيْنَ يَدَيِ اللّٰهِ وَ رَسُوْلِهٖ وَ اتَّقُوا اللّٰهَ ؕ اِنَّ اللّٰهَ سَمِيْعٌ عَلِيْمٌ ﴿۱﴾ يَاَيُّهَا الَّذِيْنَ اٰمَنُوْا لَا تَرْفَعُوْٓا اَصْوَاتَكُمْ فَوْقَ صَوْتِ النَّبِيِّ وَ لَا تَجْهَرُوْا لَهٗ بِالْقَوْلِ كَجَهْرِ بَعْضِكُمْ لِبَعْضٍ اَنْ تَحْبَطَ اَعْمَالُكُمْ وَ اَنْتُمْ لَا تَشْعُرُوْنَ ﴿۲﴾

အို – *အီမာန်* ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် *အလ္လာဟ်* အရှင်မြတ်၏ရှေ့နှင့် တမန်တော်မြတ်၏ရှေ့သို့ ကျော်မတက်ကြနှင့်။ ထို့ပြင် အသင်တို့သည် *အလ္လာဟ်* အရှင်မြတ်အား ကြောက်ရွံ့ကြပါ။ အမှန် စင်စစ် *အလ္လာဟ်* အရှင်မြတ်သည် အကြွင်းမဲ့ကြားတော်မူသောအရှင်၊ အကြွင်းမဲ့ သိတော်မူသောအရှင်ဖြစ်တော်မူသည်။ အို – *အီမာန်* ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် အသင်တို့၏ အသံများကို တမန်တော်၏အသံ ထက် မြှင့်မပြောကြနှင့်။ ထို့ပြင် အသင်တို့သည် အသင်တို့အချင်းချင်း တစ်ဦးကို တစ်ဦး ကျယ်လောင်စွာ ဟစ်အော်ခေါ်ပြောသကဲ့သို့ တမန်တော်နှင့် ပြောဆိုရာတွင် ဟစ်အော်မပြောကြနှင့်။ ထိုသို့ပြောခဲ့လျှင် အသင်တို့ပင် မသိလိုက်ကြရဘဲလျက် အသင်တို့၏ လုပ်ရပ်များသည် အလဟဿ အကျိုးမဲ့ ဖြစ်သွားမည်။[၁]

တစ်ခါက ပုဂ္ဂိုလ်တစ်ဦးသည် အိမာမ်မာလိက် رحمه الله ထံလာ၍ မတ်စ်အလဟ် မေးမြန်းခဲ့သည်။ ထိုအခါ အိမာမ်မာလိက် رحمه الله က ဤကိစ္စနှင့်ပတ်

---

၁ – ကုရ်အာန် (၄၉း၁ – ၂)

သက်ပြီး "တမန်တော်က ဤသို့ အမိန့်ရှိသည်" ဟုဆိုကာ ဟဒီးဆ်ကို တင်ပြသည်။ ထိုသူက "ဤကိစ္စနှင့် ပတ်သက်ပြီး အသင်ရော မည်သို့ယူဆပါသနည်း"ဟု မေးမြန်းလေသည်။ ထိုအခါ အိမာမ်မာလိက် ﷺ က အာယသ်တော်တစ်ပိုဒ်ကို ဖတ်ကြားတော်မူလေသည်။

فَلْيَحْذَرِ الَّذِيْنَ يُخَالِفُوْنَ عَنْ اَمْرِهٖٓ اَنْ تُصِيْبَهُمْ فِتْنَةٌ اَوْ يُصِيْبَهُمْ عَذَابٌ اَلِيْمٌ ﴿٦٣﴾

သို့ဖြစ်ရာ တမန်တော်မြတ်၏ အမိန့်ကို ရှောင်တိမ်းသူများသည် သူတို့အပေါ် ဒုက္ခ တစ်စုံတစ်ခု ကျရောက်မည် သို့မဟုတ် သူတို့အပေါ် နာကျင်စေသော ပြစ်ဒဏ်တစ်စုံတစ်ခု ကျရောက်မည်ကို စိုးရိမ်နေကြရမည်ဖြစ်သည်။ [၁]

  

## (၁၂) ဗိဒ်အသ်ခေါ် တရားသစ်တီထွင်မှုများကို လိုက်နာကျင့်သုံးခြင်း

မတ်စ်အလဟ် - (၂၄) ဗိဒ်အသ်တရားသစ်တီထွင်သူအပေါ်သို့ အလ္လာဟ်အရှင်မြတ်၊ ကောင်းကင်တမန်များနှင့် မုအ်မင်န်အားလုံးတို့၏ လအ်နသ်ကျရောက်ပေသည်။

အနတ်စ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "မည်သူမဆို မဒီနာဟ်မြို့ ၌ တရားသစ်တီထွင်ပြသခဲ့ပါက ထိုသူ့အပေါ် အလ္လာဟ်အရှင်မြတ်၊ ကောင်းကင်တမန်များနှင့် လူသားအားလုံး၏ လအ်နသ်ကျိန်ဆဲမှု ကျရောက်ပေလိမ့်မည်။ အလ္လာဟ်အရှင်မြတ်သည် ထိုသူပြုလုပ်သော ဖရ်ဇ်နှင့်နဖိလ် မည်သည့်အိဗာဒသ်ကို

---

၁ - ရှရ်ဟုစ်စွန္နဟ်ကျမ်း၊ တွဲ - ၁၊ စာ ၂၁၆။

မျှ လက်ခံတော်မူမည်မဟုတ်ပေ။[၁]

**မတ်စ်အလဟ် – (၂၅) ဗိဒ်အသ်လုပ်သူ၏ သောင်ဗဟ်အမှားဝန်ချတောင်းပန်မှုသည် ထိုဗိဒ်အသ်အမှုအားထိုသူမစွန့်လွှတ်မချင်းလက်ခံခြင်းမခံရပေ။**

အနတ်စ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် ဗိဒ်အသ်ပြုလုပ်သူ၏ သောင်ဗဟ်အမှားဝန်ချတောင်းပန်မှုကို လက်ခံတော်မမူပေ။ ဗိဒ်အသ်အမှုကို ထိုသူ မစွန့်လွှတ်မချင်း ဖြစ်သည်။[၂]



## (၁၃) အလ္လာဟ်အရှင်မြတ်မှအပ အခြားအရာကို တိုင်တည်ပြီး ကျိန်ဆိုခြင်း

**မတ်စ်အလဟ် – (၂၆) အလ္လာဟ်အရှင်မြတ်မှအပ အခြားသောအရာ (ဥပမာ၊ ကျမ်းမြတ်ကုရ်အာန်၊ ကအ်ဗဟ်ကျောင်းတော်၊ တမန်တော်မြတ် ﷺ၊ မိဘနှစ်ပါး၊ သားသမီး၊ ဇနီးမယား)စသူတို့အား တိုင်တည်ပြီး ကျိန်ဆိုခြင်းသည် ကြီးလေးသောပြစ်မှုဖြစ်သည်။**

အိဗ်နအုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မည်သူမဆို အလ္လာဟ်အရှင်မြတ်မှအပအခြားအရာဖြင့် ကျိန်ဆိုမှုပြုလျှင် ထိုသူသည် ကုဖရ်သွေဖည်မှုကို ကျူး လွန်လိုက်ခြင်း၊ သို့မဟုတ် ရှိရ်က်အမှုကို ကျူးလွန်လိုက်ခြင်းမည်၏။[၃]

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၃၇၀။

၂ – သွဗ်ရာနီကျမ်း၊ နံပါတ် – ၄၂၀၂။

၃ – သိရ်မိဇီကျမ်း၊ နံပါတ် – ၁၅၃၅။

**မတ်စ်အလဟ် – (၂၇) အလ္လာဟ်အရှင်မြတ်မှအပ အခြားအရာဖြင့် ကျိန်ဆိုမှုပြုမိသူသည် မိမိ၏ အီမာန်ယုံကြည်ချက်ကို အသစ်ပြန်လုပ်သင့်သည်။**

အဗူဟုရိုင်ရဟ် ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် မိန့်ကြားတော်မူသည်။ "အသင်တို့အနက်မှ မည်သူမဆို ကျိန်ဆိုသောအခါ "လားသ်ဟူသောရုပ်တု၏ကစမ်"ဟု ပြောမိပါက ကလီမာဟ် လာအိလာဟ အိလတ်လ္လာဟ်ကို ပြန်လည်ဖတ်ရွတ်လိုက်ပါ။ မည်သူမဆို မိမိ၏ မိတ်ဆွေအား "လာပါ၊ ဖဲကစားရအောင်"ဟု ပြောဆိုလိုက်ပါက (မိမိ တတ်စွမ်းသည်နှင့်အညီ) စွဒကဟ်ပေးရမည်။"[၁]

  

## (၁၄) သက္ကဒီးရ် သတ်မှတ်ချက်ကို ငြင်းပယ်ခြင်း

**မတ်စ်အလဟ် – (၂၈) သက္ကဒီးရ်သတ်မှတ်ချက်ကို ငြင်းပယ်သောသူ၏ ဖရဇ် အိဗာဒသ်များ၊ နဖိလ်အိဗာဒသ်များ လက်ခံခြင်းမခံရပေ။**

အဗူအိုမာမဟ် ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် မိန့်ကြားတော်မူသည်။ သုံးဦးသောသူ၏ ဖရဇ်အိဗာဒသ်ဖြစ်စေ၊ နဖိလ် အိဗာဒသ်ဖြစ်စေ အလ္လာဟ်အရှင်မြတ် လက်ခံတော်မမူပေ။ (၁) မိဘစကား နားမထောင်သူ၊ (၂) ကျေးဇူးပြုပြီး ဂုဏ်ဖော်သူ၊ (၃) သက္ကဒီးရ် သတ်မှတ် ချက်ကို ငြင်းပယ်သူတို့ ဖြစ်ကြသည်။[၂]

  

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၆၄၇။

၂ – ကိသာဗုစ်စွန္နဟ်ကျမ်း၊ နံပါတ် ၃၂၃။

## (၁၅) စုန်းပယောဂအတတ်

မတ်စ်အလဟ် - (၂၉) ရှိုင်သွာန်များကို အိဗာဒသ် ခဝပ်မှုပြုရသည့် စုန်းပယောဂအတတ်အမျိုးအစားသည် ကုဖရ်ဖြစ်သည်။ ထိုသို့သော စုန်းပယောဂအတတ်ကို သင်ယူခြင်း၊ သင်ပေးခြင်း၊ ပြုလုပ်ခြင်း၊ ပြုလုပ်ခိုင်းခြင်း စသည့်အမှုတိုင်းသည် အစ္စလာမ်သာသနာ၏ပြင်ပသို့ ရောက်စေသည်။

وَمَا كَفَرَ سُلَيْمَٰنُ وَلَٰكِنَّ ٱلشَّيَٰطِينَ كَفَرُوا۟ يُعَلِّمُونَ ٱلنَّاسَ ٱلسِّحْرَ وَمَآ
أُنزِلَ عَلَى ٱلْمَلَكَيْنِ بِبَابِلَ هَٰرُوتَ وَمَٰرُوتَ ۚ وَمَا يُعَلِّمَانِ مِنْ أَحَدٍ حَتَّىٰ
يَقُولَآ إِنَّمَا نَحْنُ فِتْنَةٌ فَلَا تَكْفُرْ ۖ

အမှန်စင်စစ် (တမန်တော်) *စုလိုင်မာန်*သည် မည်သည့်*ကုဖ်ရ်*ငြင်းပယ်မှုကိုမျှ မပြုခဲ့ပေ။ သို့ရာတွင် ထို *ရှိုင်သွာန်*များသည်ပင် လူများအား စုန်းပယောဂသင်ပေးပြီး *ကုဖ်ရ်* ငြင်းပယ်မှုကို ပြုခဲ့ကြသည်။ ထို့ပြင် (ထို *ယဟူဒီ* များသည်) ဗာဗိလုံ မြို့မှ ကောင်းကင်တမန်နှစ်ပါး *ဟာရူသ်*နှင့် *မာရူသ်* တို့အပေါ်တွင် ကျရောက်ခဲ့သည့် စုန်းပယောဂနောက်သို့လည်း လိုက်စားခဲ့ကြသည်။ ထိုကောင်းကင်တမန်နှစ်ပါးက "ကျွန်ုပ်တို့သည် စမ်းသပ်မှုအတွက်(ရောက်လာခြင်း)ဖြစ်သည်၊ ထို့ကြောင့် အသင်တို့သည် စုန်းပယောဂ(မှော်အတတ်ပညာ)နောက်လိုက်ပြီး *ကုဖ်ရ်*ငြင်းပယ်မှု မပြုကြနှင့်" ဟု မပြောသမျှ မည်သူ့ကိုမှ ထို(စုန်းပယောဂအတတ်များကို)သင်မပေးကြပေ။[၁]

ရှင်းလင်းချက်။ တချို့သော စုန်းပယောဂပညာများတွင် အလ္လာဟ်အရှင်မြတ်မှအပ အခြားသောအရာများ၏ အမည်နာမကိုကိုင်ပြီး သားကောင်ကို ဇဗဟ်လုပ်ရသည်။ အခြားအရာများ၏ အမည်ဖြင့် စွဒကဟ်အလှူဒါနပြုရသည်။ နဇရ်ကိုးခြင်းများ ပြုလုပ်ရသည်။ သို့မဟုတ် အခြားသောအရာများ၏ အမည်နာမဖြင့် ပွဲတော်တင်ရသည်။ ထိုလုပ်ရပ်များအား

---

၁ - ကုရ်အာန် ၂း၁၀၂။

လုံးသည် အိဗာဒသ်အမျိုးအစားများတွင် အကျုံးဝင်သောကြောင့် ထိုအမှုများကို ပြုလုပ်သူသည် အစ္စလာမ်သာသနာ၏ပြင်ပသို့ ရောက်သွားပေသည်။

**မတ်စ်အလဟ် – (၃၀) ရှိုင်သွာန်များကို ခဝပ်ကိုးကွယ်မှုမပြုလုပ်ရသော စုန်းပယောဂအတတ်ပညာ အမျိုးအစားမှာမူ ကြီးလေးသောအပြစ် ဖြစ်သည်။ ထိုသို့သော အမျိုးအစားကို သင်ယူခြင်း၊ သင်ပေးခြင်း၊ ပြုလုပ်ခြင်း၊ ပြုလုပ်ခိုင်းခြင်းများသည် ဟရာမ်ဖြစ်သည်။**

အဗူဟုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺအမိန့်ရှိသည်။ ပျက်စီးစေသောပြစ်မှု(၇)ခုမှ ရှောင်ကြဉ်ကြကုန်။ ထိုအရာ(၇)ခုမှာ အဘယ်အရာများနည်းဟု မေးမြန်းရာ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ (၁) ရှိရ်က်တုဖက်ကိုးကွယ်ခြင်း၊ (၂) စုန်းပယောဂ၊ (၃) မတရားသောနည်းဖြင့် သူတစ်ပါးအသက်ကို သတ်ဖြတ်ခြင်း၊ ဖတဆိုးကလေး၏ဥပစ္စာပစ္စည်းကိုမတရားစားသုံးခြင်း၊ (၄) အတိုးစားခြင်း၊ (၅) တိုက်ပွဲနေ့တွင် ရှေ့တန်းမှ နောက်လှည့်ပြေးခြင်း၊ (၆) ရိုးသားသော ဂုဏ်သရည်ရှိ မုအ်မင်န်အမျိုးသမီးများကို စွပ်စွဲပြောဆိုခြင်းတို့ ဖြစ်သည်။[၁]

ရှင်းလင်းချက်။ အထက်ဖော်ပြပါ စုန်းပယောဂအမျိုးအစားတွင် ရှိုင်သွာန်များကို ခဝပ်ကိုးကွယ်မှုမပြုရသော်လည်း ၎င်းတို့ထံမှ အကူအညီများ ရယူရပေသည်။ ထို့ကြောင့် ကြီးလေးသောအပြစ်ထိုက်ပေသည်။

**မတ်စ်အလဟ် – (၃၁) စုန်းပယောဂလုပ်သူကို သတ်ထိုက်ပေသည်။**

ဗဂျာလဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ အုမရ် ﷺသည် ကျွန်ုပ်တို့ထံသို့ စာရေးပြီး အမိန့်ရှိသည်။ စုန်းပယောဂပြုလုပ်သူအမျိုးသားဖြစ်စေ၊ အမျိုးသမီးဖြစ်စေ သတ်ပစ်ကြကုန်။[၂]

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၈၉။

၂ – (ဖသ်ဟုလ်ဗာရီကျမ်း၊ တွဲ – ၁၀၊ စာ ၂၃၆)

**မတ်စ်အလဟ် – (၃၂) စုန်းပယောဂအတတ်ဖြင့် စုန်းပယောဂကို ဆေးကုသခြင်းသည်လည်း အပြစ်အကုသိုလ်ဖြစ်သည်။**

ဂျာဗိရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ အား စုန်းပယောဂထိခြင်းကို စုန်းပယောဂအတတ်ဖြင့် ကုသခြင်းနှင့်စပ်လျဉ်းပြီး မေးမြန်းလျှောက်ထားခဲ့ရာ ကိုယ်တော်မြတ် ﷺ က မိန့်ကြားတော်မူခဲ့သည်။ ဤသည် ရှိုင်သွာန်၏ လုပ်ရပ်တစ်ခုပင် ဖြစ်သည်။[၁]



## (၁၆) ကြယ်တာရာဖြင့် ကံကြမ္မာကို ယုံကြည်ခြင်း

**မတ်စ်အလဟ် – (၃၃) မိမိ၏ ကံကြမ္မာနှင့် မိမိ၏ ဘဝအခြေအနေများကို ကြယ်တာရာများဖြင့် တွက်ချက်ခြင်းသည် ကုဖရ်ဖြစ်သည်။**

ဇိုင်ဒ်ဗင်န်ခါလိဒ် ဂျိုဟာနီ ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺအမိန့်ရှိသည်။ အသင်တို့၏ အရှင်မြတ်သည် အသင်တို့အား အဘယ်သို့အမိန့်ရှိသည်ကို အသင်တို့ သိကြပါသလား။ စွဟာဗဟ်များက အလ္လာဟ်နှင့် အလ္လာ့ဟ်တမန်တော်သာ အသိဆုံးဖြစ်ပါသည်ဟု လျှောက်ထားကြသည်။ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ အလ္လာဟ်အရှင်မြတ်က မိန့်တော်မူသည်။ ငါအရှင်မြတ်၏ ကျေးကျွန်များအနက်တချို့သည် မုအ်မင်န်အဖြစ်နှင့် မိုးလင်းလာကြပြီး တချို့သည် ကာဖိရ်အဖြစ်နှင့် မိုးလင်းလာကြသည်။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်၊ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်တို့ကြောင့် မိုးရွာသွန်းခဲ့သည်ဟု ပြောဆိုသူသည် ငါအရှင်မြတ်အား ယုံကြည်သူဖြစ်ပြီး ကြယ်တာရာများကို ငြင်းပယ်သူဖြစ်သည်။ အဘယ် အဘယ် ကြယ်တာရာကြောင့် မိုးရွာသွန်းခဲ့သည်ဟု ပြောဆိုသူမှာ ငါအရှင်မြတ်ကိုငြင်းပယ်သူဖြစ်ပြီး ကြယ်တာရာများ

---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၃၈၆၈။

ကို ယုံကြည်သူဖြစ်သည်။[၁]

  

## (၁၇) နက္ခတ်ဗေဒင်ဆရာကို ယုံကြည်ထောက်ခံခြင်း

**မတ်စ်အလဟ် – (၃၄) နက္ခတ်ဗေဒင်ဆရာ၏ ပြောစကားများကို ယုံကြည် ထောက်ခံသူ၏ ရက်ပေါင်း(၄၀) စွလာသ်များ လက်ခံခြင်းမခံရပေ။**

စွဖီယဟ် رضي الله عنها သည် တမန်တော်မြတ် ﷺ ၏ ဇနီးကြင်ယာတစ်ပါး ထံမှ ဆင့်ပြန်သည်။ တမန်တော်မြတ် ﷺ အမိန့်ရှိသည်။ အကြင်မည်သူ မဆို နက္ခတ်ဗေဒင်ဆရာထံသွား၍ တစ်စုံတရာကို မေးမြန်းခဲ့ပါက ထိုသူပြု လုပ်သော ရက်ပေါင်း(၄၀)၏ စွလားသ်များသည် လက်ခံခြင်းမခံရပေ။[၂]

**မတ်စ်အလဟ် – (၃၅) နက္ခတ်ဗေဒင်ပညာကို သင်ယူခြင်းသည် ကြီးလေး သောအပြစ်အကုသိုလ် ဖြစ်သည်။**

အိဗ်နအဗ်ဗားစ် رضي الله عنه ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ အမိန့်ရှိသည်။ နက္ခတ်ဗေဒင်ပညာသင်ယူသူသည် စုန်းပယောဂအတတ် ပညာမှ အစိတ်အပိုင်းတစ်ခုကို သင်ယူလိုက်ခြင်းသာ ဖြစ်သည်။ ထို့ကြောင့် ကြိုက်သလောက်သင်ယူလော့။[၃]

  

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၇၁။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၂၃၀။

၃ – (အိဗ်နမာဂျဟ်ကျမ်း၊ တွဲ ၂၊ နံပါတ် ၃၀၀၂)

## (၁၈) သအ်ဝီးဇ် ချိတ်ဆွဲခြင်း

မတ်စ်အလဟ်(၃၆) ရောဂါများမှ ပျောက်ကင်းမှုရရန်၊ သို့မဟုတ် မကောင်းသောအရှုမှ ကာကွယ်မှုရရန်၊ သို့မဟုတ် သေခြင်းတရားမှ ကာကွယ်မှုရရန်အတွက် လက်တွင် ကွင်းဝတ်ခြင်း၊ ချည်ကြိုးဝတ်ခြင်း၊ သို့မဟုတ် လည်ပင်းတွင် သအ်ဝီးဇ်ဝတ်ခြင်း၊ သို့မဟုတ် လက်မောင်းတွင် လက်ပတ်စည်းထားခြင်း၊ သို့မဟုတ် ကားအန္တရာယ်ကင်းရန်အတွက် အနက်ရောင် အဝတ်စချည်နှောင်ထားခြင်း၊ မြင်းအန္တရယ်ကင်းရန်အတွက် ဖိနပ်တွင် ချည်နှောင်ထားခြင်းစသည်တို့သည် ကြီးလေးသောပြစ်မှုများ ဖြစ်သည်။

အုကဗ်ဗင်န် အာမိရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺထံသို့ လူတစ်စုရောက်လာခဲ့သည်။ ကိုယ်တော်မြတ် ﷺသည် လူကိုးဦးအား ဗိုင်အသ်ပြုလုပ်ပေးတော်မူပြီး တစ်ဦးကိုမူ ဗိုင်အသ်လုပ်ပေးခြင်းမှ လက်ကို ရုပ်တော်မူလိုက်လေသည်။ ထိုအခါ စွဟာဗဟ် ﷺတို့က လျှောက်ထားမေးမြန်းကြသည်။ အို–တမန်တော်၊ ကိုယ်တော်မြတ်သည် လူကိုးဦးအား ဗိုင်အသ်လုပ်တော်မူပြီး ကျန်တစ်ဦးတည်းအားအဘယ်ကြောင့် ဗိုင်အသ်လုပ်တော်မမူပါသနည်း။ ထိုအခါ ကိုယ်တော်မြတ် ﷺက "သူသည် သအ်ဝီးဇ်ဆွဲထားသည်။" ဟုမိန့်တော်မူပြီး မိမိ၏လက်တော်ဖြင့် ထိုသအ်ဝီးဇ်အား ဖြတ်တောက်ပစ်လိုက်လေသည်။ ပြီးနောက် ထိုသူအား ဗိုင်အသ်ပြုတော်မူခဲ့သည်။ ပြီးနောက် မိန့်တော်မူခဲ့သည်။ "အကြင်မည်သူမဆို သအ်ဝီးဇ်ချိတ်ဆွဲပါက ရှိရ်က်အမှုကို ကျူးလွန်လိုက်ခြင်းဖြစ်သည်။"[၁]



---

၁ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ ၆၉၆၉။

## (၁၉) အော်ဟစ်ကာ ငိုချင်းချခြင်း

**မတ်စ်အလဟ် – (၃၇) ကွယ်လွန်သေဆုံးသူအတွက် အော်ဟစ်ငိုကြွေးသော၊ ငိုချင်းချသောအမျိုးသမီးများပေါ် အလ္လာဟ်အရှင်မြတ်က လအ်နသ်ပို့တော်မူသည်။**

အဗူအိုမာမဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် မျက်နှာကို ကုတ်ခြစ်သူ၊ အင်္ကျီလည်ပင်း ဆွဲဖြဲသူ၊ အော်ဟစ်ကျိန်စာတိုက်သူများကို လအ်နသ်ပို့တော်မူခဲ့သည်။[၁]

  

---

၁ – အိဗ်နမာဂျဟ်ကျမ်း၊ ၁၅၈၅။

# အိဗာဒသ်ခဝပ်ကိုးကွယ်မှုပိုင်းနှင့်သက်ဆိုင် သော ပြစ်မှုကြီးများ

## (၁)စွလားသ် စွန့်လွှတ်ခြင်း

**မတ်စ်အလဟ် – (၃၈) စွလားသ်ဝတ်ပြုမှုအား စွန့်လွှတ်သောသူသည် ကိယာမသ်နေ့တွင် ကာရူးန်၊ ဟာမာန်၊ ဖိရ်အောင်န်၊ အိုဗိုင်ယ်ဗင်န်ခလဖ် စသည့် လူယုတ်မာများနှင့်အတူ ရှင်ပြန်ထရလိမ့်မည်။**

အဗ်ဒုလ္လာဟ်ဗင်န်အမရ်ဗင်န်အာစွ် ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တစ်ရက်တွင် တမန်တော်မြတ် ﷺ သည် စွလားသ်အကြောင်း ပြောရင်း အမိန့်ရှိတော်မူသည်။ “အကြင်မည်သူမဆို ထိုစွလားသ်များအား ဂရုတစိုက် စွဲစွဲမြဲမြဲ ဝတ်ပြုခဲ့ပါက ကိယာမသ်နေ့တွင် ထိုစွလားသ်များသည် သူ့အတွက် နူးရ်အလင်းရောင်၊ သက်သေအထောက်အထားနှင့် လွတ်မြောက်မှု ဖြစ်ပေလိမ့်မည်။ အကြင်မည်သူမဆို စွလားသ်များအား စွဲစွဲမြဲမြဲ ဝတ်ပြုခြင်းမပြုပါက ထိုသူ့အတွက် နူးရ်အလင်းရောင်လည်း ရှိမည်မဟုတ်၊ သက်သေအထောက်အထားလည်း ရှိမည်မဟုတ်၊ လွတ်မြောက်စရာလည်း ဖြစ်မည်မဟုတ်ပေ။ ထိုသူသည် ကိယာမသ်နေ့တွင် ကာရူးန်၊ ဟာမာန်၊ ဖိရ်အောင်န်နှင့် အိုဗိုင်ယ်ဗင်န်ခလဖ်တို့နှင့် အတူရှိနေလိမ့်မည်။[၁]



## (၂)ဂျမာအသ်နှင်တကွ စွလားသ်ဝတ်ပြုမှုအား စွန့်လွှတ်ခြင်း

**မတ်စ်အလဟ် – (၃၉) တရားတော်က ခွင့်ပြုပေးထားသော အကြောင်းပြချက်တစ်စုံတရာမရှိဘဲ ဂျမာအသ်ဖြင့် စွလားသ်ဝတ်ပြုမှုမပြုခြင်းသည်**

၁ – အိဗ်နဟိဗ်ဗာန်ကျမ်း၊ နံပါတ် – ၁၄၆၇။

**ကြီးလေးသောအပြစ်ဖြစ်သည်။**

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။ "ငါကိုယ်တော်သည် လူတို့အား စွလားသ်ဝတ်ပြုခိုင်းမည်၊ ပြီးနောက် လူတစ်ဦးအား အိမာမ်ရှေ့ဆောင်ပြုလုပ်စေပြီးလျှင် လူတစ်ချို့ကိုခေါ်ပြီး ထင်းစည်းများသယ်ဆောင်စေကာ စွလားသ်ဝတ်ပြုရန် မလာကြသောသူများကို နေအိမ်များနှင့်တကွ မီးနှင့်ရှို့ပစ်လိုက်ချင်သည်။"[၁]



## (၃)ဇကားသ်ပေးဆောင်ခြင်းအား စွန့်လွှတ်ခြင်း

**မတ်စ်အလဟ် – (၄၀) ဇကားသ်ဒါနကြေး ပေးဆောင်ထားခြင်းမရှိသော ငွေကြေးဥစ္စာများသည် ကိယာမသ်နေ့တွင် အဆိပ်အလွန်ပြင်းထန်သော မြွေဆိုးအဖြစ်ပြောင်းလဲကာ ပိုင်ရှင်ကို ပေါက်လိမ့်မည်။**

အဗူဟုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။ "အကြင်သူတစ်ဦးတစ်ယောက်ကို အလ္လာဟ်အရှင်မြတ်က ငွေကြေးဥစ္စာ ချီးမြှင့်ထားပါလျက်နှင့် ထိုသူသည် ယင်းဥစ္စာပစ္စည်းမှ ဇကားသ်ဒါနကြေး မပေးဆောင်ခဲ့ပါက ကိယာမသ်နေ့တွင် ထိုဥစ္စာပစ္စည်းများသည် ထိပ်ပြောင်ပြီး မျက်လုံးတွင် အစက်နှစ်စက်ပါသော မြွေဆိုးအဖြစ်သို့ပြောင်းလဲကာပိုင်ရှင်၏လည်ပင်းတွင်စွပ်ပေးခြင်းခံရမည်။ ထို့နောက် ယင်းမြွေဆိုးသည် ပိုင်ရှင်အား အစွယ်နှစ်ဖက်ဖြင့် ကိုက်ခဲကာ "ကျွန်ုပ်သည် သင်၏ဥစ္စာပစ္စည်းဖြစ်သည်၊ ကျွန်ုပ်သည် သင်၏ ဘဏ္ဍာတိုက်ဖြစ်သည်"ဟု ပြောလိမ့်မည်။ ပြီးနောက် ကိုယ်တော်မြတ် ﷺ သည် ဤအာယသ်တော်ကို ရွတ်ဖတ်တော်မူလေသည်။

وَلَا يَحْسَبَنَّ الَّذِيْنَ يَبْخَلُوْنَ بِمَآ اٰتٰهُمُ اللّٰهُ مِنْ فَضْلِهٖ هُوَ خَيْرًا لَّهُمْ ۭ بَلْ هُوَ شَرٌّ لَّهُمْ ۭ سَيُطَوَّقُوْنَ مَا بَخِلُوْا بِهٖ يَوْمَ الْقِيٰمَةِ

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၆၅၁။

ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် အရှင်မြတ်၏ကျေးဇူးတော်နှင့် ပေးသနားထားသောအရာ(ပစ္စည်းဥစ္စာ)များနှင့် ပတ်သက်၍ စေးနှဲတွန့်တို သောသူများသည် ထိုကဲ့သို့ (စေးနှဲတွန့်တိုခြင်း)သည် သူတို့အတွက် ကောင်းသည်ဟု လုံးဝမထင်မှတ်ကြနှင့်၊ အမှန်မှာ ထိုအရာသည် သူတို့ အတွက် ဆိုးရွားလှသည်။ မကြာမီ သူတို့သည် ရှင်ပြန်ထမည့်နေ့တွင် သူတို့စေးနှဲတွန့်တို(၍စုဆောင်း)ခဲ့သောပစ္စည်းများနှင့် လည်ပင်းတွင်ကွင်း စွပ်ခြင်းခံကြရမည်ဖြစ်သည်။[၁]

**မတ်စ်အလဟ် – (၄၁) ဇကားသ်ဒါနကြေး မပေးဆောင်သူများအပေါ် တမန်တော်မြတ် ﷺ က လအ်နသ်ပို့တော်မူခဲ့သည်။**

အလီ ؓထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် အတိုးစားသူ၊ အတိုးပေးသူ၊ အတိုးကိစ္စတွင် သက်သေလုပ်သူ၊ အတိုး ကိစ္စတွင် စာရေးလုပ်သူ၊ ဆေးမှင်ကြောင်ထိုးသူ၊ ဆေးမင်ကြောင်ထိုးခိုင်း သူ၊ ဇကားသ်မပေးသူ၊ ဟလာလဟ်လုပ်ပေးသူ၊ ဟလာလဟ်လုပ်ခိုင်းသူ အားလုံးတို့အပေါ် လအ်နသ်ပို့တော်မူခဲ့သည်။[၂]

**မတ်စ်အလဟ် – (၄၂) ဇကားသ်မပေးဆောင်သောသူသည် ဂျဟန္နမ်ငရဲဘုံသို့ သွားရမည်။**

အနတ်စ် ؓထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။ "ကိယာမသ်နေ့၌ ဇကားသ်မပေးသူသည် ဂျဟန္နမ် ငရဲဘုံတွင် ရှိလိမ့်မည်။[၃]

  

၁ – ကုရ်အာန် ၃း ၁၈၀။ ဗုခါရီကျမ်း၊ နံပါတ် – ၄၄၀၅။

၂ – အသ်သရ်ဂီးဗ် ဝသ်သရ်ဟီးဗ်ကျမ်း၊ နံပါတ် – ၇၅၈။

၃ – အသ်သရ်ဂီးဗ် ဝသ်သရ်ဟီးဗ်ကျမ်း၊ နံပါတ် – ၇၆၀။

## (၄) စွောင်မိဥပုသ်စောင့်ထိန်းမှုကို စွန့်လွှတ်ခြင်း

**မတ်စ်အလဟ် – (၄၃) စွောင်မ်ဥပုသ်စောင့်ထိန်းခြင်း စွန့်လွှတ်သူများအား ကိယာမသ်နေ့တွင် ဇောက်ထိုးအခြေအနေတွင်ထားကာ သူတို့၏ ပါးစပ်များ ဆုပ်ဖြဲခြင်းခံရမည်။**

အဗူအိုမာမဟ် ဘာဟိလီ ؓထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ ဤသို့ မိန့်ကြားတော်မူသည်ကို ကျွန်ုပ်ကြားခဲ့သည်။ "ငါကိုယ်တော် အိပ်ပျော်နေစဉ် ပုဂ္ဂိုလ်နှစ်ဦး ငါ့ထံရောက်လာပြီး ငါ၏ ပခုံးနှစ်ဖက်ကို ကိုင်ကာ တက်ရခက်သောတောင်တစ်တောင်ပေါ်သို့ ခေါ်ဆောင်လာခဲ့ကြသည်။ သူတို့နှစ်ဦးက "အသင် တက်ပါ"ဟု ပြောသဖြင့် ငါကိုယ်တော် တက်လိုက်သည်။ တက်ရင်း တောင်ထိပ်သို့ရောက်သောအခါ ငါကိုယ်တော်သည် အော်ဟစ်သံများကိုကြားလိုက်ရသည်။ "ဤအသံများမှာ အဘယ်အရာများနည်း"ဟု ငါက မေးမြန်းသောအခါ သူတို့နှစ်ဦးက "ဤသည် ဂျဟန္နမ်ငရဲဘုံသားများ၏ အော်ဟစ်သံများဖြစ်သည်ဟု ပြောသည်။ ထို့နောက် သူတို့နှစ်ဦးသည် ငါ့အား ရှေ့သို့ ဆက်ခေါ်ဆောင်သွားခဲ့ရာ လူတစ်ချို့အား ဇောက်ထိုးချထားသည်ကို တွေ့မြင်ရသည်။ သူတို့၏ပါးစပ်များမှာ ဆွဲဖြဲခြင်းခံထားရသည်။ သွေးများလည်း စီးကျနေသည်။ ဤသူများသည် မည်သူများပါနည်း"ဟု ငါကိုယ်တော် မေးမြန်းရာ ထိုသူနှစ်ဦးက အဖြေပေးသည်။ ဤသူများမှာ စွောင်မ်ဥပုသ် ဝါဖြေချိန် မတိုင်မီမှာပင် ဝါလွှတ်လိုက်ကြသူများ ဖြစ်ကြသည်။[၁]



## (၅) ဟဂ်ျလုပ်ခြင်းကို စွန့်လွှတ်ခြင်း

**မတ်စ်အလဟ် – (၄၄) ငွေကြေးဥစ္စာ တတ်စွမ်းနိုင်ပါလျက်နှင့် ဟဂ်ျမပြု**

---

၁ – အိဗ်နဟိဗ်ဗာန်ကျမ်း၊ နံပါတ် – ၇၄၉၁။

လုပ်ခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။

وَ لِلّٰهِ عَلَى النَّاسِ حِجُّ الْبَيْتِ مَنِ اسْتَطَاعَ اِلَيْهِ سَبِيْلًا ؕ وَ مَنْ كَفَرَ فَاِنَّ اللّٰهَ غَنِيٌّ عَنِ الْعٰلَمِيْنَ ﴿۹۷﴾

ထို့ပြင် လူများထဲမှ *အလ္လာဟ်* အရှင်မြတ်၏ အိမ်တော်ထံသို့ သွားရောက်ရန် တတ်စွမ်းနိုင်သောသူများအပေါ်တွင် *အလ္လာဟ်*အရှင်မြတ်အတွက် *ဟဂ်ျ* ပြုလုပ်ရန် *ဖရည်* တာဝန်ရှိသည်။ ၎င်းပြင် အကြင်သူသည် ငြင်းပယ်လျှင် အမှန်စင်စစ် *အလ္လာဟ်*အရှင်မြတ်သည် စကြဝဠာအားလုံးမှ လိုလားတောင့်တခြင်းကင်းပြီးပြည့်စုံကြွယ်ဝတော်မူသောအရှင်ဖြစ်တော်မူသည်။[၁]

အုမရ်ဗင်န်ခသ်ွာဗ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ ၎င်းက မိန့်ကြားသည်။ ငါသည် လူတစ်ချို့အား မြို့များသို့စေလွှတ်၍ တတ်စွမ်းနိုင်ပါလျှက် ဟဂ်ျမပြုလုပ်သူများကို လိုက်ကြည့်ခိုင်းပြီး ထိုသူများအပေါ် အခွန်တပ်ရိုက်ချင်မိသည်။ ထိုသူများသည် မွတ်စ်လင်မ်များ မဟုတ်ကြပေ။ ထိုသူများသည် မွတ်စ်လင်မ်များ မဟုတ်ကြပေ။[၂]



## (၆) ဂျိဟားဒ် အလ္လာ့ဟ်လမ်းတော်တွင် သက်စွန့်ကြိုးပမ်းခြင်းအား စွန့်လွှတ်ခြင်း

မတ်စ်အလဟ် – (၄၅)ဂျိဟားဒ်တွင် မပါဝင်သူ၊ သို့မဟုတ် ဂျိဟားဒ်တွင်ပါဝင်ရန် မျှော်လင့်ချက်မထားသူတို့သည် မုနာဖိက်အယောင်ဆောင်များဖြစ်ကြသည်။

အဗူဟုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်

---

၁ – ကုရ်အာန် ၃း၉၇။

၂ – မုန်သကလ် အန်ဘားရ်။

မြတ် ﷺ အမိန့်ရှိတော်မူသည်။ "အကြင်သူသည် ဂျိဟားဒ်တွင်လည်းမပါဝင်၊ ပါဝင်ရန်လည်းစိတ်ထဲတွင် ဆန္ဒမရှိခဲ့ဖူးဘဲ ကွယ်လွန်သေဆုံးသွားပါက ထိုသူသည် နိဖာက်ခေါ် သာသနာ့အယောင်ဆောင်ခြင်း၏ အကိုင်းအလက် တစ်ခုပေါ်တွင် သေဆုံးခြင်းဖြစ်သည်။[၁]

**မတ်စ်အလဟ် – (၄၆) အလ္လာဟ်အရှင်မြတ်သည် ဂျိဟားဒ်လုပ်ခြင်းမှ မျက်နှာလွှဲခဲ့သူများကို ဤလောကီဘဝ၌ပင် ပြင်းထန်သောဘေးဒုက္ခများဖြင့် ရင်ဆိုင်ရစေတော်မူမည်။**

အဗူအိုမာမဟ် ؓ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ အကြင်မည်သူမဆို ဂျိဟားဒ်တွင်လည်းမပါဝင်ခဲ့၊ သို့မဟုတ် ဂျိဟားဒ်လုပ်သူအတွက်လည်း စရိတ်မပြင်ဆင်ပေးခဲ့၊ သို့မဟုတ် ဂျိဟားဒ်တွင်ပါဝင်သူ၏ မိသားစုဝင်များကို စောင့်ရှောက်ခြင်းလည်းမပြုခဲ့လျှင် အလ္လာဟ်အရှင်မြတ်သည် ထိုသူအားပြင်းထန်သောဘေး ဒုက္ခနှင့် ကြုံကြိုက်စေတော်မူပေသည်။[၂]

  

## (၇)ကောင်းရာညွှန်ကြား၊ မကောင်းရာမြစ်တားအလုပ်ကို စွန့်လွှတ်ခြင်း

**မတ်စ်အလဟ် – (၄၇) ကောင်းရာညွှန်ကြား၊ မကောင်းရာမြစ်တား အလုပ်ကို စွန့်လွှတ်ကြသူများအပေါ် အလ္လာဟ်အရှင်မြတ်၏ အပြစ်ဒဏ်ကျရောက်ပေသည်။**

ဂျရီး၏ ؓ က ဆင့်ပြန်ပြောပြသည်။ ကျွန်ုပ်သည် တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်ကို ကြားခဲ့သည်။ "အကယ်၍ လူတစ်ဦးသည်

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၉၁၀။

၂ – အဗူဒါဝူးဒ်ကျမ်း၊ ၂၅၀၃။

မိမိပတ်ဝန်းကျင်ရှိ လူမျိုးများတွင် ကျူးလွန်နေလျက်ရှိသော ပြစ်မှုဒုစရိုက်များကို ပြောင်းလဲပစ်ရန် တတ်စွမ်းနိုင်ပါလျက်နှင့် မပြောင်းလဲခဲ့ပါမူ အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့ မသေခင်အလျင်မှာပင် အပြစ်ဒဏ်ခတ်တော်မူပေသည်။[၁]

**မတ်စ်အလဟ် – (၄၈) ကောင်းရာညွှန်ကြား၊ မကောင်းရာမြစ်တားအလုပ် မလုပ်ကြသူများအပေါ်သို့ ကျရောက်မည်ဖြစ်သော အပြစ်ဒဏ်သည် ဒုအာများဖြင့်ပင် ဖယ်ရှား၍ ရနိုင်မည်မဟုတ်ပေ။**

ဟုဇိုင်ဖဟ်ဗင်န်ယမာန် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ ငါကိုယ်တော်မြတ်၏ အသက်ဇီဝိန်ကို စိုးပိုင်တော်မူသောအရှင်မြတ်၏ကစမ်၊ အသင်တို့သည် ကောင်းရာညွှန်ကြား၊ မကောင်းရာမြစ်တားအလုပ်ကို မုချပြုလုပ်ကြလေကုန်။ သို့မဟုတ်ပါက အလ္လာဟ်အရှင်မြတ်သည် မြားမကြာမီ အသင်တို့ပေါ်သို့ ပြစ်ဒဏ်စေလွှတ်တော်မူလိမ့်မည်။ ထိုအခါ အသင်တို့ အလ္လာ့ဟ်ထံ ဒုအာတောင်းကြမည်။ သို့သော် လက်ခံခြင်းခံရမည်မဟုတ်ပေ။[၂]



## (၈) အလ္လာဟ်အရှင်မြတ်မှအပ အခြားအရာများ၏နာမည်ဖြင့် သားကောင်ဇဗဟ်လုပ်ခြင်း

**မတ်စ်အလဟ် – (၄၉) အလ္လာဟ်အရှင်မြတ်မှအပ အခြားအရာများ၏နာမည်ဖြင့် သားကောင်ဇဗဟ်လုပ်သူအပေါ်အလ္လာဟ်အရှင်မြတ်၏လအ်နသ် ကျရောက်ပေသည်။**

အလီ ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်

---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၄၃၃၈။

၂ – သိရ်မိဇီကျမ်း၊ နံပါတ် – ၂၁၆၉။

ကြားတော်မူသည်။ “ဖခင်အပေါ် လအ်နသ်ပို့သူကို အလ္လာဟ်အရှင် လအ်နသ်ပို့တော်မူပါစေ။ အလ္လာဟ်အရှင်မြတ်မှအပ အခြားအရာများ၏နာမည်ဖြင့် သားကောင်ဇဗဟ်လုပ်သူအပေါ် အလ္လာဟ်အရှင် လအ်နသ်ပို့တော်မူပါစေ။ ဗိဒ်အသ်လုပ်သူကို ခိုလှုံခွင့်ပေးသူအပေါ် အလ္လာဟ်အရှင် လအ်နသ်ပို့တော်မူပါစေ။ မိဘနှစ်ပါးအပေါ် လအ်နသ်ပို့သူကို အလ္လာဟ်အရှင် လအ်နသ်ပို့တော်မူပါစေ။ မြေကြီး၏အမှတ်အသားများကိုပြောင်းလဲပစ်သူအပေါ် အလ္လာဟ်အရှင် လအ်နသ်ပို့တော်မူပါစေ။[၁]

မှတ်ချက်။ ။ အလ္လာဟ်အရှင်မြတ်မှအပ အခြားအရာများ၏ အမည်နာမဖြင့် အစားအသောက်ဝေငှခြင်း၊ နဇရ်ကိုးခြင်း၊ ပွဲတော်တင်ခြင်းတို့သည်လည်း ဤအမိန့်အတိုင်းပင် ကြီးလေးသောပြစ်မှုများ ဖြစ်သည်။

  

## (၉) လူတစ်ဦးတစ်ယောက်ကို ဂုဏ်ပြုရန် မတ်တတ်ရပ်ခြင်း

မတ်စ်အလဟ် – (၅၀) လူတို့က မိမိအား မတ်တတ်ရပ်၍ ဂုဏ်ပြုရန် လိုလားခြင်းသည် ဂျဟန္နမ်ငရဲဘုံကျရန် အကြောင်းခံတစ်ခုဖြစ်သည်။

မုအာဝိယာဟ် ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်ုပ်သည် တမန်တော်မြတ် မိန့်ကြားသည်ကို ကြားခဲ့သည်။ “လူတို့သည် မိမိအား မတ်တတ်ရပ်ပြီး ဂုဏ်ပြုရန်လိုလားသောသူသည် ဂျဟန္နမ်ငရဲဘုံတွင် မိမိအတွက် နေရာထိုင်ခင်းပြုလုပ်ထားပါ။[၂]

  

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၉၇၈။

၂ – သိရ်မိဇီကျမ်း၊ နံပါတ် – ၂၇၅၅။

## (၁၀) အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့မှုမရှိခြင်း

မတ်စ်အလဟ် – (၅၁) အလ္လာဟ်အရှင်မြတ်၏ အရေးယူမှုမှ ကြောက်ရွံ့မှု မရှိခြင်းသည် ပျက်စီးရန်အကြောင်းတရားဖြစ်သည်။

اَفَاَمِنُوۡا مَكۡرَ اللّٰهِ‌ ۚ فَلَا يَاۡمَنُ مَكۡرَ اللّٰهِ اِلَّا الۡقَوۡمُ الۡخٰسِرُوۡنَ ۝٩٩

ဎင်းပြင် သူတို့သည် *အလ္လာဟ်* အရှင်မြတ်၏ အစီအစဉ်ချမှတ်မှုကို စိုးရိမ်မှုကင်းမဲ့ပြီး စိတ်ချနေကြသလော။ သို့ဖြစ်လျှင် နစ်နာမည့်သူများမှလွဲ၍ *အလ္လာဟ်*အရှင်၏ အစီအစဉ်ချမှတ်မှုကို စိုးရိမ်မှုကင်းမဲ့သောသူ မည်သူမျှ မရှိပေ။[1]

ရှဟရ်ဗင်န်ဟောင်ရှဗ် ﵁မှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်ုပ်သည် အွမ္မိုစလမဟ် ﵂အား မေးမြန်းခဲ့သည်။ အို – မိခင်မွန်ကြီး၊ တမန်တော်မြတ် ﷺသည် အသင်မထံတွင်ရှိနေစဉ်၌ အများဆုံးတောင်းသော တောင်းဆုဒုအာမှာ အဘယ်ဒုအာနည်း။ အွမ္မိုစလမဟ် ﵂က အဖြေပေးသည်။ တမန်တော်မြတ် ﷺသည် يَامُقَلِّبَ الْقُلُوبِ ثَبِّتْ قَلْبِي عَلَى دِينِكَ ဟူသောဒုအာကို အများဆုံးတောင်းလေ့ရှိသည်။ ကျွန်မက မေးမြန်းခဲ့သည်။ အို – တမန်တော်၊ ကိုယ်တော်မြတ်သည် အထက်ပါဒုအာကို ဘာကြောင့် အများဆုံး တောင်းလေ့ရှိပါသနည်း။ ထိုအခါ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ အို – အွမ္မိုစလမဟ်၊ လူသားတိုင်း၏ စိတ်နှလုံးသည် အလ္လာဟ်အရှင်မြတ်၏ လက်ချောင်းနှစ်ခုကြားတွင် ရှိပေသည်။ အရှင်မြတ်သည် မိမိအလိုရှိသူကို ဖြောင့်မတ်သောလမ်းပေါ်တင်ပေးတော်မူပြီး၊ မိမိအလိုရှိသူကို ဖြောင့်မတ် သောလမ်းမှ ဖယ်ရှားတော်မူသည်။[2]



---

၁ – ကုရ်အာန် ၇း ၉၉။

၂ – သိရ်မိဇီကျမ်း၊ နံပါတ် – ၃၅၂၂။

## (၁၁) အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ မက်ကင်းခြင်း

**မတ်စ်အလဟ် – (၅၂) အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ မက်ကင်းခြင်းသည် ကြီးလေးသောပြစ်မှုဖြစ်သည်။**

إِنَّهُۥ لَا يَا۟يْـَٔسُ مِن رَّوْحِ ٱللَّهِ إِلَّا ٱلْقَوْمُ ٱلْكَٰفِرُونَ ﴿٨٧﴾

**"အမှန်စင်စစ် *ကာဖိရ်*များမှလွဲ၍ *အလ္လာဟ်*အရှင်မြတ်၏ကရုဏာတော်မှ မည်သူမျှ မျှော်လင့်ချက်မကင်းမဲ့ကြပေ။"**[၁]

အိဗ်နအဗ္ဗားစ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ လူတစ်ဦးသည် တမန်တော်မြတ် ﷺ ထံတွင် လျှောက်ထားမေးမြန်းခဲ့သည်။ အို – အလ္လာ့ဟ်တမန်တော်၊ ကြီးလေးသောအပြစ်များမှာ အဘယ်အရာများနည်း။ တမန်တော်မြတ် ﷺ က မိန့်ကြားတော်မူသည်။ "အလ္လာဟ်အရှင်မြတ်နှင့်အတူ အခြားအရာကို တုဖက်နိုင်းယှဉ်ခြင်း၊ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ မက်ကင်းခြင်း၊ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးပြုခြင်းမှ မက်ကင်းခြင်းတို့ ဖြစ်သည်။"[၂]



## (၁၂) ခွသ်ဗဟ်ဖတ်ကြားနေစဉ် လူတို့၏ လည်ကုပ်များကို ကျော်ခွသွားခြင်း

**မတ်စ်အလဟ် – (၅၃) ခွသ်ဗဟ်ဖတ်ကြားနေစဉ် လူတို့၏ လည်ကုပ်များကို ကျော်ခွပြီး ရှေ့သို့တက်ခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အဗ်ဒုလ္လာဟ်ဗင်န်ဗုစ်ရ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ဂျုမုအာနေ့တွင် တမန်တော်မြတ် ﷺ ခွသ်ဗဟ်ဖတ်ကြားနေစဉ် လူတစ်ဦးသည် လူတို့အား ကျော်ခွပြီး ရှေ့သို့တက်လာခဲ့သည်။ ထိုအခါ ကိုယ်တော်မြတ်

---

၁ – ကုရ်အာန် ၁၂း၈၇။

၂ – မဂျ်မအုတ်ဇ်ဇဝါအိဒ်ကျမ်း၊ နံပါတ် – ၃၉၁။

ﷺက မိန့်ကြားတော်မူသည်။ “အသင် ထိုင်လိုက်ပါ။ အသင်သည် လူတို့အား ဒုက္ခပေးလိုက်ပြီ။”[၁]



## (၁၃) ထိုင်ဝိုင်းတွင် အလ္လာဟ်အရှင်မြတ်အား တသမှုမရှိခြင်း

**မတ်စ်အလဟ် – (၅၄) ထိုင်ဝိုင်းတစ်ခုခုတွင် အလ္လာဟ်အရှင်မြတ်အား စိုးစဉ်းမျှ ဇိက်ရ်မလုပ်ခြင်းသည် ကြီးလေးသောပြစ်မှု ဖြစ်သည်။**

အဗူဟုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “လူတစ်စုသည် အလ္လာဟ်အရှင်မြတ်အား ဇိက်ရ်ပြုလုပ်ခြင်းမရှိဘဲ ထိုင်ဝိုင်းတစ်ခုမှထလာကြလျှင် ထိုသူတို့သည် မြည်းအသေကောင်ကဲ့သို့ ထလာခြင်းဖြစ်သည်။ ထိုသို့သောထိုင်ဝိုင်းသည် သူတို့အဖို့ ကိယာမသ်နေ့တွင် နောင်တရစရာဖြစ်မည်။”[၂]

**ရှင်းလင်းချက်။** ။ ဇိက်ရ်၏ အလိုသဘောမှ ကုရ်အာန်နှင့်ဟဒီးဆ်သင်ခန်းစာများ ပို့ချခြင်းကို မဆိုလိုပေ။ ထိုင်ဝိုင်းအစတွင် ကုရ်အာန်အာယသ် အနည်းငယ် ဖတ်ရွတ်လိုက်ခြင်း၊ သို့မဟုတ် ဗိစ္စမိလ္လာဟ်ရွတ်ဆိုခြင်း၊ သို့မဟုတ် စကားပြောနေစဉ် အင်န်ရှာအလ္လာဟ်၊ မာရှာအလ္လာဟ်၊ အလ် ဟမ်ဒုလိလ္လာဟ် စသည်စကားလုံးများ အသုံးပြုခြင်းတို့သည်လည်း တစ်နည်းမဟုတ်တစ်နည်းဖြင့် အလ္လာဟ်အရှင်မြတ်အား ဇိက်ရ်တသခြင်း မည်ပေသည်။(အလ္လာဟ်အရှင်မြတ်သာ အသိဆုံးဖြစ်တော်မူသည်။)



---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၁၁၁၈။

၂ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၄၈၅၅။

## (၁၄) စွလားသ်ဝတ်ပြုရာတွင် စွဖ်လိုင်းတန်းများကို ညီညာစွာ မစီတန်းခြင်း

**မတ်စ်အလဟ် – (၅၅) စွလားသ်ဝတ်ပြုရာတွင် စွဖ်လိုင်းတန်းများကို ညီညာစွာ မစီတန်းခြင်းသည် ကြီးလေးသောပြစ်မှု ဖြစ်သည်။**

ဗရာအ်ဗင်န်အာဇိဗ် ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် မိန့်ကြာတော်မူသည်။ "စွဖ်တန်းများကို ကောက်ကွေးအောင် မထားကြနှင့်၊ အသင်တို့၏ စိတ်နှလုံးများ ကောက်ကွေးသွားလိမ့်မည်။"[၁]



## (၁၅) လူတို့၏ သဘောတူနှစ်သက်မှုမရှိဘဲ အီမာမ်အဖြစ်ဆောင်ရွက်ခြင်း

**မတ်စ်အလဟ် – (၅၆) လူတို့၏ သဘောတူနှစ်သက်မှုမရှိဘဲ အီမာမ်အဖြစ် ဆောင်ရွက်ခြင်းသည်လည်း ကြီးလေးသောအပြစ်ဖြစ်သည်။**

အဗူဟုရိုင်ရဟ် ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် မိန့်ကြားတော်မူသည်။ "အလ္လာဟ်အရှင်မြတ်နှင့် နောက်ဆုံးကိယာမသ်နေ့ကို အီမာန်ယုံကြည်သူတစ်ဦးသည် လူတို့၏ ခွင့်ပြုချက်မရှိဘဲ အီမာမ်အဖြစ်ဆောင်ရွက်ခြင်း မပြုပိုင်ပေ။"[၂]



---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၆၆၄။

၂ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၉၀။

## (၁၆) စွလားသ်ဝတ်ပြုနေသူ၏ရှေ့မှ ဖြတ်သွားခြင်း

**မတ်စ်အလဟ် – (၅၇) စွလားသ်ဝတ်ပြုနေသူ၏ရှေ့မှ ဖြတ်သွားခြင်းသည် ကြီးလေးသောပြစ်မှု ဖြစ်သည်။**

အဗူဂျုဟိုင်းမ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ စွလားသ်ဝတ်ပြုနေသူ၏ရှေ့မှောက်မှ ဖြတ်သွားသူသည် မိမိအပေါ်တွင် အဘယ်မျှကြီးလေးသောအပြစ်ထိုက်သွားသည်ကို သိရှိမည်ဆိုလျှင် ထိုသို့ဖြတ်သွားခြင်းထက် (၄၀) မတ်တတ်ရပ်နေခြင်းက ပိုကောင်းသည်ဟုအောက်မေ့လိမ့်မည်။[၁]

ရှင်းလင်းချက်။ ။ ရက်ပေါင်း(၄၀)လော၊ အပတ်ပေါင်း(၄၀)လော၊ နှစ်ပေါင်း(၄၀)လော ဟာဒီးဆ်တွင် ရှင်းလင်းချက်မပါပေ။



## (၁၇) လင်ယောကျ်ား၏ ခွင့်ပြုချက်မပါဘဲ နဖိလ်ဥပုသ်စောင့်ထိန်းခြင်း

**မတ်စ်အလဟ် – (၅၈) လင်ယောကျ်ား၏ ခွင့်ပြုချက်မပါဘဲ နဖိလ်ဥပုသ်စောင့်ထိန်းခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အဗူဟုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြာတော်မူသည်။ အမျိုးသမီးသည် ရမဇန်လမြတ်၏ ဥပုသ်မှအပ ကျန်နေ့ရက်များတွင် ယောကျ်ားအသင့်ရှိနေပါက ယောကျ်ား၏ ခွင့်ပြုချက်မပါဘဲ ဥပုသ်မစောင့်ထိန်းလေနှင့်။[၂]



---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၇၀၁။

၂ – သိရ်မိဇီကျမ်း၊ နံပါတ် – ၇၈၂။

## (၁၈) အီမာမ်၏ နောက်လိုက်မှုမပြုခြင်း

**မတ်စ်အလဟ် – (၅၉) စွလားသ်ဝတ်ပြုသောအခါ ရှေ့ဆောင်အီမာမ်၏ နောက်လိုက်မှုမပြုခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အဗူဟုရိုင်ရဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အီမာမ်ရှေ့ဆောင်က စဂျ်ဒဟ်မှ ဦးခေါင်းမကြွမီအလျင် မိမိ၏ဦးခေါင်းကို ကြွသူသည် အလ္လာဟ်အရှင်မြတ်က သူ့ဦးခေါင်းကို မြည်းသတ္တဝါဦးခေါင်းအဖြစ် ပြောင်းလဲလိုက်မည်ကို မစိုးရိမ်ဘူးလား။[၁]

  

## (၁၉) ဝူဇူလုပ်ရာတွင် ခြေဖနောင့်များ ခြောက်သွေ့နေခြင်း

**မတ်စ်အလဟ် – (၆၀) ဝူဇူလုပ်ရာတွင် ခြေဖနောင့်များ ရေမစိုဘဲ ခြောက်သွေ့နေခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အဗူဟုရိုင်ရဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ရေမစိုဘဲ ခြောက်နေသော ခြေဖနောင့်များအတွက် ဂျဟန္နမ်ငရဲဘုံ၏ ပျက်စီးခြင်းရှိပေသည်။[၂]

  

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၄၂၇။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၆၀။

# ကိုယ်ကျင့်စာရိတ္တများနှင့်သက်ဆိုင်သော ပြစ်မှုကြီးများ

## (၁) လိမ်လည်ခြင်း

**မတ်စ်အလဟ် – (၆၁) လိမ်လည်ပြောဆိုခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အနတ်စ်ဗင်န်မာလိက် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အပြစ်များအနက် အကြီးလေးဆုံးသောအပြစ်မှာ (၁) အလ္လာဟ်အရှင်မြတ်နှင့်အတူ တစ်စုံတရာကို တုဖက်နှိုင်းယှဉ်ခြင်း၊ (၂) လူ့အသက် သတ်ဖြတ်ခြင်း၊ (၃)မိဘနှစ်ပါး၏အမိန့်ကို မနာခံခြင်း၊ (၄) လိမ်လည်ပြောဆိုခြင်း သို့မဟုတ် လိမ်လည်သက်သေထွက်ဆိုခြင်းတို့ဖြစ်သည်။"[၁]

**မတ်စ်အလဟ် – (၆၂) လိမ်လည်ပြောဆိုတတ်သောအကျင့်ဆိုးသည် လူသားကို ဂျဟန္နမ်ငရဲဘုံထိ ခေါ်ဆောင်သည်။**

အိဗ်နမတ်စ်အူးဒ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မှန်သောစကားကိုသာ ပြောဆိုကြကုန်။ မှန်သောစကားဆိုခြင်းသည် ကောင်းမှုဘက်သို့ ပို့ဆောင်သည်။ ကောင်းမှုသည်ဂျန္နသ်သုခဘုံသို့ပို့ဆောင်သည်။လူတစ်ဦးသည်မှန်ကန်သောစကားကို အစဉ်အမြဲပြောသည်၊ အမှန်ကိုသာ အစဉ်အမြဲ ရည်ရွယ်သည်ဆိုလျှင် အလ္လာဟ်အရှင်မြတ်ထံတွင် စွဒ်ဒီးက် – သစ္စာဝါဒီဟု ရေးမှတ်ခြင်းခံရပေသည်။ အသင်တို့သည် မုသားပြောခြင်းမှ ရှောင်ကြဉ်ကြကုန်။ မုသားပြော

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၆၈၇၁။

ခြင်းသည် မကောင်းမှုဘက်သို့ ပို့ဆောင်သည်။ မကောင်းမှုသည် ဂျဟန္နမ် ငရဲဘုံသို့ ပို့ဆောင်သည်။ လူတစ်ဦးသည် မုသားစကားကို အစဉ်အမြဲ ပြောသည်၊ မုသားကိုသာ အစဉ်အမြဲရည်ရွယ်သည်ဆိုလျှင် အလ္လာဟ်အရှင်မြတ်ထံတွင် ကဇ်ဇာဘ် – လူလိမ်ဟု ရေးမှတ်ခြင်းခံရပေသည်။[၁]

**မတ်စ်အလဟ် – (၆၃) မဟုတ်မမှန်သောသတင်းစကား ဖြန့်ချိသူသည် ဗရ်ဇခ်လောကတွင် ကိယာမသ်နေ့တိုင် အောက်ပါပြစ်ဒဏ်များကို ခံစားနေရမည်။**

**(၁) ပါးစောင်တစ်ဖက်သည် နောက်ကျောထိ ဓားဖြင့် ဆွဲဖြဲခြင်းခံရမည်။**

**(၂) ထိုဘက်မှ နှားခေါင်းပေါက်သည် နောက်ကျောထိ ဆွဲဖြဲခြင်းခံရမည်။**

**(၃) ထိုဘက်မှပင် မျက်လုံးမှ နောက်ကျောထိ ဆွဲဖြဲခြင်းခံရမည်။ ထို့နောက် အခြားတစ်ဖက်တွင်ရှိသော ထိုနေရာသုံးခုသည်လည်း ဆွဲဖြဲခြင်းခံရမည်။ တစ်ဖက်ကို လုပ်နေချိန် နောက်တစ်ဖက်ခြမ်းရှိ ထိုသုံးခုသည် အကောင်း ပကတိ ပြန်ဖြစ်သွားမည်။ ထို့နောက်တစ်ဖန် ပြန်၍ ဆွဲဖြဲခြင်းခံရမည်။**

စမုရဟ်ဗင်န်ဂျွန်ဒုဗ် ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် မနက်ခင်းတစ်ခုတွင် မိန့်ကြားတော်မူသည်။ "ညက ငါကိုယ်တော့်ထံ ကောင်းကင်တမန်နှစ်ပါးရောက်ရှိလာပြီး ငါ့အား နိုးထစေသည်။ ပြီးနောက် "အသင် သွားပါ" ဟုပြောသည်။ သို့နှင့် ငါသည် သူတို့နှစ်ဦးနှင့် အတူ ထွက်လာခဲ့သည်။ လမ်းတွင် ပက်လက်လဲနေသောလူတစ်ဦးကို တွေ့ရသည်။ အနီးတွင် ကောင်းကင်တမန်တစ်ဦးသည် သံချိတ်ကြီးတစ်ခု ကိုကိုင်၍ ရပ်နေသည်။ သူက လဲနေသူ၏ မျက်နှာတစ်ဖက်ခြမ်းသို့လာ၍ ပါးစောင်အား နောက်ကျောထိ ဆွဲဖြဲလိုက်သည်။ နှားခေါင်းအား နောက်ကျောထိ ဆွဲဖြဲလိုက်သည်။ မျက်လုံးအားနောက်ကျောထိ ဆွဲဖြဲလိုက်သည်။ ပြီးနောက် နောက်တစ်ခြမ်းဘက်သို့ သွားပြီး ပထမအခြမ်းတွင် လုပ်သည့် နည်းအတိုင်း လုပ်ဆောင်သည်။ ဤတစ်ဖက်တွင် မပြီးစီးသေးခင်မှာပင်

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၆၀၇။

နောက်တစ်ဖက်သည် အကောင်းပကတိပြန်ဖြစ်သွားသည်။ ထို့နောက် တစ်ဖန် ထိုဘက်အခြမ်းအား ပထမအကြိမ်လုပ်သည့်အတိုင်း လုပ်ပြန်သည်။ ငါကိုယ်တော်က သူတို့နှစ်ဦးအား မေးမြန်းသည်။ “ယခု ကျွန်ုပ်မြင်တွေ့နေရသည်မှာ အဘယ်နည်း”။ သူတို့နှစ်ဦးက ဖြေကြားသည်။ အသင်မြင်ခဲ့ရသော ပါးစောင်မှာ နောက်ကျောထိ၊ နှာခေါင်းမှ နောက်ကျောထိ၊ မျက်လုံးမှ နောက်ကျောထိ ဆွဲဖြဲခံနေရသူမှာ အကြင်သူဖြစ်သည်။ ၎င်းသည် မနက်စောစော အလိမ်အညာသတင်းတစ်ခုကို လိမ်ညာပြောဆိုသည်။ ထိုသတင်းသည် ကမ္ဘာတစ်ခုလုံး ပြန့်နှံ့သွားလေတော့သည်။[၁]

**မတ်စ်အလဟ် – (၆၄) မပြောပလောက်သော အလိမ်အညာတစ်ခုသည်လည်း အလ္လာဟ်အရှင်မြတ်ထံတွင် အရေးယူခြင်းခံရမည်ဖြစ်သည်။**

အဗ်ဒုလ္လာဟ်ဗင်န်အာမိရ် ﷺက ဆင့်ပြန်ပြောပြသည်။ တစ်ရက် တမန်တော်မြတ် ﷺသည် ကျွန်တော်တို့အိမ်တွင် ထိုင်နေတော်မူစဉ် ကျွန်တော်၏ မိခင်သည် ကျွန်တော့်အား “လာယူ၊ သင့်ကို ငါပေးမယ်”ဟု ပြောလေသည်။ ထိုအခါ တမန်တော်မြတ် ﷺက သူမအား မေးမြန်းတော်မူသည်။ “အသင်မ သူ့အား ဘာပေးရန် အလိုရှိသနည်း။ သူမက “စွန်ပလွံသီး ပေးရန် ဖြစ်ပါသည်”ဟု လျှောက်တင်သည်။ ထိုအခါ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ “အသိပြုပါ။ အကယ်၍ အသင်မသည် သူ့အား တစ်စုံတရာမပေးခဲ့ပါက သင်မပေါ်တွင် လိမ်လည်မှုပြစ်ဒဏ်တစ်ခု ရေးမှတ်ခြင်းခံရပေမည်။[၂]

**မတ်စ်အလဟ် – (၆၅) မုသားစကားပြောခြင်းသည် နိဖားက်အယောင်ဆောင်ခြင်း၏ နိမိတ်လက္ခဏာများအနက်မှ တစ်ခုဖြစ်သည်။**

အဗူဟုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ်

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၆၀၉၆။

၂ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၄၉၉၁။

ﷺမိန့်ကြားတော်မူသည်။ “မုနာဖိက် သာသနာ့အယောင်ဆောင်၏လက္ခဏာ သုံးခုရှိသည်။ (၁) စကားပြောလျှင် လိမ်ပြောသည်။ (၂) ကတိပေးပြီးလျှင် ဖောက်ဖျက်သည်။ (၃) အပ်နှံခြင်းခံရလျှင် အလွဲသုံးစားလုပ်သည်။[၁]

**မတ်စ်အလဟ် – (၆၆) တမန်တော်မြတ် ﷺသည် မကောင်းသောအကျင့်စာရိတ္တများတွင် မုသားပြောခြင်းကို အမုန်းဆုံးဖြစ်သည်။**

အာအိရှဟ် ؓက ဆင့်ပြန်ပြောပြသည်။ မကောင်းသောအကျင့်စရိုက်များအနက် တမန်တော်မြတ် ﷺအမုန်းဆုံးမှာ မုသားပြောခြင်းဖြစ်သည်။ တစ်ဦးတစ်ယောက်သည် ကိုယ်တော်မြတ်ထံတွင် လိမ်လည်ပြောဆိုလိုက်သောအခါ ထိုသူသည် သောင်ဗဟ်လုပ်လိုက်ပြီဟု မိမိစိတ်ထဲတွင် မသိရမချင်း ထိုလိမ်လည်မှုကို စိတ်ထဲတွင် မှတ်ထားလေသည်။[၂]

**မတ်စ်အလဟ် – (၆၇) လိမ်ပြောခြင်းကြောင့် အရောင်းအဝယ်တွင် ဗရ်ကာသ် မင်္ဂလာမရှိပေ။**

ဟာကီးမ်ဗင်န်ဟိဇားမ် ؓထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “ရောင်းသူနှင့် ဝယ်သူ နှစ်ဦးတို့သည် တစ်ဦးနှင့်တစ်ဦး မခွဲခွာသေးမချင်း အရောင်းအဝယ်ကို ဖျက်သိမ်း ပိုင်ခွင့်ရှိသည်။ သူတို့နှစ်ဦးစလုံးသည် မှန်သောစကားကိုဆိုပြီး အပြစ်အနာအဆာကို ရှင်းပြပါ သူတို့နှစ်ယောက်စလုံး၏ အရောင်းအဝယ်တွင် ဗရ်ကာသ်မင်္ဂလာရှိလိမ့်မည်။ အကယ်၍ သူတို့နှစ်ဦးက အပြစ်အနာအဆာကို ဖုံးကွယ်ပြီး လိမ်လည်ပြောဆိုပါက နှစ်ဦးစလုံး၏အရောင်းအဝယ်မှ ဗရ်ကာသ်မင်္ဂလာ ရုပ်သိမ်းခြင်းခံရမည်။[၃]

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၅၉။

၂ – အိဗ်နဟိဗ်ဗာန်ကျမ်း၊ တွဲ – ၁၃၊ နံပါတ် ၅၇၃၆။

၃ – ဗုခါရီကျမ်း၊ နံပါတ် – ၂၀၇၉။

**မတ်စ်အလဟ် – (၆၈) လိမ်လည်ပြောဆိုခြင်းကြောင့် စိတ်နှလုံးသာ မည်းနက်သွားသည်။**

အဗ်ဒုလ္လာဟ်ဗင်န် မတ်စ်အူးဒ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ သူက အမိန့်ရှိသည်။ "လူတစ်ဦးသည် လိမ်လည်ပြောဆိုလိုက်သောအခါ သူ၏ နှလုံးသားတွင် အနက်ရောက်အစက်တစ်စက်ဖြစ်ပေါ်သွားသည်။ နောက်ဆုံးတွင် သူ၏နှလုံးသားသည် မည်းနက်သွားလေတော့သည်။ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်ထံတွင် သူသည် လူလိမ်လူညာအဖြစ် ရေးမှတ်ခြင်းခံရလေသည်။"[၁]

**မတ်စ်အလဟ် – (၆၉) လူတို့ရယ်မောစေရန်အတွက် လိမ်လည်ပြောဆိုသူအတွက် ပျက်စီးမှုအလုံးစုံ ရှိပေသည်။**

မုအာဝိယဟ်ဗင်န် ဗဟ်ရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ သူက ပြောပြသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်ကို ကျွန်ုပ် ကြားခဲ့သည်။ "လူတို့ ရယ်မောစေရန်အတွက် လိမ်လည်ပြောဆိုသူအတွက် ပျက်စီးမှုရှိသည်။ ထိုသူ့အတွက် ပျက်စီးမှုရှိသည်။ ထိုသူ့အတွက် ပျက်စီးမှုရှိသေည်။[၂]"

  

# (၂) လိမ်လည်ကျိန်ဆိုခြင်း

**မတ်စ်အလဟ် – (၇၀) လိမ်လည်၍ကျိန်ဆိုခြင်းသည်လည်းကြီးလေးသော အပြစ်ဖြစ်သည်။**

အဗ်ဒုလ္လဟ်ဗင်န် အမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺအမိန့်ရှိတော်မူသည်။ "ကြီးလေးသောပြစ်မှုများမှာ (၁)

၁ – မုအသ်သွာမာလိက်ကျမ်း။

၂ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၄၉၉၀။

ရှိရက်လုပ်ခြင်း၊ (၂) မိဘနှစ်ပါး၏အမိန့်ကို ဖီဆန်ခြင်း၊ (၃) လူ့အသက်ကို သတ်ဖြတ်ခြင်း၊ (၄) လိမ်လည်ကျိန်ဆိုခြင်းတို့ဖြစ်သည်။[၁]

**မတ်စ်အလဟ် – (၇၁) လိမ်လည်ပြောဆိုပြီး ဥစ္စာပစ္စည်းရောင်းချသူကို ကိယာမသ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် အောက်ပါပြစ်ဒဏ်များဖြင့် အပြစ်ပေးတော်မူမည်။**

**(၁) အလ္လာဟ်အရှင်မြတ်သည် အမျက်ဒေါသဖြစ်တော်မူသောကြောင့် ထိုသူနှင့် စကားပြောတော်မူမည်မဟုတ်ပေ။**

**(၂) ထိုသူသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ လက်မဲ့ဖြစ်လိမ့်မည်။**

**(၃) အလ္လာဟ်အရှင်မြတ်သည် ထိုသူ့အား သန့်ပြန့်စင်ကြယ်စေတော်မူမည်မဟုတ်ပေ။**

**(၄) ဂျဟန္နမ်ငရဲဘုံတွင် ပြင်းထန်သောအပြစ်ဒဏ်ကို ခံရမည်။**

အဗူဇရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ သုံးဦးသောသူကို အလ္လာဟ်အရှင်မြတ်သည် ကိယာမသ်နေ့တွင် စကားပြောတော်မူမည်မဟုတ်ပေ။ ထိုသူတို့အား ကြည့်ရှုမည်လည်းမဟုတ်ပေ။ ထိုသူတို့အား သန့်ပြန့်စင်ကြယ်စေတော်မူမည်လည်းမဟုတ်ပေ။ ထိုသူတို့အတွက် ပြင်းထန်သောအပြစ်ဒဏ် ရှိပေမည်။ တမန်တော်မြတ် ﷺသည် အထက်ပါထိုစကားကို သုံးကြိမ်တိုင်တိုင် မိန့်တော်မူသည်။ ကျွန်ုပ်က မေးမြန်းလျှောက်ထားခဲ့သည်။ အို – အလ္လာ့ဟ် တမန်တော် ထိုပျက်စီးဆုံးရှုံးကြသူများမှာ မည်သူများပါနည်း။ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူခဲ့သည်။ ပုဆိုးကို ခြေမျက်စိအောက် တရွတ်တိုက်ဝတ်ဆင်သူ၊ ကျေးဇူးပြုပြီးနောက် ဂုဏ်ဖော်သူ၊ လိမ်လည်ကျိန်ဆိုပြီး ကုန်ပစ္စည်းရောင်းချသူတို့ ဖြစ်ကြသည်။[၂]

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၆၈၇၀။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၀၆။

**မတ်စ်အလဟ် – (၇၂) သူတစ်ပါး၏ ဥစ္စာပစ္စည်းကို လိမ်လည်ကျိန်ဆိုပြီး ရယူသူသည် ဂျဟန္နမ်ငရဲဘုံသို့ သွားရမည်။**

အဗူအိုမာမဟ်အလ်ဟာရိဆီ ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။ မည်သူမဆို လိမ်လည်ကျိန်ဆိုချက်ဖြင့် မွတ်စ်လင်မ်တစ်ဦးတစ်ယောက်၏ ဥစ္စာပစ္စည်းကို မတရားဖြတ်ခုတ်ပါက အလ္လာဟ်အရှင်မြတ်သည် ထိုသူ့အတွက် ငရဲဘုံကို ဝါဂျိဗ်လုပ်တော်မူသည်။ ထိုသူ့အပေါ်တွင် ဂျန္နသ်သုခဘုံကို ဟာရာမ်အဖြစ် သတ်မှတ်တော်မူသည်။ လူတစ်ဦးက မေးမြန်းလျှောက်ထားခဲ့သည်။ အို–အလ္လာ့ဟ်တမန်တော်၊ပစ္စည်းအနည်းငယ်ဆိုလျှင်ရော။ကိုယ်တော်မြတ်က မိန့်ကြားတော်မူသည်။ သစ်ကိုင်းတစ်ကိုင်းစာဆိုလျှင်ပင် ထိုအပြစ်ကိုခံရမည်။[၁]



## (၃) အတင်းပြောခြင်း

**မတ်စ်အလဟ် – (၇၃) သူးတစ်ပါး၏အတင်းကို ပြောဆိုသူအတွက် ပျက်စီးခြင်းရှိသည်။**

وَيْلٌ لِّكُلِّ هُمَزَةٍ لُّمَزَةٍ ۝١

"နောက်ကွယ်အတင်းပြောသူတိုင်း၊ ရှေ့တွင် စောင်းချိတ်ရှုတ်ချသူ အပြစ်ပြောသူတိုင်းအတွက် ပျက်စီးမှု(ငရဲဘုံထဲမှ လျှိုတစ်ခု) ရှိသည်။"[၂]

**မတ်စ်အလဟ် – (၇၄) အသေသားစားခြင်းသည် ဟာရာမ်ဖြစ်သကဲ့သို့ပင် မွတ်စ်လင်မ်တစ်ဦးအား အတင်းပြောခြင်းသည်လည်း ဟာရာမ်ဖြစ်သည်။**

وَلَا يَغْتَب بَّعْضُكُم بَعْضًا ۚ أَيُحِبُّ أَحَدُكُمْ أَن يَأْكُلَ لَحْمَ أَخِيهِ مَيْتًا

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၃၇။

၂ – ကုရ်အာန် (၁၀၄း၁)

فَكَرِهْتُمُوْهُ

"ထို့ပြင် အသင်တို့ထဲမှ တစ်ဦးသည် တစ်ဦး၏ နောက်တွင် အတင်းမပြောရပေ။ အသင်တို့ထဲမှ မည်သူမဆို မိမိညီအစ်ကို၏အသေသား ကို စားသုံးရန် နှစ်သက်သလော။"[၁]

**မတ်စ်အလဟ် – (၇၅) သွယ်ဝိုက်ပြီး အတင်းပြောခြင်းသည်လည်း ကြီး လေးသောအပြစ်ဖြစ်သည်။**

အာအိရှဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်မသည် ကိုယ် တော်မြတ် ﷺ အား "ကိုယ်တော့်အဖို့ စွဖီယဟ် ﷺ ၏ အဘယ်အဘယ် ပြစ်ချက်များသည် လုံလောက်ပါသည်" ပြောဆိုခဲ့သည်။ (စွဖီယဟ် ﷺ ၏ အရပ်ပုခြင်းကို ရည်ညွှန်းပြောဆိုလိုက်ခြင်းဖြစ်သည်။) တမန်တော်မြတ် ﷺ က မိန့်ကြားတော်မူသည်။ အသင်မသည် စကားတစ်ခွန်းကို ပြောလိုက် လေပြီ။ အကယ်၍ ထိုစကားတစ်ခွန်းသည် ပင်လယ်ရေတွင်ရောနှောလိုက် ပါက ပင်လယ်ရေအားလုံး ခါးသွားပေလိမ့်မည်။[၂]

**မတ်စ်အလဟ် – (၇၆) အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တစ်ဦးတစ် ယောက်၏ အတင်းပြောဆိုသူကို အိမ်မှာထိုင်နေလျှင်လည်း သေးသိမ်စေ တော်မူမည်။**

အဗူဗရ်ဇဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်။ "နှုတ်လျှာကပဲ အီမာန်ယုံကြည်ပြီး နှလုံးသားအတွင်း သို့ အီမာန်ဝင်ရောက်ခြင်းမရှိသေးသောသူအပေါင်းတို့၊ အသင်တို့သည် မွတ်စ်လင်မ်တို့၏ အတင်းမပြောကြလေနှင့်၊ သူတို့၏ အပြစ်အနာအဆာ များကို လိုက်လံထောက်လှမ်းခြင်း မပြုကြလေနှင့်။ အဘယ်ကြောင့်ဆို သော် မည်သူမဆို မွတ်စ်လင်မ်များ၏ အပြစ်အနာအဆာများကို လိုက်လံ

---

၁ – ကုရ်အာန် ၄၉း ၁၂။
၂ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၄၈၇၅။

ထောက်လှမ်းခဲ့ပါက အလ္လာဟ်အရှင်မြတ်သည် ထိုသူ၏အပြစ်အနာအဆာကို ထောက်လှမ်းတော်မူမည်။ အကြင်သူ၏ အပြစ်အနာအဆာကို အလ္လာဟ်အရှင်မြတ် ထောက်လှမ်းပြီဆိုလျှင် ထိုသူ့အား အိမ်မှာထိုင်နေလျှင်လည်း အရှက်တကွဲအကျိုးနည်း ဖြစ်စေတော်မူသည်။[၁]

**မတ်စ်အလဟ် – (၇၇) အတင်းပြောသူများ၏ လက်သည်းများသည် ဂျဟာန္နမ်ငရဲဘုံတွင် ကြေးနီဖြင့်ပြောင်းလဲခြင်းခံရမည်။ သူတို့သည် ထိုလက်သည်းများဖြင့် မိမိတို့၏ မျက်နှာနှင့် လည်ပင်းရှိအသားများကို ကုတ်ခြစ်လိမ့်မည်။**

အနတ်စ်ဗင်န်မာလိက် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။ မိအ်ရာဂ်ျ ကောင်းကင်ဘုံသို့ သွားစဉ်အခါက ငါကိုယ်တော်သည် လူတစ်စုအနီးမှ ဖြတ်သွားခဲ့ရသည်။ ထိုသူတို့တွင် ကြေးနီလက်သည်းများရှိသည်။ သူတို့သည် ထိုလက်သည်းများဖြင့် မိမိတို့၏ မျက်နှာများနှင့် ရင်ဘတ်များကို ကုတ်ခြစ်နေကြသည်။ ငါကိုယ်တော်က မေးမြန်းသည်။ အို – ဂျိဗ်ရီးလ်၊ ထိုသူတို့မှာ မည်သူများနည်း။ ဂျိဗ်ရီးလ်က ဖြေကြားခဲ့သည်။ ထိုသူများမှာ လူတို့အား အတင်းအဖျင်း ပြောဆိုသူများ၊ လူတို့၏ ဂုဏ်သိက္ခာကို ထိပါးကြသူများ ဖြစ်ကြသည်။[၂]

**မတ်စ်အလဟ် – (၇၈) အတင်းအဖျင်းတစ်ခုသည် ငရဲဘုံ၏ မီးကျီခဲတစ်ခဲဖြစ်မည်။**

မွတ်စ်သောင်ရိဒ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။ မည်သူမဆို မွတ်စ်လင်မ်တစ်ဦးတစ်ယောက်အား အတင်းအဖျင်းတစ်လုပ်ကျွေးလျှင် အလ္လာဟ်အရှင်မြတ်သည် ထိုသူ့အား ဂျဟာန္နမ်ငရဲမီးမှ မီးခဲတစ်ခဲကျွေးတော်မူမည်။ မည်သူမဆို

---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၄၈၈၀။

၂ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၄၈၇၈။

မွတ်စ်လင်မ်တစ်ဦးအား အတင်းအဖျင်းဝတ်ရုံဝတ်ဆင်ပေးလျှင်(ခြေအစ ခေါင်းအဆုံးအတင်းပြောလျှင်) အလ္လာဟ်အရှင်မြတ်သည်လည်း ထိုသူအား ငရဲမီးဝတ်ရုံကို ဝတ်ဆင်ပေးတော်မူမည်။ (ခြေအစ ခေါင်းအဆုံး ငရဲမီးလောင်မြိုက်စေမည်)[၁]



## (၄) မဟုတ်မမှန် စွပ်စွဲပြောဆိုခြင်း

**မတ်စ်အလဟ် – (၇၉) အပြစ်ကင်းသောအမျိုးသမီးအား မဟုတ်မမှန်စွပ်စွဲပြောဆိုသူအပေါ် လောကီနှင့်လောကုတ္တရာ နှစ်ဌာနလုံးတွင် လအ်နသ်ကျမည်။ ထို့ပြင် ကြီးမားသောပြစ်ဒဏ် ခံရမည်။**

إِنَّ الَّذِينَ يَرْمُونَ الْمُحْصَنَاتِ الْغَافِلَاتِ الْمُؤْمِنَاتِ لُعِنُوا فِي الدُّنْيَا وَالْآخِرَةِ وَلَهُمْ عَذَابٌ عَظِيمٌ ﴿٢٣﴾ يَوْمَ تَشْهَدُ عَلَيْهِمْ أَلْسِنَتُهُمْ وَأَيْدِيهِمْ وَأَرْجُلُهُمْ بِمَا كَانُوا يَعْمَلُونَ ﴿٢٤﴾

အမှန် စင်စစ် ကာမဂုဏ်ကို ချုပ်တည်းသော၊ ရိုးသားဖြောင့်မတ်၍၊ သတိမမူဘဲမေ့မေ့လျော့လျော့နေတတ်သော *မုအ်မင်* အမျိုးသမီးများကို စွပ်စွဲသူများသည် ဤဘဝတွင်သာမက တမလွန်ဘဝတွင်လည်း ကရုဏာတော်မှ ကင်းဝေးစေခြင်း ခံကြရမည်ဖြစ်သည်။ ထို့ပြင် သူတို့အတွက် ကြီးလေးသော ပြစ်ဒဏ်လည်း ရှိမည်။ ထိုနေ့တွင် သူတို့၏ နှုတ်လျှာများ၊ လက်များနှင့် ခြေထောက်များသည် သူတို့နှင့် ဆန့်ကျင်ပြီး သူတို့ပြုကျင့်ခဲ့သည်များကို သက်သေခံကြမည်။[၂]

---

၁ – အဗူဒါဝူးဒ်ကျမ်း၊ ၄၈၈၁။

၂ – ကုရ်အာန် ၂၄ း ၂၃။

**မတ်စ်အလဟ် – (၈၀) မုအ်မင်န်အမျိုးသား၊ အမျိုးသမီးကို မတရားစွပ်စွဲပြောဆိုသူသည် ကိယာမသ်နေ့တွင် ငရဲဘုံသားများ၏ သွေပုပ်၊ ပြည်ပုပ်ထဲတွင် နေထိုင်ရမည်။**

အဗ်ဒုလ္လာဟ်ဗင်န်အုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်ုပ်သည် တမန်တော်မြတ် ﷺအမိန့်ရှိသည်ကို ကြားခဲ့သည်။ အကြင်မည်သူမဆို မုအ်မင်န်တစ်ဦးတွင် ရှိမနေသောအချက်ကို စွပ်စွဲပြောဆိုခဲ့ပါက အလ္လာဟ်အရှင်မြတ်သည် ထိုသူအား ဂျဟန္နမ်ငရဲဘုံသားများ၏ သွေးပြည်အိုင်ထဲတွင် မိမိ၏ စကားကို သက်သေမပြနိုင်မချင်း နေထိုင်စေတော်မူမည်။[၁]

**မတ်စ်အလဟ် – (၈၁) မိမိ၏ ကျေးကျွန်အပေါ် မဟုတ်မမှန် စွပ်စွဲပြောဆိုသူသည် ကိယာမသ်နေ့တွင် ဟဒ်ရှိကွင်းပြင်၌ "ဟဒ်" ပြစ်ဒဏ်ဖြင့် အရေးယူခြင်းခံရမည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။ မည်သူမဆို မိမိ၏ ကျေးကျွန်အား ဇိနာအမှုဖြင့် စွပ်စွဲခဲ့လျှင် ကိယာမသ်နေ့တွင် ထိုသူသည် မိမိစကားမှန်ကန်ကြောင်း မပြနိုင်မချင်း ဇိနာလုပ်သည့်ပြစ်ဒဏ်ပေးခြင်းခံရမည်။[၂]



## (၅) ကုန်းချောကုန်းတိုက်ခြင်း

**မတ်စ်အလဟ် – (၈၂) ကုန်းချောကုန်းတိုက်သူသည် ဂျန္နသ်သုခဘုံသို့ဝင်ရောက်ရမည်မဟုတ်။**

ဟုဇိုင်ဖဟ်ဗင်န်ယမာန် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်

၁ – အဗူဒါဝူးဒ်ကျမ်း၊နံပါတ် – ၃၅၉၇။
၂ – မွတ်စ်လင်မ်ကျမ်း၊ ၁၆၆၀။

တော်မြတ် ﷺ အမိန့်ရှိသည်ကို ကျွန်ုပ်ကြားခဲ့သည်။ ကုန်းချောကုန်းတိုက်လုပ်သူသည် ဂျန္နသ်သုခဘုံသို့ ဝင်ရောက်ရမည်မဟုတ်။[၁]

**မတ်စ်အလဟ် – (၈၃) ကုန်းချောကုန်းတိုက်လုပ်သူသည် ကဗရ်ထဲတွင် ပြစ်ဒဏ်ပေးခြင်းခံရသည်။**

အိဗ်နုအဗ္ဗားစ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် ကဗရ်နှစ်ခုအနီးမှ ဖြတ်သန်းသွားခဲ့သည်။ ကိုယ်တော်က အမိန့်ရှိသည်။ ထိုကဗရ်နှစ်ခု၏ပိုင်ရှင်များသည် အပြစ်ဒဏ်ပေးခြင်းခံနေရသည်။ ကြီးမားသောအမှုကိစ္စကြောင့် အပြစ်ခံနေရသည်မဟုတ်။ ပြီးနောက် အမိန့်ရှိတော်မူသည်။ အဘယ့်ကြောင့်မဟုတ်ရမည်နည်း။ သူတို့အနက်မှ တစ်ဦးသည် ကုန်းချောကုန်းတိုက်လုပ်သည်။ နောက်တစ်ဦးသည် ကျင်ငယ်စွန့်ရာတွင် သန့်ရှင်းစင်ကြယ်မှုကို သတိမထားပေ။[၂]

**ရှင်းလင်းချက်။** ။"ကြီးမားသောကိစ္စရပ်ကြောင့် အပြစ်ခံနေရသည်မဟုတ်ပေ"ဟူသောစကား၏အလိုသဘောမှာ ထိုကိစ္စရပ်နှစ်ခုသည် ရှောင်ကြဉ်ဖို့ ခက်ခဲသောကိစ္စရပ်များမဟုတ်ပေ။ ရှောင်ကြဉ်လိုလျှင် အလွယ်တကူ ရှောင်ကြဉ်နိုင်သောကိစ္စရပ်များ ဖြစ်သည်။

**မတ်စ်အလဟ် – (၈၄) လူတို့အနက် အဆိုးဆုံးသောသူမှာ ကုန်းချောကုန်းတိုက်သူ ဖြစ်သည်။**

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။ လူတို့အနက် အဆိုးဆုံးသောသူမှာ မျက်နှာနှစ်ဖက်နှင့်လူကို အသင်တို့တွေ့ရမည်။ သူသည် ဤအုပ်စုဘက်လာလျှင် တစ်မျက်နှာ၊ ဟိုအုပ်စုဘက်လာလျှင် တစ်မျက်နှာဖြစ်သည်။ (ကုန်းချော

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၀၅။

၂ – ဗုခါရီကျမ်း၊ ၂၁၈။

ကုန်းတိုက်လုပ်သည်။)[၁]

  

## (၆)ကျိန်ဆဲခြင်း

**မတ်စ်အလဟ် – (၈၅) အကြောင်းမဲ့သက်သက် တစ်ဦးတစ်ယောက်အား ကျိန်ဆဲခြင်းသည် ဂျဟန္နမ်ငရဲဘုံသွားရမည့် အကြောင်းခံဖြစ်သည်။**

အဗူစအီးဒ်ခုဒ်ရီ ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် အီဒုလ်အဒ္ဓဟာ သို့မဟုတ် အီးဒုလ်ဖိသွရ်နေ့တွင် စွလားသ် ဝတ်ပြုကွင်းသို့ ထွက်လာတော်မူရင်း အမျိုးသမီးများအနီးမှ ဖြတ်သန်းတော်မူရာ ကိုယ်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ အို – အမျိုးသမီးအပေါင်းတို့ – စွဒကဟ်အလှူဒါနပေးကြကုန်။ ငရဲဘုံသားများအနက် အများစုမှာ အသင်မတို့အမျိုးသမီးများဖြစ်နေသည်ကို ငါကိုယ်တော်တွေ့ခဲ့ရသည်။ ထိုအခါ အမျိုးသမီးများက လျှောက်ထားမေးမြန်းကြသည်။ အို – အလ္လာဟ်တမန်တော်၊ အဘယ့်အတွက်ကြောင့်ပါနည်း။ ကိုယ်တော်မြတ် ﷺ က အမိန့်ရှိတော်မူသည်။ အသင်မတို့သည် ကျိန်ဆဲခြင်းကို များမြောင်စွာ ပြုကြသည်။ လင်ယောကျ်ားကို ကျေးဇူးကန်းကြသည်။[၂]

**မတ်စ်အလဟ် – (၈၆) ကျိန်ဆဲခြင်းခံရသူသည် ကျိန်ဆဲမှုနှင့်ထိုက်တန်သူ မဟုတ်ပါက ကျိန်ဆဲသူကိုယ်တိုင် ကျိန်စာထိမည်။**

အဗုဒ်ဒရ်ဒါအ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺအမိန့်ရှိတော်မူသည်။ ကျေးကျွန်တစ်ဦးသည် အရာတစ်ခုကို ကျိန်ဆဲလိုက်သောအခါ ထိုကျိန်ဆဲမှုသည် ကောင်းကင်ပေါ်သို့ တက်သွားလေသည်။ ထိုအခါ မိုးကောင်းကင်တံခါးများသည် ထိုကျိန်ဆဲမှုမတက်လာနိုင်

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၇၁၇၉။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၁၄၆၂။

အောင် ပိတ်သွားလေသည်။ ထို့နောက် ယင်းကျိန်ဆဲမှုသည် မြေပြင်ပေါ်သို့ ဆင်းသက်လာပြန်သည်။ ထိုအခါ မြေပြင်ပေါ်ဆင်းလို့မရအောင် တံခါးများ ပိတ်သွားလေသည်။ ထို့နောက် ယင်းကျိန်ဆဲမှုသည် ဘယ်ညာသို့ လှည့် ပတ်သည်။ နောက်ဆုံး သွားစရာနေရာမတွေ့တော့သောအခါ ကျိန်ဆဲခြင်း ခံရသူသည် ကျိန်ဆဲခြင်းနှင့် ထိုက်တန်သူဖြစ်ပါက သူ့ထံသို့လာလေသည်။ သို့မဟုတ်ပါက ကျိန်ဆဲသူထံသို့ ပြန်သွားလေသည်။[၁]

**မတ်စ်အလဟ် – (၈၇) လအ်နသ်ကျိန်ဆဲခြင်းသည် သတ်ဖြတ်ခြင်းနှင့် အတူတူပင် ဖြစ်သည်။**

ဆာဗိသ်ဗင်န် ဿဝှဟ်ဟားက် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ်အမိန့်ရှိသည်။မုအ်မင်န်တစ်ဦးအားလအ်နသ်ကျိန်ဆဲခြင်း သည် သူ့အား သတ်ဖြတ်သကဲ့သို့ ဖြစ်သည်။[၂]

  

## (၇) ရှန့်ရင်းကြမ်းတမ်းခြင်း

**မတ်စ်အလဟ် – (၈၈) ရန့်ရင်းကြမ်းတမ်းစွာ ပြောဆိုသူသည် ငရဲဘုံသို့ လားရမည်။**

အိယာသ်ဗင်န်ဟိမား၏ အလ်မုဂျာရှိအီ ﷺ ထံမှ ဆင့်ပြန်ချက် လာရှိသည်။တစ်ရက်တွင်တမန်တော်မြတ် ﷺ သည်ခွသ်ဗဟ်မိန့်ခွန်းတွင် မိန့်ကြားတော်မူသည်။ ဂျဟန္နမ်ငရဲဘုံသား ငါးမျိုးရှိသည်။ (၁) ဟလာလ် နှင့်ဟရာမ် မခွဲခြားသော လူ့ဗာလများဖြစ်သည်။ သူတို့သည် လူတို့နောက် သို့ မျက်စိစုံမှိတ် လိုက်ကြသည်။ မိသားစုနှင့် စီးပွားဥစ္စာကို ဂရုမစိုက်ကြ။ (၂) သစ္စာမရှိသူ။ ထိုသူသည် လိုအပ်လျှင် သေးသေးမွှားမွှားအရာကိုပင်

---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၄၉၀၅။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၁၀။

သစ္စာမဲ့သည်။ (၃) အသင်၏ မိသားစုနှင့် ဥစ္စာပစ္စည်းကို လှည့်ဖြားရန် နေ့နေ့ညည ကြံရွယ်သူ။ (၄) ကပ်စေးနဲသူ၊ သို့မဟုတ် လိမ်လည်သူ။ (၅) ရန့်ရင်းကြမ်းတမ်းစွာ ပြောဆိုသူတို့ ဖြစ်ကြသည်။[၁]

**မတ်စ်အလဟ် – (၈၉) ရန့်ရင်းကြမ်းတမ်းစွာပြောဆိုခြင်းသည် မုနာဖိက် သာသနာ့အရေခြုံ၏ နိမိတ်လက္ခဏာများအနက်မှ နိမိတ်လက္ခဏာတစ်ခု ဖြစ်သည်။**

အဗ်ဒုလ္လာဟ်ဗင်န်အမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ အမိန့်ရှိသည်။ အချက်လေးချက်နှင့် ကိုက်ညီသူသည် မုနာဖိက်အရေခြုံစစ်စစ် ဖြစ်မည်။ ထိုအထဲမှ အချက်တစ်ချက်နှင့် ကိုက်ညီသူတွင် ထိုအချက်ကို မစွန့်လွှတ်မချင်း မုနာဖိက်၏ အရည်အချင်းတစ်ခုရှိသူဖြစ်မည်။ (၁) အပ်နှံခြင်းရလျှင် အလွဲသုံးစားလုပ်သည်။ (၂) စကားပြောသောအခါ လိမ်လည်သည်။ (၃) ကတိပေးသောအခါ ဖောက်ဖျက်သည်။ အချင်းများရန်ဖြစ်သောအခါ ရန့်ရင်းကြမ်းတမ်းသည်။[၂]



## (၈) ကျေးဇူးပြုပြီးနောက် ဂုဏ်ဖော်ခြင်း

**မတ်စ်အလဟ် – (၉၀) ကျေးဇူးပြုပြီးနောက် ဂုဏ်ဖော်ခြင်းသည် အကျိုးကုသိုလ်ကို အချည်းနှီးဖြစ်သွားစေသည်။**

يَاَيُّهَا الَّذِيْنَ اٰمَنُوْا لَا تُبْطِلُوْا صَدَقٰتِكُمْ بِالْمَنِّ وَ الْاَذٰى

အို – *အီမာန်* ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အသင်တို့၏ အလှူဒါနများကိုဂုဏ်ဖော်မှု၊စိတ်ဒုက္ခပေးမှုတို့ဖြင့်အကြင်သူကဲ့သို့အချည်း

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၈၆၅။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၃၃၊ ၃၄။

နီးဖြစ်အောင် မပြုလုပ်ကြနှင့်။[၁]

**မတ်စ်အလဟ် – (၉၁) ကိယာမသ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် အမျက်ဒေါသကြောင့် သုံးဦးသောသူအား စကားပြောမည်မဟုတ်ပေ။**

အဗူဇရ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "လူသုံးဦးကို အလ္လာဟ်အရှင်မြတ်သည် ကိယာမသ် နေ့တွင် စကားပြောတော်မူမည်မဟုတ်ပေ။ (၁) မိမိပေးလိုက် သမျှသော အရာအတွက် ဂုဏ်ဖော်လေ့ရှိသူ၊ (၂) ကုန်ပစ္စည်းကို လိမ်လည် ကျိန်ဆိုပြီး ရောင်းချခြင်း၊ (၃) လုံချည်ကို ခြေမျက်စိအောက် တရွတ်တိုက်ဝတ်သူတို့ ဖြစ်ကြသည်။[၂]

**မတ်စ်အလဟ် – (၉၂) ကျေးဇူးပြုပြီးနောက် ဂုဏ်ဖော်သူသည် ကိယာမသ် နေ့တွင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ လက်မဲ့ဖြစ်မည်။**

ရှင်းလင်းချက်။ ။မတ်စ်အလဟ်နံပါတ် (၂၈၄) အောက်တွင် ရှုပါ။



## (၉) လိမ်လည်သက်သေထွက်ဆိုခြင်း

**မတ်စ်အလဟ် – (၉၃) လိမ်လည်သက်သေထွက်ဆိုခြင်းသည် အကြီးမား ဆုံးသောပြစ်မှုတစ်ခု ဖြစ်သည်။**

وَالَّذِيْنَ لَا يَشْهَدُوْنَ الزُّوْرَ ۙ وَاِذَا مَرُّوْا بِاللَّغْوِ مَرُّوْا كِرَامًا ﴿٧٢﴾

ထို့ပြင် ထိုသူ(*ရဟ်မာန်*၏ကျွန်)များသည် မုသားလိမ်လည်ပြီး သက် သေမထွက်ဆိုကြပေ။ (မုသားလိမ်ပြီး သက်သေမခံကြပေ)။ ထို့ပြင် သူတို့ သည် အကျိုးမဲ့လုပ်ရပ်၏ အနီးမှ ဖြတ်သန်းသွားကြသည့်အခါ၊ (မျက်လွှာ

၁ – ကုရ်အာန် ၂၅း ၂၆၄။
၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၀၆။

ချပြီး)သိက္ခာရှိရှိ ဖြတ်သန်းသွားကြသည်။[၁]

အနတ်စ်ဗင်န်မာလိက် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺအမိန့်ရှိသည်။ "အကြီးမားဆုံးသောပြစ်မှုများမှာ (၁) အလ္လာဟ်အရှင်မြတ်အား ရှိရက်လုပ်ခြင်း၊ (၂) လူ့အသက် သတ်ဖြတ်ခြင်း၊ (၃) မိဘနှစ်ပါး၏အမိန့်ကို ဖီဆန်ခြင်း၊ (၄) လိမ်လည်ပြောဆိုခြင်း၊ သို့မဟုတ် လိမ်လည်သက်သေထွက်ဆိုခြင်းတို့ ဖြစ်သည်။[၂]

**မတ်စ်အလဟ် - (၉၄) အဗ်ဒုလ္လာဟ်ဗင်န် မတ်စ်အူးဒ် ﷺသည် လိမ်လည်သက်သေထွက်ဆိုခြင်း၏ ပြစ်မှုကို ရှိရက်၏ပြစ်မှုနှင့် တန်းတူသတ်မှတ်သည်။**

အဗ်ဒုလ္လာဟ်ဗင်န်မတ်စ်အူးဒ် ﷺက အမိန့်ရှိသည်။ လိမ်လည်သက်သေထွက်ဆိုခြင်းသည် ရှိရက်နှင့် တန်းတူညီမျှဖြစ်သည်။ ထို့နောက် ၎င်းက ဤအာယသ်တော်ကို ရွတ်ဖတ်လေသည်။



သို့ဖြစ်ရာ အသင်တို့သည် အညစ်အကြေးဖြစ်သော ရုပ်တုများ(ကိုတုဖက်ကိုးကွယ်ခြင်း)မှ ရှောင်ကြဉ်ကြပါ။ ထို့ပြင် အသင်တို့သည် မုသားလိမ်လည်ပြောဆိုခြင်းမှလည်း ရှောင်ကြဉ်ကြပါ။[၃]

❋ ❋ ❋

၁ – ကုရ်အာန် ၂၅း ၇၂။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၆၈၇၁၊ ၆၂၇၃။

၃ – ကုရ်အာန် ၂၂း ၃၀။

## (၁၀) လှောင်ပြောင်ခြင်း

**မတ်စ်အလဟ် - (၉၅) သူတစ်ပါးကို လှောင်ပြောင်ခြင်းသည် ဟာရာမ်ဖြစ်သည်။**

يَاَيُّهَا الَّذِيْنَ اٰمَنُوْا لَا يَسْخَرْ قَوْمٌ مِّنْ قَوْمٍ عَسٰى اَنْ يَّكُوْنُوْا خَيْرًا مِّنْهُمْ وَ لَا نِسَاۤءٌ مِّنْ نِّسَاۤءٍ عَسٰى اَنْ يَّكُنَّ خَيْرًا مِّنْهُنَّ ۚ

အို - အီမာန်ယုံကြည်သူအပေါင်းတို့၊ အမျိုးသားများသည်(အခြား) အမျိုးသားများကို မပြောင်လှောင်ရပေ။ ထို(လှောင်ပြောင်ခံရသည့်)အမျိုးသားများသည် ထို(ပြောင်လှောင်သည့်)အမျိုးသားများထက် ကောင်းမြတ်သူများဖြစ်ကောင်း ဖြစ်နိုင်သည်။ ထို့ပြင် အမျိုးသမီးများသည်လည်း (အခြား)အမျိုးသမီးများကို မပြောင်လှောင်ရပေ။ ထို(အပြောင်ခံရသည့်) အမျိုးသမီးများသည် ထို(ပြောင်လှောင်သည့်) အမျိုးသမီးများထက် ကောင်းမြတ်သူမများ ဖြစ်ကောင်းဖြစ်နိုင်သည်။[၁]

**မတ်စ်အလဟ် - (၉၆) သူတစ်ပါးကို လှောင်ပြောင်သောသူသည် ကိယာမသ်နေ့တွင် သူတစ်ပါး၏ လှောင်ပြောင်ခြင်းကို ပြန်ခံရမည်။**

ဟာစန် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "လူတို့အား လှောင်ပြောင်သောသူများအား ကိယာမသ်နေ့တွင် ဂျန္နသ်သုခဘုံမှ တံခါးတစ်ချက်ပွင့်လာပြီး ပြောမည်။ အသင်တို့လာကြလေ၊အသင်တို့လာကြလေ။ထိုအခါထိုသူသည်ပူဆွေးသောကဖြင့် လာလိမ့်မည်။ သူရောက်လာသောအခါ တံခါးပိတ်သွားမည်။ ထို့နောက် တံခါးနောက်တစ်ချက်ပွင့်လာပြီး အသင်တို့ လာကြလေ၊ အသင်တို့ လာကြလေ။ ထိုအခါ ထိုသူသည် ပူဆွေးသောကဖြင့် လာလိမ့်မည်။ သူရောက်လာသောအခါတံခါးပိတ်သွားမည်။ ထိုနည်းအတိုင်း အဆက်မပြတ် ဖြစ်နေလိမ့်မည်။ နောက်ဆုံးတွင် ထိုသူတို့အတွက် ဂျန္နသ်သုခဘုံ၏ တံခါးများအနက်မှ

၁ - ကုရ်အာန် (၄၉း ၁၁)

တံခါးတစ်ချက်ပွင့်လာပြီး "အသင် လာပါ၊ အသင် လာပါ" ဟု ခေါ်လိမ့်မည်။ သို့သော် သူသည် မျှော်လင့်ချက်မဲ့ပြီး သွားလိမ့်မည်မဟုတ်ပေ။[၁]

**မတ်စ်အလဟ် – (၉၇) လူတစ်ဦးတစ်ယောက်၏ ပုံတူလိုက်တု၍ လှောင်ပြောင်ခြင်းကို တမန်တော်မြတ် ﷺ သည် အလွန်မုန်းတီးတော်မူပေသည်။**

အာအိရှဟ် ؓ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "တစ်ဦးတစ်ယောက်၏ ပုံစံတူလိုက်တုခြင်းကို ငွေကြေးဥစ္စာ အမြောက်အမြားပေးလျှင်လည်း ငါကိုယ်တော်လုပ်မည် မဟုတ်ပေ။[၂]



## (၁၁) ကတိမတည်ခြင်း

**မတ်စ်အလဟ် – (၉၈) အလ္လာဟ်အရှင်မြတ်၏နာမတော်ဖြင့် ကတိပေးပြီးနောက် ကတိမတည်သောသူများကို ကိယာမသ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ရန်သူသဖွယ် ဆက်ဆံတော်မူမည်။**

အဗူဟုရိုင်ရဟ် ؓ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "အလ္လာဟ်အရှင်မြတ် မိန့်ကြားတော်မူသည်။ ကိယာမသ်နေ့တွင် ငါအရှင်မြတ်သည် လူသုံးဦးကို တရားစွဲမည်။ (၁) ပထမတစ်ဦးမှာ ငါအရှင့်နာမည်ဖြင့် ကတိပေးပြီးနောက် ကတိဖောက်ဖျက်သည်။ (၂) ဒုတိယတစ်ဦးမှာ လွတ်လပ်သူတစ်ဦးကိုရောင်းချပြီး အခကြေးငွေစားသုံးသည်။ (၃) တတိယတစ်ဦးမှာ အလုပ်သမားကို အလုပ်အပြည့်အဝခိုင်းစေပြီး လုပ်အားခ အပြည့်မပေးသူတို့ ဖြစ်ကြသည်။[၃]



---

၁ – ဗိုင်ဟကီကျမ်း။

၂ – သိရ်မိဇီကျမ်း၊ နံပါတ် – ၂၅၀၂။

၃ – ဗုခါရီကျမ်း၊ နံပါတ် – ၂၂၂၇။

## (၁၂) ရည်ရွယ်ချက်မဲ့ စကားပြောဆိုခြင်း

**မတ်စ်အလဟ် – (၉၉) ရည်ရွယ်ချက်မရှိဘဲအချည်းနှီးစကားများပြောဆိုသူသည် တစ်ခါတစ်ရံ မပြောပလောက်သောစကားရပ်ကို မိမိပြောလိုက်သည်ဟု ထင်မှတ်၍ နေသည်။ သို့သော် ထိုစကားရပ်သည် အလ္လာဟ်အရှင်မြတ်၏ အမျက်တော်ရှစေသည်။ ထိုစကားကြောင့်ပင် သူသည် ငရဲဘုံသို့ သွားရလေသည်။**

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "အမှန်စင်စစ် လူတစ်ဦးသည် အလ္လာဟ်အရှင်မြတ် မနှစ်မြို့သောစကားရပ်တစ်ခုကို ပြောဆိုလိုက်သည်။ ထိုစကားရပ်သည် အပယိကဟု သူထင်မှတ်သည်။ သို့သော် ထိုစကားရပ်ကြောင့် သူသည် ဂျဟန္နမ်ငရဲဘုံသို့ ကျရောက်သွားသည်။"[၁]

**မတ်စ်အလဟ် – (၁၀၀) အလ္လာဟ်အရှင်မြတ်သည် အကျိုးမဲ့အချည်းနှီးစကားပြောသူများကို နှစ်မြို့တော်မမူပေ။**

အဗ်ဒုလ္လာဟ်ဗင်န်အုမရ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။ "အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အကြွင်သူကို မုန်းတီးတော်မူသည်။ ထိုသူသည် နွား ကောက်ရိုးဝါးသကဲ့သို့ တစ်ချိန်လုံး အကျိုးမဲ့စကားပြောနေသည်။"[၂]

**မတ်စ်အလဟ် – (၁၀၁) ရည်ရွယ်ချက်မဲ့၊ အချည်းနှီး စကားပြောသူများသည် တမန်တော်မြတ် ﷺ ထံတွင်လည်း ရွံရှာဖွယ်ရာကောင်းသူဖြစ်မည်။**

ဂျာဗိရ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ အသင်တို့အနက် ငါကိုယ်တော် အမုန်းဆုံးသူ၊ ငါကိုယ်တော်၏ ထိုင်ဝိုင်းနှင့် အဝေးဆုံးနေရမည့်

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၆၄၇၈။

၂ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၅၀၀၅။

သူမှာ စကားများများပြောသူ၊ အကျိုးမဲ့ ပါးစပ်ကလာရာပြောသူ၊ မောက်မာစွာစကားပြောသူတို့ ဖြစ်ကြသည်။[၁]

**မတ်စ်အလဟ် – (၁၀၂) အကျိုးမဲ့၊ ပါးစပ်ကလာရာစကားပြောသူသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ ကင်းဝေးသည်။**

အိဗ်နုအုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ ဇိကိရ်တသမူမရှိဘဲ စကားများများမပြောကြလေနှင့်။ ဇိကိရ်တသမူမပါဘဲ စကားများများပြောခြင်းသည် စိတ်နှလုံးကို ခက်ထန်မာကြောစေသည်။ လူတို့အနက် အလ္လာဟ်အရှင်မြတ်နှင့် အဝေးကွာဆုံးသူမှာ စိတ်နှလုံးမာကြောသူဖြစ်သည်။[၂]



## (၁၃) စာရိတ္တမကောင်းသူ

**မတ်စ်အလဟ် – (၁၀၃) စာရိတ္တမကောင်းသောသူသည် ဂျန္နသ်သို့ သွားရမည်မဟုတ်ပေ။**

ဟာရိစဟ်ဗင်န်ဝဟဗ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ပြဿနာအလွန်ရှာသူ၊ စာရိတ္တမကောင်းသူသည် ဂျန္နသ်သို့ သွားရမည်မဟုတ်။[၃]



---

၁ – သိရ်မိဇီကျမ်း၊ နံပါတ် – ၂၀၁၈။

၂ – သိရ်မိဇီကျမ်း၊ နံပါတ် – ၂၄၁၁။

၃ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၇၆၉၉။

## (၁၄) ဆဲရေးတိုင်းထွာခြင်း

**မတ်စ်အလဟ် – (၁၀၄) မွတ်စ်လင်မ်တစ်ဦးတစ်ယောက်အား ဆဲရေးတိုင်းထွာခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အဗ်ဒုလ္လာဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ မွတ်စ်လင်မ်တစ်ဦးအား ဆဲရေးတိုင်းထွာခြင်းသည် ကြီးလေးသောအပြစ်ထိုက်သည်။ မွတ်စ်လင်မ်တစ်ဦးအား သတ်ဖြတ်ခြင်းသည် ကုဖ်ရ်ဖြစ်သည်။[၁]

  

## (၁၅) သိကၡာချခြင်း

**မတ်စ်အလဟ် – (၁၀၅) သူတစ်ပါးအား ရှေ့မှောက်တွင် သိက္ခာချသူအတွက် ပျက်စီးဆုံးရှုံးမှု ရှိပေသည်။**

وَيۡلٞ لِّكُلِّ هُمَزَةٖ لُّمَزَةٍ ۝١

"နောက်ကွယ်အတင်းပြောသူတိုင်း၊ ရှေ့တွင် စောင်းချိတ်ရှုတ်ချသူ အပြစ်ပြောသူတိုင်းအတွက် ပျက်စီးမှု(ငရဲဘုံထဲမှ လျှိုတစ်ခု)ရှိသည်။"[၂]

စအီးဒ်ဗင်န်ဇိုင်ဒ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺအမိန့်ရှိသည်။ "မတရားလုပ်မှုများအနက် အကြီးများဆုံးသော မတရားလုပ်မှုမှာ မွတ်စ်လင်မ်တစ်ဦးတစ်ယောက်အား အကြောင်းမဲ့ သိက္ခာချခြင်း ဖြစ်သည်။[၃]

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၄၈။

၂ – ကုရ်အာန် (၁၀၄း၁)

၃ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၄၈၇၆။

**မတ်စ်အလဟ် – (၁၀၆) မွတ်စ်လင်မ်တစ်ဦး၏ ဂုဏ်သိက္ခာကို ထိပါးစော်ကားခြင်းသည် ဟာရာမ်ဖြစ်သည်။**

အဗူဟုရိုင်ရဟ် ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ မွတ်စ်လင်မ်တစ်ဦးသည် နောက်မွတ်စ်လင်မ်တစ်ဦး၏ ညီနောင်ဖြစ်သည်။ ထို့ကြောင့် မိမိညီနောင်အား သစ္စာမဖောက်နှင့်၊ သူ့အား လိမ်မပြောနှင့်၊ သူ့အား အကူအညီမပေးဘဲ မစွန့်ပယ်နှင့်။ မွတ်စ်လင်မ်တစ်ဦးတိုင်း၏ ဂုဏ်သိက္ခာနှင့် ဥစ္စာပစ္စည်းသည် နောက်မွတ်စ်လင်မ်တစ်ဦးအဖို့ ဟာရာမ်ဖြစ်သည်။ သက္ကဝါတရားသည် ဤနေရာ (နှလုံးသား)မှ လာသည်။ မိမိ၏ မွတ်စ်လင်မ်ညီနောင်တစ်ဦးအား အထင်သေးခြင်းသည် လူတစ်ဦးပျက်စီးဖို့ လုံလောက်ပေသည်။[၁]

**မတ်စ်အလဟ် – (၁၀၇) မွတ်စ်လင်မ်တစ်ဦးအား သိက္ခာချခြင်း၏ အပြစ်သည် အတိုးအမျိုးအစားများအနက် အပြစ်လွန်ကြီးလေးသော အတိုးအမျိုးအစားအပြစ်နှင့် ညီမျှသည်။**

ဗရာအ်ိ ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ “အတိုး၏တံခါးပေါက် (၇၀) ရှိသည်။ အနိမ့်ဆုံးအဆင့်မှာ မိမိ၏ မိခင်အား ဇိနာကျူးလွန်သကဲ့သို့ ဖြစ်သည်။ အဆိုးရွားဆုံးသောအတိုးမှာ မွတ်စ်လင်မ်ညီနောင်တစ်ဦးအား သိက္ခာချခြင်းဖြစ်သည်။[၂]

**မတ်စ်အလဟ် – (၁၀၈) သူတစ်ပါးအား သိက္ခာချသူ၊ စော်ကားသူများအတွက် ပျက်စီးဆုံးရှုံးမှု ရှိသည်။**

အဗ်ဒုလ္လာဟ်ဗင်န်အုမရ် ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် မင်န်ဗရ်ပလ္လင်ပေါ်မှ မိန့်ကြားတော်မူသည်။ “သူတစ်

---

၁ – သိရ်မိဇီကျမ်း၊ နံပါတ် – ၁၉၂၇။

၂ – သွဗ်ရာနီကျမ်း၊ နံပါတ် – ၇၁၅၁။

ပါးအား သိက္ခာချပြီး စော်ကားမော်ကားပြောဆိုသူတို့အတွက် ပျက်စီးဆုံးရှုံးမှု ရှိပေသည်။[၁]



## (၁၃) မကောင်းထင်မြင်ခြင်း

**မတ်စ်အလဟ် – (၁၀၉) မကောင်းထင်မြင်ခြင်းသည် ကြီးလေးသော အပြစ်ဖြစ်သည်။**

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا ٱجْتَنِبُوا كَثِيرًا مِّنَ ٱلظَّنِّ إِنَّ بَعْضَ ٱلظَّنِّ إِثْمٌ وَلَا تَجَسَّسُوا وَلَا يَغْتَب بَّعْضُكُم بَعْضًا أَيُحِبُّ أَحَدُكُمْ أَن يَأْكُلَ لَحْمَ أَخِيهِ مَيْتًا فَكَرِهْتُمُوهُ وَٱتَّقُوا ٱللَّهَ إِنَّ ٱللَّهَ تَوَّابٌ رَّحِيمٌ ﴿١٢﴾

အို – *အီမာန်*ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် ထင်မြင်ယူဆချက် အမြောက်အမြားမှ ရှောင်ကြဉ်ကြပါ။ အမှန်စင်စစ် အချို့ထင်မြင်ယူဆချက်သည် အပြစ်ဖြစ်သည်။ ထို့ပြင် အသင်တို့သည် (သူတစ်ပါး၏ ချွတ်ယွင်းချက်များအား)စပ်စုခြင်း မပြုကြနှင့်။ ထို့ပြင် အသင်တို့ထဲမှ တစ်ဦးသည် တစ်ဦး၏ နောက်တွင် အတင်းမပြောရပေ။ အသင်တို့ထဲမှ မည်သူမဆို မိမိညီအစ်ကို၏ အသေသားကို စားသုံးရန် နှစ်သက်သလော။ ထို့ပြင် အသင်တို့သည် ထို(အသေသားစားခြင်း)ကို စက်ဆုပ်ကြမည်ပင်ဖြစ်သည်။ထို့ပြင် အသင်တို့သည် *အလ္လာဟ်*အရှင်မြတ်အား ကြောက်ရွံ့ကြပါ။ အမှန်စင်စစ် *အလ္လာဟ်*အရှင်မြတ်သည် အမှားဝန်ခံမှုကို အကြိမ်ကြိမ်လက်ခံခွင့်လွှတ်တော်မူသောအရှင်၊ အလွန်သနားကြင်နာတော်မူသော အရှင်ဖြစ်တော်မူသည်။[၂]

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ်

---

၁ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် – ၆၅၄၁။

၂ – ကုရ်အာန် (၄၉း၁၂)

ﷺမိန့်ကြားတော်မူသည်။ “အသင်တို့သည် မကောင်းထင်မြင်ခြင်းမှ ရှောင်ကြဉ်ကြကုန်။ အဘယ်ကြောင့်ဆိုသော် မကောင်းထင်မြင်ခြင်းသည် အလိမ်ညာဆုံးသောစကားဖြစ်သည်။ သူတစ်ပါး၏ အပြစ်အနာဆာကို မစပ်စုကြနှင့်၊ မထောက်လှမ်းကြနှင့်၊ နဂျ်ရှ်မလုပ်ကြနှင့်၊ တစ်ဦးကိုတစ်ဦး မနာလိုဝန်တိုမှုမထားကြနှင့်၊ တစ်ဦးကိုတစ်ဦး မုန်းတီးစိတ်မထားကြနှင့်။ တစ်ဦးနှင့်တစ်ဦး အဆက်အဆံမလုပ်ဘဲ ကျောခိုင်းခြင်းမပြုကြနှင့်။ အို-အလ္လာဟ်အရှင်မြတ်၏ကျေးကျွန်တို့၊တစ်ဦးနှင့်တစ်ဦးညီရင်းအစ်ကိုကဲ့သို့ နေထိုင်ကြကုန်။”[၁]

ရှင်းလင်းချက်။ ။ နဂျ်ရှ်ဟူသည်မှာ လူတစ်ဦးသည် ကုန်ပစ္စည်း ဝယ်ရန် ရည်ရွယ်ချက်မရှိ။ သို့သော် ဆိုင်ရှင်နှင့် လက်ဝါးရိုက်ထားသည်။ ဈေးဝယ်သူတစ်ဦးလာလျှင်၊ ဈေးပိုပေးပြီး ကြားဖြတ်လာဝယ်သည်။ ထို အခါ အမှန်တကယ် လိုချင်သောဈေးဝယ်သူက ထိုဈေးကြီးပေးပြီး ဝယ်ယူရအောင်ဖြစ်သည်။



## (၁၇) အရှက်ကင်းမဲ့မှုများ ဖြန့်ချိခြင်း

**မတ်စ်အလဟ်-(၁၁၀) အမျိုးသမီးများ၏ ဖော်လှန်ချွတ်ခြင်း၊ မလုံ့တလုံအဝတ်အစားများဝတ်ဆင်ခြင်း၊ လိင်စိတ်နှိုးဆွသောပုံများရိုက်ကူးဖြန့်ခြင်း၊ လိင်စိတ်နှိုးဆွသော သီချင်းများ၊ ဂီတများ၊ ဇာတ်လမ်းတွဲများ၊ ရုပ်ရှင်များ၊ ဝတ္ထုများဖြင့် မွတ်စ်လင်မ်များအတွင်း အရှက်ကင်းမဲ့မှု ဖြန့်ချိသောသူများ အတွက် လောကီလောကုတ္တရာ နှစ်ဌာနလုံးတွင် ပြင်းထန်သောအပြစ်ဒဏ် ရှိပေသည်။**

إِنَّ الَّذِيْنَ يُحِبُّوْنَ اَنْ تَشِيْعَ الْفَاحِشَةُ فِى الَّذِيْنَ اٰمَنُوْا لَهُمْ عَذَابٌ

၁ - ဗုခါရီကျမ်း၊ နံပါတ် - ၆၀၆၄။

اَلِيۡمٌ ۙ فِى الدُّنۡيَا وَ الۡاٰخِرَةِ ‌ؕ وَ اللّٰهُ يَعۡلَمُ وَ اَنۡتُمۡ لَا تَعۡلَمُوۡنَ ﴿۱۹﴾

အမှန်စင်စစ် *အီမာန်* ယုံကြည်သူများထဲတွင် ညစ်ညမ်းသည့်စကား ပျံ့ပွားသည်ကို နှစ်သက်သည့်သူများအတွက် ဤဘဝနှင့် တမလွန်ဘဝတွင် သူတို့အတွက် ပြင်းထန်သော ပြစ်ဒဏ်ရှိမည်။ ထို့ပြင် *အလ္လာဟ်* အရှင်မြတ်သည် သိရှိတော်မူသည်၊ အသင်တို့ကမူ မသိနားမလည်ကြပေ။[1]

**မတ်စ်အလဟ် – (၁၁၁) မွတ်စ်လင်မ်အသိုင်းအဝန်းအတွင်း၌ အရှက်တရားကင်းမဲ့မှုများ ဖြန့်ချိသောသူများသည် ရှိုင်သွာန်၏ အဖွဲ့သားများ ဖြစ်ကြသည်။**

يٰۤاَيُّهَا الَّذِيۡنَ اٰمَنُوۡا لَا تَتَّبِعُوۡا خُطُوٰتِ الشَّيۡطٰنِ‌ ؕ وَمَنۡ يَّتَّبِعۡ خُطُوٰتِ الشَّيۡطٰنِ فَاِنَّهٗ يَاۡمُرُ بِالۡفَحۡشَآءِ وَالۡمُنۡكَرِ‌ ؕ

အို – *အီမာန်* ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် *ရှိုင်သွာန်* ၏ ခြေရာများနောက်ကို မလိုက်ကြနှင့်။ ထို့ပြင် မည်သူ မဆို *ရှိုင်သွာန်*၏ ခြေရာများနောက်ကို လိုက်ပါလျှင် အမှန်စင်စစ် ထို *ရှိုင်သွာန်*သည် ရှက်စရာကိစ္စနှင့် မကောင်းမှုကိုသာ လုပ်ရန် ညွှန်ကြားလိမ့်မည်။[2]

**မတ်စ်အလဟ် – (၁၁၂) အရှက်တရားကင်းမဲ့မှု လွှမ်းမိုးနေသောလူမျိုးစုများကို အလ္လာဟ်အရှင်မြတ်သည် ပလိပ်ရောဂါ သို့မဟုတ် ထိုကဲ့သို့သော ကပ်ရောဂါများဖြင့် အရေးယူတော်မူသည်။**

**ရှင်းလင်းချက်။ ဟဒီးဆ်ကို မတ်စ်အလဟ်အမှတ်(၄၁၁)တွင် ရှုပါ။**



၁ – ကုရ်အာန် (၂၄း ၁၉)

၂ – ကုရ်အာန် (၂၄း ၂၁)

## (၁၈) သက်သေဖုံးကွယ်ခြင်း

**မတ်စ်အလဟ် - (၁၁၃) သိသိကြီးနှင့် သက်သေဖုံးကွယ်ထားခြင်းသည် ကြီးလေးသောအပြစ်ထိုက်သည်။**

وَلَا تَكْتُمُوا الشَّهَادَةَ ۚ وَمَن يَكْتُمْهَا فَإِنَّهُ آثِمٌ قَلْبُهُ ۗ وَاللَّهُ بِمَا تَعْمَلُونَ


عَلِيمٌ ﴿٢٨٣﴾

၎င်းပြင် အသင်တို့သည် သိမြင်သမျှကို မထိမ်ချန်ကြနှင့်။ ထို့ပြင် အကြင်သူသည် တွေ့မြင်သမျှကို ထိမ်ချန်မည်ဆိုလျှင် ထိုသူ၏ စိတ်နှလုံးသည် ပြစ်မှု ကျူးလွန် သူ၏ စိတ်နှလုံးဖြစ်မည်။[၁]



## (၁၉) ပညာကို ထိန်ချန်ထားခြင်း

**မတ်စ်အလဟ် - (၁၁၄) သာသနာ့အသိပညာများကို သိပါလျက်နှင့် ထိန်ချန်ထားသူသည် ကိယာမသ်နေ့တွင် မီးနှဖားကြိုး အထိုးခံရမည်။**

အဗူဟုရိုင်ရဟ် ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ “မည်သူမဆို သာသနာ့အသိပညာတစ်ခု အမေးခံရသောအခါ သိပါလျက်နှင့် ထိန်ချန်ခဲ့ပါက ကိယာမသ်နေ့တွင် မီးနှဖားကြိုး အထိုးခံရမည်။[၂]



---

၁ - ကုရ်အာန် (၂း ၂၈၃)

၂ - အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် - ၂၆၆။

## (၂၀) အစွဲထားခြင်း

**မတ်စ်အလဟ် – (၁၁၅) ဘာသာစကားအစွဲ၊ လူမျိုးစွဲ၊ ဒေသစွဲစသည့် အစွဲများထားခြင်းသည် လူသားကို ငရဲဘုံထဲ ကျစေလိမ့်မည်။**

အဗ်ဒုအလ္လာဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်ုပ်သည် ကိုယ်တော်မြတ် ﷺထံသို့ လာခဲ့သည်။ ထိုအချိန် ကိုယ်တော်မြတ်သည် သားရေဖြင့်လုပ်ထားသော ရွက်ဖျဉ်တဲတွင် ရှိနေသည်။ ကိုယ်တော်မြတ်က မိန့်ကြားတော်မူခဲ့သည်။ "အမှန်တရားပေါ်တွင် ရပ်တည်မနေသော မိမိ၏ မျိုးနွယ်ကို ကူညီသောသူသည် ကျင်းထဲသို့ ကျနေသော ကုလားအုပ်အား အမြီးမှကိုင်၍ ဆွဲတင်နေသကဲ့သို့ ဖြစ်သည်။ (ဘယ်သောအခါမှ ထိုသို့ ဆွဲတင်နိုင်မည်မဟုတ်ပေ)[၁]

**မတ်စ်အလဟ် – (၁၁၆) လူတစ်ဦးသည် အစွဲစိတ်ကြောင့် လူတစ်ဦးအား ကူညီပံ့ပိုးလျှင် အလ္လာဟ်အရှင်မြတ်သည် ထိုကူညီပံ့ပိုးမှုအား မစွန့်လွှတ်မချင်း ထိုသူ့ကို အမျက်ထွက်တော်မူပေသည်။**

အဗ်ဒိလ္လာဟ်ဗင်န်အုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်ကို ကျွန်ုပ်ကြားခဲ့သည်။ "မည်သူမဆို သိပါလျက်နှင့် အမှားဘက်မှ အမှုလိုက်၍ ဖြေရှင်းပေးခဲ့သော် ထိုကိစ္စကို မစွန့်လွှတ်မချင်း အလ္လာဟ်အရှင်မြတ်၏ အမျက်ဒေါသတွင် ရှိနေမည်ဖြစ်သည်။[၂]

**မတ်စ်အလဟ် – (၁၁၇) အစွဲထားသောသူသည် ငါကိုယ်တော်၏ အွမ္မသ်နောက်လိုက်သားမဟုတ်ပေ။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်

---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၅၁၁၇။

၂ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၃၅၉၇။

မြတ် ﷺ မိန့်ကြားတော်မူသည်။ "မည်သူမဆို မျက်ကန်းအလံအောက်တွင် အများပေါ်ရပ်တည်နေသောသူဘက်မှမျိုးချစ်စိတ်ဖြင့်ဝင်ရောက်တိုက်ခိုက်ရင်း အသတ်ခံရပါက၊ မျိုးချစ်စိတ်ကြောင့် အများဘက်မှ ဝင်ရောက်တိုက်ခိုက်ခဲ့ပါက ထိုသူသည် ငါ၏ အွမ္မသ်နောက်လိုက်သား မဟုတ်ပေ။"[၁]



## (၂၁) မနာလိုဝန်တိုခြင်း

**မတ်စ်အလဟ် – (၁၁၈) မနာလိုဝန်တိုခြင်းသည် လူသား၏သာသနာရေးကို အမြစ်မှ ဖြတ်တောက်ပစ်သည်။**

ဇိုဗိုင်ရ်ဗင်န် အောက်ဝါးမ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ "ရှေးယခင်လူမျိုးများတွင်ရှိခဲ့သော မနာလိုဝန်တိုခြင်းနှင့် မလိုမုန်းတီးခြင်းရောဂါဆိုးများသည် အသင်တို့အတွင်းသို့လည်း စွဲကပ်လာလေပြီ။ ထိုရောဂါများသည် ရိတ်သိမ်းပစ်သည်။ သင်တို့၏ ဆံချည်များကို ရိတ်သိမ်းပစ်သည်ဟု ငါမဆိုလို။ အသင်တို့၏ သာသနာရေးကို ရိတ်သိမ်းပစ်သည်ဟု ငါဆိုလိုပေသည်။"[၂]

**မတ်စ်အလဟ် – (၁၁၉) မနာလိုဝန်တိုစိတ်ထားသူသည် ထိုမနာလိုစိတ်ကို မစွန့်လွှတ်မချင်း အလ္လာဟ်အရှင်မြတ်၏ မဂ်ဖိရသ်ခွင့်လွှတ်ချမ်းသာပေးမှုမှ လက်မဲ့ဖြစ်ရပေသည်။**

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "တနင်္လာနေ့နှင့် ကြာသပတေးနေ့များတွင် ဂျန္နသ်သုခဘုံ၏တံခါးများ ပွင့်လေသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်နှင့်အတူ တခြားအရာအား ရှိရ်က်မလုပ်သောသူအားလုံးအတွက်

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၈၄၈။
၂ – သိရ်မိဇီကျမ်း၊ နံပါတ် – ၂၅၁၀။

ခွင့်လွှတ်ချမ်းသာပေးခြင်းခံရသည်။ သို့သော် စိတ်နလုံးတွင် အကောက် အတေးထားသူမပါဝင်ပေ။ အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်တမန်များအား အမိန့်ရှိမည်။ ဤနှစ်ယောက်ကိုမူ သူတို့မပြေလည်မချင်း အသင်တို့ စောင့်ဆိုင်းကြကုန်။ သူတို့အချင်းချင်း ပြေလည်သွားချိန်အထိ အသင်တို့ စောင့်ဆိုင်းကြကုန်။[၁]



## (၂၂) သူတစ်ပါး၏ အရေးကိစ္စများကို ထောက်လှမ်းခြင်း

**မတ်စ်အလဟ် – (၁၂၀) သူတစ်ပါး၏ အရေးကိစ္စများကို ထောက်လှမ်းခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ ٱجْتَنِبُوا۟ كَثِيرًا مِّنَ ٱلظَّنِّ إِنَّ بَعْضَ ٱلظَّنِّ إِثْمٌ وَ

لَا تَجَسَّسُوا۟ وَلَا يَغْتَب بَّعْضُكُم بَعْضًا

အို – *အီမာန်*ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် ထင်မြင်ယူဆချက် အမြောက်အမြားမှ ရှောင်ကြဉ်ကြပါ။ အမှန်စင်စစ် အချို့ထင်မြင်ယူဆချက်သည် အပြစ်ဖြစ်သည်။ ထို့ပြင် အသင်တို့သည် (သူတစ်ပါး၏ ချွတ်ယွင်းချက်များအား)စပ်စုခြင်း မပြုကြနှင့်။ ထို့ပြင် အသင်တို့ထဲမှ တစ်ဦးသည် တစ်ဦး၏ နောက်တွင် အတင်းမပြောရပေ။[၂]

**မတ်စ်အလဟ် – (၁၂၁) သူတစ်ပါး၏ အရေးကိစ္စများကို ထောက်လှမ်းစပ်စုသောသူကို အလ္လာဟ်အရှင်မြတ်သည် အိမ်မှာထိုင်နေရင်းလည်း သေးသိမ်စေတော်မူမည်။**

အဗူဗရ်ဇဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်။ “နှုတ်လျှာကပဲအီမာန်ယုံကြည်ပြီးနလုံးသားအတွင်း

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၅၆၅။
၂ – ကုရ်အာန် (၄၉း ၁၂)

သို့ အီမာန်ဝင်ရောက်ခြင်းမရှိသေးသောသူအပေါင်းတို့၊ အသင်တို့သည် မွတ်စ်လင်မ်တို့၏ အတင်းမပြောကြလေနှင့်၊ သူတို့၏ အပြစ်အနာအဆာများကို လိုက်လံထောက်လှမ်းခြင်း မပြုကြလေနှင့်။ အဘယ်ကြောင့်ဆိုသော် မည်သူမဆို မွတ်စ်လင်မ်များ၏ အပြစ်အနာအဆာများကို လိုက်လံထောက်လှမ်းခဲ့ပါက အလ္လာဟ်အရှင်မြတ်သည် ထိုသူ၏အပြစ်အနာအဆာကို ထောက်လှမ်းတော်မူမည်။ အကြင်သူ၏ အပြစ်အနာအဆာကို အလ္လာဟ်အရှင်မြတ် ထောက်လှမ်းပြီဆိုလျှင် ထိုသူ့အား အိမ်မှာထိုင်နေလျှင်လည်း အရှက်တကွဲအကျိုးနည်း ဖြစ်စေတော်မူသည်။[၁]

**မတ်စ်အလဟ် – (၁၂၂) ကိယာမသ်နေ့တွင် သူတစ်ပါး၏အရေးကိစ္စများကို ထောက်လှမ်းသူ၊ သူတစ်ပါး၏အတွင်းရေးများကို တိတ်တဆိတ် ခိုးနားထောင်သူ၏ နားထဲသို့ ခဲရည်လောင်းထည့်ခြင်းခံရမည်။**

အိဗ်နုအဗ္ဗားစ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မည်သူမဆို လူတစ်စု၏စကားများကို သူတို့၏ နှစ်သက်မှုမရှိဘဲ၊ သို့မဟုတ် သူတို့က ဝေးဝေးရှောင်နေပါလျက်နှင့် ခိုးနားထောင်ခဲ့မည်ဆိုပါက ကိယာမသ်နေ့တွင် သူ၏ နားထဲသို့ ခဲရည်ပူ လောင်းထည့်ခြင်းခံရမည်။[၂]

  

---

၁ – အဗူဒါဝူဒ်ကျမ်း၊ နံပါတ် – ၄၈၈၀။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၇၀၄၂။

## (၂၃) အရက်သေစာ သောက်သုံးခြင်း

**မတ်စ်အလဟ် - (၁၂၃)** အရက်သေစားသောက်သုံးခြင်းသည် ကြီးလေးသောအပြစ် ဖြစ်သည်။

يَاَيُّهَا الَّذِيْنَ اٰمَنُوْٓا اِنَّمَا الْخَمْرُ وَ الْمَيْسِرُ وَ الْاَنْصَابُ وَ الْاَزْلَامُ رِجْسٌ مِّنْ عَمَلِ الشَّيْطٰنِ فَاجْتَنِبُوْهُ لَعَلَّكُمْ تُفْلِحُوْنَ ﴿٩٠﴾ اِنَّمَا يُرِيْدُ الشَّيْطٰنُ اَنْ يُّوْقِعَ بَيْنَكُمُ الْعَدَاوَةَ وَ الْبَغْضَآءَ فِى الْخَمْرِ وَ الْمَيْسِرِ وَ يَصُدَّكُمْ عَنْ ذِكْرِ اللّٰهِ وَ عَنِ الصَّلٰوةِ ۚ فَهَلْ اَنْتُمْ مُّنْتَهُوْنَ ﴿٩١﴾

အို - *အီမာန်* ယုံကြည်သူအပေါင်းတို့၊ အရက်၊ လောင်းကစားမှု၊ ရုပ်တု ဆင်းတု၊ မြားများ(ဖြင့်ကံစမ်းခြင်း)တို့သည် *ရှိုင်သွာန်*၏လုပ်ရပ်များထဲမှ အလွန်ဆိုးဝါး ညစ်ညမ်းသော ကိစ္စများဖြစ်သည်။ သို့ဖြစ်ရာ အသင်တို့သည် ထိုအရာများကို အသင်တို့အောင်မြင်ရန်အတွက် ရှောင်ကြဉ်ကြပါ။ စင်စစ် *ရှိုင်သွာန်* သည် အရက်၊ လောင်းကစားနှင့်ပတ်သက်၍ အသင်တို့ကြားတွင် ရန်ငြိုးမှုနှင့် မုန်းတီးမှုကို ဖြစ်ပေါ်စေရန်နှင့် အသင်တို့အား *အလ္လာဟ်* အရှင်မြတ်၏ သတိရမှုနှင့် *စွလာသ်* ဝတ်ပြုမှုမှ တားဆီးရန်ကိုသာ ရည်ရွယ်နေသည်။ သို့ဖြစ်ရာ အသင်တို့သည် (အရက်သောက်ခြင်းနှင့် လောင်းကစားခြင်းမှ) ရပ်တန့်ကြမည်လော။(ဝါ) ရပ်တန့်ကြပါ။[၁]

**မတ်စ်အလဟ် - (၁၂၄)** အရက်သေစာသောက်သုံးသူနှင့်အတူ အရက်သေစာထုတ်လုပ်မှုတွင်ပါဝင်ပတ်သက်သူအားလုံး လအ်နသ်သင့်မည်။

အနတ်စ်ဗင်န်မာလိက် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် အရက်သေစာနှင့်ပတ်သက်သောသူဆယ်ဦးကို လအ်နသ်ပို့တော်မူသည်။ (၁) အရက်ညှစ်သူ၊ (၂) အရက်ညှစ်ခိုင်းသူ၊ (၃) အရက်သောက်သုံးသူ၊ (၄) အရက်သယ်ယူပို့ဆောင်သူ၊ (၅) အရက်သယ်

---

၁ - ကုရ်အာန် ၉၀ ၊ ၉၁။

ယူပို့ဆောင်းပေးခြင်းခံရသူ၊ (၆) အရက်တိုက်ကျွေးသူ၊ (၇) အရက်ရောင်းချသူ၊ (၈) အရက်မှရသောဝင်ငွေကို စားသုံးသူ၊ (၉) အရက်ဝယ်ယူသူ၊ (၁၀) အရက်ဝယ်ပေးခြင်းခံရသူတို့ ဖြစ်ကြသည်။[၁]

ရှင်းလင်းချက်။ ။ အရက်သေစာသည် မကောင်းမှုအားလုံး၏ ရင်းမြစ်ဖြစ်သည်။ ထို့ကြောင့်ပင် ၎င်း၏ဆိုးကျိုးများမှ လူ့အသိုင်းအဝန်းကို ကာကွယ်ရန်အတွက် အစမှ အဆုံးတိုင် အသေးအမွှားပါဝင်ပတ်သက်မှုကို ပင်လျှင် ဟရာမ်အဖြစ် တားမြစ်ထားခြင် ဖြစ်သည်။

**မတ်စ်အလဟ် – (၁၂၅) အရက်သေစာရောင်းဝယ်ခြင်းမှ ရရှိသောဝင်ငွေသည် ဟရာမ်ဖြစ်သည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အရက်သေစာနှင့် အရက်သေစာမှရရှိသောဝင်ငွေကို ဟရာမ်အဖြစ်သတ်မှတ်တော်မူသည်။ ထို့ပြင် အသေကောင်နှင့် အသေကောင်မှရရှိသော ဝင်ငွေကို ဟရာမ်အဖြစ်သတ်မှတ်တော်မူသည်။ ထို့ပြင် ဝက်နှင့် ဝက်မှရသောငွေကို ဟရာမ်အဖြစ်သတ်မှတ်တော်မူသည်။[၂]

**ရှင်းလင်းချက်။** ဟရာမ်ဝင်ငွေဖြင့်ပြုလုပ်သော အလှူဒါနနှင့် အိဗာဒသ်များကို အလ္လာဟ်အရှင်မြတ် လက်ခံတော်မမူပေ။

**မတ်စ်အလဟ် – (၁၂၆) အရက်သေစာရှိသောစားသောက်ဝိုင်းတွင် ထိုင်ခြင်းကိုလည်း တားမြစ်ထားသည်။**

အိဗ်နအုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “မည်သူမဆို အလ္လာဟ်အရှင်မြတ်နှင့် နောက်ဆုံးကိယာမသ်နေ့ကို အီမာန်ယုံကြည်သည်ဆိုလျှင် အရက်သေစာတင်

---

၁ – သိရ်မိဇီကျမ်း၊ နံပါတ် – ၁၂၉၅။

၂ – အဗူဒါဝူဒ်ကျမ်း၊

ထားသော စားသောက်ပွဲတွင် မထိုင်လေနှင့်။[၁]

**မတ်စ်အလဟ် – (၁၂၇) ငယ်ရွယ်သောကလေးသူငယ်အား အရက်တိုက်ကျွေးသူ မိဘဖြစ်စေ၊ ဆရာဝန်ဖြစ်စေ အပြစ်ဒဏ်ခံရမည်။**

အိဗ်နအဗ္ဗားစ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "ဟလာလ်နှင့်ဟရာမ် ခွဲခြားသိရှိခြင်းမရှိသော ကလေးသူငယ်ကို အရက်တိုက်ကျွေးသူအား အလ္လာဟ်အရှင်မြတ်သည် ဂျဟန္နမ်ငရဲဘုံသားများ၏ သွေးပြည်ပုပ်များ တိုက်ကျွေးတော်မူမည်။[၂]

**မတ်စ်အလဟ် – (၁၂၈) အရက်သေစာသည် မကောင်းမှုအားလုံး၏ သော့တံ ဖြစ်သည်။**

အဗုဒ်ဒရ်ဒါအ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်ုပ်အား ကျွန်ုပ်၏အချစ်တော် တမန်တော်မြတ် ﷺ က မှာတမ်းပြုတော်မူသည်။ "အသင် အရက်မသောက်လေနှင့်။ အကြောင်းမှာ အရက်သည် မကောင်းမှုအားလုံး၏ သော့တံဖြစ်သည်။[၃]

**မတ်စ်အလဟ် – (၁၂၉) အိဗာဒသ်တွေ အမြဲမွေ့လျော်နေသောသူတော်စင်ပင်လျှင် အရက်သေစာသောက်ပြီးနောက် ဇိနာအမှုနှင့် လူသတ်မှုကို ကျူးလွန်မိခဲ့သည်။**

အွတ်စ်မာန် ﷺ က ဆင့်ပြန်ပြောပြသည်။ "အရက်သေစာသောက်သုံးခြင်းမှအသင်တို့ရှောင်ကြဉ်ကြကုန်။အကြောင်းမှာအရက်သေစာသည် မကောင်းမှုများ၏ဇစ်မြစ်ဖြစ်သည်။ ရှေးယခင်ကလူမျိုးစုများတွင် သူတော်စင်တစ်ပါးရှိခဲ့သည်။ ထိုသူတော်စင်ကို မိန်းမပျက်တစ်ဦးက ဖြားယောင်းရန်

---

၁ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း။

၂ – အဗူဒါဝူဒ်ကျမ်း၊ နံပါတ် – ၃၆၈၀။

၃ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၂၇၃၃။

ကြုံရွယ်ခဲ့သည်။ သို့နှင့် သူမက သူတော်စင်ထံသို့ မိမိ၏ ကျေးကျွန်မကို စေလွှတ်ပြီး ကိစ္စတစ်ခုတွင် သက်သေခံရန်အတွက် သူ့အား ခေါ်ခိုင်းလိုက်လေသည်။ သူတော်စင်သည် ကျွန်မနှင့်အတူ လိုက်ပါသွားခဲ့သည်။ အိမ်သို့ရောက်သောအခါ တံခါးပေါက်တစ်ခုမှ သူတော်စင်ဝင်လိုက်တိုင်း ကျေးကျွန်မ သည် ထိုတံခါးအားအတွင်းဘက်မှပိတ်လိုက်သည်။ နောက်ဆုံးတွင် သူတော်စင်သည် ရုပ်ရည်ချောမောလှပသောအမျိုးသမီးတစ်ဦးထံ ရောက်လာခဲ့သည်။ သူမ၏ ဘေးတွင် ယောက်ျားကလေးတစ်ဦးနှင့် အရက်အိုးရှိသည်။ ထိုအမျိုးသမီးက ပြောသည်။ ကျေးကျွန်မသည် အသင့်အား ခေါ်ခိုင်းလိုက်ရခြင်းမှာ သက်သေထွက်ဆိုရန်အတွက်မဟုတ်၊ ကျွန်မနှင့်ပေါင်းသင်းဆက်ဆံရန်အတွက် သို့မဟုတ် ဤအရက်အိုးမှ တစ်ခွက်ကို သောက်သုံးရန် အတွက်၊ သို့မဟုတ် ဤလူငယ်လေးအား သတ်ဖြတ်ရန်အတွက်ဖြစ်သည်။ ထိုအခါ သူတော်စင်က "ကျွန်ုပ်အား အရက်တစ်ခွက်ကိုပဲ တိုက်လိုက်ပါ" ဟုပြောပြီး အရက်ခွက်ကို သောက်လိုက်သည်။ (အရက်တစ်ခွက် သောက်ပြီးသောအခါ) ကျွန်ုပ်အား နောက်တစ်ခွက်ထပ်ပေးပါဟု ပြောလေသည်။ ထို့နောက်တွင် သူတော်စင်သည် အမျိုးသမီးနှင့်လည်း ကျူးလွန်သည်။ လူလည်း သတ်လိုက်လေတော့သည်။

ထို့ကြောင့် အသင် တို့သည် အရက် သေစာကို ရှောင်ကြဉ်ကြကုန်။ အလ္လာဟ်အရှင်မြတ်၏ကစမ်၊ အရက်သောက်သောအကျင့်နှင့် အီမာန်ယုံကြည်မှုတို့သည် တစ်နေရာတည်း မစုရုံးနိုင်ပေ။ ထိုနှစ်ခုအနက်မှ တစ်ခုသည် နောက်တစ်ခုအား သေချာပေါက် ထုတ်ပစ်မည်ဖြစ်သည်။[၁]

**မတ်စ်အလဟ် – (၁၃၀) လူသတ်ခြင်း၊ ဇိနာကျူးလွန်ခြင်းနှင့် ဝက်သားစားခြင်းကို ရွံ့ရှာမုန်းတီးသူတစ်ဦးသည် အရက်သောက်ပြီးနောက် သုံးခုစလုံးကို ကျူးလွန်လေတော့သည်။**

အဗ်ဒုလ္လာဟ်ဗင်န်အမရ် ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်

---

၁ – နစာအီကျမ်း၊ နံပါတ် – ၅၆၈၂။

တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ “အစ္စရာအီလ်မျိုးနွယ်ဝင်များတွင် ဘုရင်တစ်ပါးရှိခဲ့သည်။ ယင်းဘုရင်သည် လူတစ်ဦးကိုခေါ်ယူပြီး အရက်သောက်ခြင်း၊ သို့မဟုတ် လူသတ်ခြင်း၊ သို့မဟုတ် ဇိနဟ်ကျူးလွန်ခြင်း၊ သို့မဟုတ် ဝက်သားစားခြင်းတို့အနက်မှ တစ်ခုကို ရွေးလျှင်ရွေး၊ မဟုတ်လျှင် သူ့အား သတ်ပစ်မည်ဟုဆိုလေသည်။ ထိုအခါ ယင်းလူက အရက်ကိုသာ ရွေးချယ်သောက်သုံးလိုက်သည်။ ထို့နောက်တွင်မူ ဘုရင်ရွေးချယ်ခိုင်းသောအရာအားလုံးကို ကျူးလွန်လိုက်လေတော့သည်။”[၁]

**မတ်စ်အလဟ် – (၁၃၁) အသိစိတ်ကျန်ရှိနေသည့်အတိုင်းအတာခန့်ထိ အရက်သောက်သုံးလိုက်လျှင် ထိုအရက်၏ မူးယစ်မှုကျန်ရှိနေသမျှကာလပတ်လုံး စွလားသ်ဝတ်ပြုမှု လက်ခံခြင်းမခံရပေ။**

**မတ်စ်အလဟ် – (၁၃၂) အသိစိတ်မကျန်ရှိတော့သည်အတိုင်းအတာခန့်ထိ အရက်သောက်သုံးလိုက်လျှင် ရက်ပေါင်း(၄၀)အတွင်းရှိ စွလားသ်ဝတ်ပြုမှု လက်ခံခြင်းမခံရပေ။**

**မတ်စ်အလဟ် – (၁၃၃) အရက်သောက်သုံးထားစဉ် ကွယ်လွန်သေဆုံးသွားပါက ကာဖိရ်အဖြစ် ကွယ်လွန်သေဆုံးခြင်းဖြစ်သည်။**

အိဗ်နအုမရ် ؓ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ “မည်သူမဆို အရက်သောက်သုံးလိုက်သည်၊ သို့သော် မမူးယစ်ပါက ထိုသူ၏ ဝမ်းဗိုက်သို့မဟုတ် အကြောများတွင် ထိုအရက်ကျန်ရှိနေသမျှ စွလားသ်ဝတ်ပြုမှု လက်ခံခြင်းမခံရပေ။ အကယ်၍ ထိုအတောအတွင်း သေဆုံးပါက ကာဖိရ်အဖြစ် သေဆုံးခြင်းဖြစ်မည်။ အကယ်၍ အရက်သောက်သုံးပြီး မူးယစ်သွားပါက ရက်ပေါင်း(၄၀)အတွင်း စွလားသ်ဝတ်ပြုမှု လက်ခံခြင်းမခံရပေ။ ထိုအတောအတွင်း သေဆုံးပါက ကာဖိရ်အဖြစ် သေဆုံးခြင်းဖြစ်သည်။”[၂]

---

၁ – သွဗ်ရာနီကျမ်း။

၂ – နစာအီကျမ်း၊ နံပါတ် – ၅၆၈၄။

**မတ်စ်အလဟ် – (၁၃၄) အရက်သေစာသောက်သုံးသူ၏ သောင်ဗဟ်ဝန်ချတောင်းပန်မှုကို သုံးကြိမ်ထိ လက်ခံခြင်းခံရမည်။**

**မတ်စ်အလဟ် – (၁၃၅) သောင်ဗဟ်ဝန်ချတောင်းပန်မှုအား အကြိမ်ကြိမ်ချိုးဖျက်သူကို အလ္လာဟ်အရှင်မြတ်သည် ဂျဟန္နမ်ငရဲဘုံသားများ၏သွေးပြည်ပုပ်များ တိုက်ကျွေးတော်မူမည်။**

အိဗ်နအုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အရက်သေစာသောက်သုံးသူ၏ ရက်ပေါင်း (၄၀) စွလားသ်ဝတ်ပြုမှု လက်ခံခြင်းမခံရပေ။ အကယ်၍ ထိုသူသည် သောင်ဗဟ်အမှားဝန်ချတောင်းပန်ပါက အလ္လာဟ်အရှင်မြတ်က သူ၏ သောင်ဗဟ်ကို လက်ခံတော်မူသည်။ အကယ်၍ ထပ်မံကျူးလွန်ပါက ရက်ပေါင်း(၄၀) စွလားသ်ဝတ်ပြုမှု လက်ခံခြင်းမခံရပေ။ အကယ်၍ ထိုသူသည် သောင်ဗဟ်အမှားဝန်ချတောင်းပန်ပါက အလ္လာဟ်အရှင်မြတ်က သူ၏ သောင်ဗဟ်ကို လက်ခံတော်မူသည်။ အကယ်၍ ထိုသူသည် တတိယ အကြိမ် ထပ်မံကျူးလွန်ပါက ရက်ပေါင်း(၄၀) စွလားသ်ဝတ်ပြုမှု လက်ခံခြင်းမခံရပေ။ အကယ်၍ ထိုသူသည် သောင်ဗဟ်အမှားဝန်ချတောင်းပန်ပါက အလ္လာဟ်အရှင်မြတ်က သူ၏သောင်ဗဟ်ကို လက်ခံတော်မူသည်။ အကယ်၍ထိုသူသည်စတုတ္ထအကြိမ်ထပ်မံကျူးလွန်ပါကရက်ပေါင်း(၄၀) စွလားသ်ဝတ်ပြုမှု လက်ခံခြင်းမခံရပေ။ ထိုသူသည် သောင်ဗဟ်အမှားဝန်ချတောင်းပန်လျင်လည်း အလ္လာဟ်အရှင်မြတ်က သူ၏သောင်ဗဟ်ကို လက်ခံတော်မူမည်မဟုတ်တော့ပေ။ အလ္လာဟ်အရှင်မြတ်သည် ထိုသူ့အပေါ်အမျက်ထွက်တော်မူမည်။ သူ့အား "ခဘားလ်"မြစ်မှ တိုက်ကျွေးတော်မူမည်။ ထိုအခါ အိဗ်နအုမရ်အား မေးမြန်းကြသည်။ "ခဘားလ်"မြစ်ဆိုသည်မှာ အဘယ်အရာနည်း။ သူက ပြောပြသည်။ ငရဲဘုံသားများ၏ သွေးပြည်ပုပ်များဖြင့် စီးတွေနေသောမြစ်ချောင်းဖြစ်သည်။[၁]

---

၁ – သိရ်မိဇီကျမ်း၊ နံပါတ် – ၁၈၆၂။

**မတ်စ်အလဟ် - (၁၃၆) အရက်သေစာသောက်သုံးခြင်း၏ ပြစ်ဒဏ်မှာ ကြိမ်ဒဏ် (၈၀) ချက် ဖြစ်သည်။**

အနတ်စ်ဗင်န်မာလိက် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺထံသို့ အရက်သေစာသောက်ထားသောသူတစ်ဦးကို ခေါ်လာခြင်းခံရသောအခါ ကိုယ်တော်မြတ်က ကြိမ်နှစ်လုံးပူးပြီး အချက်(၄၀) ရိုက်တော်မူသည်။ ထို့နောက်တွင် အဗူဗက်ရ် ﷺက ထိုနည်းအတိုင်း လုပ်ဆောင်ခဲ့သည်။ အုမရ် ﷺ၏ခေတ်သို့ရောက်သောအခါ ၎င်းက စွဟာဗဟ်များနှင့်တိုင်ပင်လေသည်။ ထိုအခါ အဗ်ဒုရ်ရဟ်မာန် ﷺက ဆိုသည်။ "ဟဒ်" ခေါ်ပြစ်ဒဏ်များအနက် အပေါ့ပါးဆုံးမှာ ကြိမ်ဒဏ် (၈၀) ဖြစ်သည်။ သို့နှင့် အုမရ် ﷺထိုအကြံပြုချက်အတိုင်း အရက်သေစာသောက်သုံးသူကို ကြိမ်ဒဏ်(၈၀) အပြစ်ပေးခဲ့သည်။[၁]

**မတ်စ်အလဟ် - (၁၃၇) ပထမအကြိမ်အရက်သောက်ခြင်း၏ပြစ်ဒဏ်မှာ ကြိမ်ဒဏ်ဖြစ်သည်။ တတိယအကြိမ်ထိ ကြိမ်ဒဏ်သာဖြစ်သည်။ စတုတ္ထအကြိမ်တွင်မူ သေဒဏ်ဖြစ်သည်။**

အိဗ်နအုမရ် ﷺနှင့် အခြားသောစွဟာဗဟ်တစ်စုထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မည်သူမဆို အရက်သေစာသောက်သုံးပါက ကြိမ်ဒဏ်ပေးကြကုန်။ ထို့နောက်တစ်ဖန် ကျူးလွန်ပါက ကြိမ်ဒဏ်ပေးကြကုန်။ ထို့နောက်တစ်ဖန် ကျူးလွန်ပါက ကြိမ်ဒဏ်ပေးကြကုန်။ ထို့နောက်တစ်ဖန် ကျူးလွန်ပါက သေဒဏ်ပေးကြကုန်။[၂]

  

---

၁ - မွတ်စ်လင်မ်ကျမ်း၊ နံပါတ် - ၁၇၀၆။

၂ - နစာအီကျမ်း။ နံပါတ် - ၅၆၆၁။

## (၂၄) ဇိနာကျူးလွန်ခြင်း

**မတ်စ်အလဟ် – (၁၃၈)** ဇိနာကျူးလွန်ခြင်းသည် ကြီးလေးသောပြစ်မှု ဖြစ်သည်။

وَلَا تَقْرَبُوا الزِّنَىٰٓ إِنَّهُۥ كَانَ فَٰحِشَةً وَسَآءَ سَبِيلًا ﴿٣٢﴾

ထို့ပြင် အသင်တို့ သည် တရားမဝင်သော ကာမလိုက်စားပြုကျင့်မှု အနားကိုပင် မကပ်ကြနှင့်။ ထို့ပြင် ထိုအရာသည် အလွန်စက်ဆုပ် ရွံရှာဖွယ်ရာဖြစ်သည့်အပြင် အလွန်ဆိုးဝါးသောလမ်းစဉ်လည်း ဖြစ်သည်။[၁]

**မတ်စ်အလဟ် – (၁၃၉) ဇိနာကျူးလွန်နေသူသည် ဇိနာအမှုအား မစွန့်လွှတ်ပါက သူ၏အီမာန်သည် တဖြည်းဖြည်း ထွက်ခွာသွားလေသည်။**

အဗူဟိုရိုင်ရဟ် ؓထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြာတော်မူသည်။ "ဇိနာကျူးလွန်သူသည် ဇိနာကျူးလွန်နေစဉ်အချိန်၌ မုအ်မင်န်အဖြစ်နှင့်မဟုတ်တော့ပေ။ ခိုးမှုကျူးလွန်သူသည် ခိုးမှုကျူးလွန်နေချိန်၌ မုအ်မင်န်အဖြစ်နှင့် မဟုတ်တော့ပေ။ အရက်သောက်သူသည် အရက်သောက်နေစဉ်အချိန်၌ မုအ်မင်န်အဖြစ်နှင့် မဟုတ်တော့ပေ။[၂]

**မတ်စ်အလဟ် – (၁၄၀) ဇိနဟ်အမှု ကျူးလွန်သောအမျိုးသား၊ အမျိုးသမီးတို့၏ တောင်းဆုဒုအာသည် လက်ခံခြင်းမခံရပေ။**

အဗုလ်အားစ်ဆကာဖီ ؓထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ညဥ့်သန်းခေါင်ယံတွင် မိုးကောင်းကင်၏တံခါးများ ပွင့်သွားလေသည်။ ထိုအခါ ဟစ်ကြွေးသူတစ်ဦးက ဟစ်ကြွေးသည်။ ဒုအာတောင်းခံသူရှိပါသလား၊ လက်ခံခြင်းခံရမည်။ တောင်းခံ

---
၁ – ကုရ်အာန် ၁၇း ၃၂။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၅၇။

သူရှိပါသလား၊ ပေးကမ်းခြင်းခံရမည်။ ဒုက္ခရောက်နေသူရှိပါသလား၊ ချောင်လည်မှုရရှိမည်။ ထိုအချိန် အလ္လာဟ်အရှင်မြတ်သည် ဒုအာတောင်းခံသောမွတ်စ်လင်မ်တိုင်း၏ တောင်းဆုကို လက်ခံတော်မူပေသည်။ သို့သော် ဇိနာကျူးလွန်သူအမျိုးသမီးနှင့် အတင်းအဓမ္မ အခွန်ကောက်ခံသူတို့၏တောင်းဆုဒုအာမှာမူ လက်ခံခြင်းမခံရပေ။[၁]

**မတ်စ်အလဟ် – (၁၄၁) ဇိနာကျူးလွန်သူများသည် မိမိကိုယ်မိမိ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်နှင့်ထိုက်တန်သူဖြစ်အောင် လုပ်ဆောင်ခြင်းဖြစ်သည်။**

အိဗ်နအဗ္ဗားစ် ﵄ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မြို့ရွာတစ်ခုတွင် ဇိနာအမှုနှင့် အတိုးအမှုများ လွှမ်းမိုးလာပါက ထိုသူတို့သည် မိမိကိုယ်မိမိ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ဖြင့် ထိုက်တန်အောင်လုပ်ဆောင်လိုက်ခြင်း ဖြစ်သည်။[၂]

**မတ်စ်အလဟ် – (၁၄၂) ဇိနာကျူးလွန်သူသည် လောကီဘဝမှာပင် အလ္လာဟ်အရှင်မြတ်၏ပြစ်ဒဏ်ကို ခံရပေမည်။**

အနတ်စ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "ပြစ်မှုနှစ်မျိုးသည် လောကီသက်တမ်းမှာပင် အလျင်အမြန် အပြစ်ဒဏ်ခတ်ခြင်းခံရသည်။ (၁) ဇိနာကျူးလွန်ခြင်း၊ (၂) မိဘနှစ်ပါး၏အမိန့်ကို ဖီဆန်ခြင်း။[၃]

**မတ်စ်အလဟ် – (၁၄၃) အသက်အရွယ်ကြီးရင့်သူ၏ ဇိနာကျူးလွန်ခြင်းသည် အလ္လာဟ်အရှင်မြတ်၏ အမျက်ဒေါသကို ပေါက်ကွဲစေသည်။**

---

၁ – သွဗ်ရာနီကျမ်း၊ နံပါတ် – ၈၃၉၁။

၂ – သွဗ်ရာနီကျမ်း၊ နံပါတ် – ၄၆၂။

၃ – ဟာကိမ်ကျမ်း။

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြာတော်မူသည်။ လူသုံးဦးကို အလ္လာဟ်အရှင်မြတ်သည် ကိယာမသ်နေ့၌ စကားပြောတော်မူမည်မဟုတ်။ သူတို့အား သန့်ပြန့်စင်ကြယ်အောင်လည်း လုပ်ပေးမည်မဟုတ်ပေ။ သူတို့ဘက်သို့ ကြည့်ရှုမည်လည်း မဟုတ်ပေ။ ထို့ပြင် သူတို့အဖို့ ပြင်းထန်သောပြစ်ဒဏ် ရှိပေသည်။ ထိုသုံးဦးမှာ (၁) ဇိနာမှုကျူးလွန်သော အသက်ကြီးသူ၊ (၂) လိမ်ညာသောဘုရင်၊ (၃) မောက်မာသောသူဆင်းရဲတို့ ဖြစ်ကြသည်။[၁]

**မတ်စ်အလဟ် – (၁၄၄) ဇိနာမှုပေါ်များသောဒေသတွင် သေကျေပျက်စီးမှုများ များပြားလိမ့်မည်။**

ရှင်းလင်းချက်။ ။မတ်စ်အလဟ်နံပါတ် (၄၀၇)တွင် ရှုပါ။

**မတ်စ်အလဟ် – (၁၄၅) အိမ်တွင် လင်ယောကျ်ားမရှိသောအမျိုးသမီးအား ဇိနာကျူးလွန်သူကို အလ္လာဟ်အရှင်မြတ်သည် ကိယာမသ်နေ့တွင် မြွေတစ်ကောင်ဖြင့် အရေးယူတော်မူမည်။**

အဗ်ဒုလ္လာဟ်ဗင်န်အမရ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "လင်ယောကျ်ားမရှိခိုက် သူ၏ဇနီးမိန်းမ၏အိပ်ယာပေါ်တွင်ထိုင်သူအား ကိယာမသ်နေ့တွင် အဆိပ်ပြင်းသော မြွေတစ်ကောင်က ပေါက်လိမ့်မည်။[၂]

**မတ်စ်အလဟ် – (၁၄၆) အိမ်နီးချင်း၏ ဇနီးအား ဇိနာကျူးလွန်သူ၏ပြစ်ဒဏ်သည် အခြားသောအမျိုးသမီးနှင့် ဇိနာကျူးလွန်သည့်ပြစ်ဒဏ်ထက် (၁၀) ဆ ပိုသည်။**

မိက်ဒါဒ်ဗင်န်အတ်စ်ဝဒ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၀၇။

၂ – သွဗ်ရာနီကျမ်း။

တော်မြတ် ﷺ သည် မိမိ၏ အဆွေတော်များအား အမိန့်ရှိသည်။ "ဇိနာနှင့် ပတ်သက်ပြီး အသင်တို့ မည်သို့ထင်မြင်ယူဆပါသနည်း။ စွဟာ ဗဟ်တို့က " အလ္လာဟ်အရှင်မြတ်နှင့် အလ္လာဟ်တမန်တော်က ဟရာမ်အဖြစ် တားမြစ်ထားသောကြောင့် ယင်းအမှုသည် ကိယာမသ်နေ့တိုင် ဟရာမ် ဖြစ်ပါသည်" ဟု ဖြေကြားခဲ့ကြသည်။ တမန်တော်မြတ် ﷺ က စွဟာဗဟ်တို့အား မိန့်ကြားတော်မူသည်။ အိမ်နီးချင်း၏ဇနီးနှင့် ဇိနာကျူးလွန်ခြင်းသည် အခြားသောအမျိုးသမီး(၁၀)ဦးနှင့် ဇိနာကျူးလွန်သော အပြစ်ထက် သာပိုပေသည်။[၁]

ရှင်းလင်းချက်။ ။ အစ္စလာမ့်အမြင်တွင် မွတ်စ်လင်မ်တစ်ဦးသည် မိမိအိမ်နီးချင်း၏ မိသားစု၊ ဇနီးမယားကို ကြည့်ရှုစောင့်ရှောက်ရန် တာဝန်ရှိပေသည်။ တာဝန်ရှိသူအလျောက် အပြစ်ဒဏ်သည်လည်း သာမန်လူထက် (၁၀)ဆ ပြင်းထန်ခြင်း ဖြစ်သည်။

**မတ်စ်အလဟ် – (၁၄၇) ဂျိဟားဒ်လုပ်ရန်ထွက်ခွာသွားသော မုဂျာဟိဒ်တစ်ဦး၏ ဇနီးသည်အား ဇိနားကျူးလွန်သူ၏ ကောင်းမှုကုသိုလ်အားလုံးကို ကိယာမသ်နေ့တွင် မုဂျာဟိဒ်အား ပေးအပ်မည်။**

ဗုရိုင်ဒဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ ဂျိဟားဒ်လုပ်နေသောမုဂျာဟိဒ်များ၏ဇနီးမိန်းမများ၏ ဂုဏ်သိက္ခာသည် ဂျိဟားဒ်တွင်မလိုက်ပါပဲ အိမ်မှာထိုင်နေသူတို့အပေါ်တွင် သူတို့၏ မိခင်များပမာဖြစ်သည်။ ဂျိဟားဒ်တွင်မလိုက်ဘဲ ကျန်ရစ်နေခဲ့သူသည် ဂျိဟားဒ်တွင်လိုက်ပါသွားသူ၏ မိသားစုကို ကြည့်ရှုရန် တာဝန်ရှိသည်။ သို့ပါလျက် သစ္စာမဲ့ခဲ့ပါက ကိယာမသ်နေ့တွင် ထိုသူသည် အလ္လာဟ်ရှေ့မှောက်တွင် ရပ်ရမည်။ ထို့နောက် မုဂျာဟိဒ်သည် သူ၏ ကောင်းမှုကုသိုလ်များက ကြိုက်သလောက်ယူရပေမည်။ အသင်တို့ ဘယ်လိုထင်ကြသနည်း။ (ထိုသူ၏ ကောင်းမှုကုသိုလ် ကျန်ဦးမည်ဟု အသင်တို့

၁ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း။

ထင်ပါသလား။[၁]

**မတ်စ်အလဟ် – (၁၄၈) ထိမ်းမြားမှုမပြုရသေးသော လူပျို၊ အပျို ဇိနာကျူး လွန်ပါက ပြစ်ဒဏ်မှာ ကြိမ်ဒဏ်(၁၀၀) ဖြစ်သည်။**

اَلزَّانِيَةُ وَ الزَّانِيْ فَاجْلِدُوْا كُلَّ وَاحِدٍ مِّنْهُمَا مِائَةَ جَلْدَةٍ ۖ وَّ لَا تَاْخُذْكُمْ بِهِمَا رَاْفَةٌ فِيْ دِيْنِ اللّٰهِ اِنْ كُنْتُمْ تُؤْمِنُوْنَ بِاللّٰهِ وَ الْيَوْمِ الْاٰخِرِ ۚ وَ لْيَشْهَدْ عَذَابَهُمَا طَآئِفَةٌ مِّنَ الْمُؤْمِنِيْنَ ﴿٢﴾

တရားမဝင်ကာမ ကျူးလွန်သောမိန်းမနှင့် တရားမဝင် ကာမကျူး လွန်သော ယောကျ်ားကို အသင်တို့သည် သူတို့နှစ်ဦးထဲမှ တစ်ဦးစီ အား ကြိမ်ဒဏ်အချက်ပေါင်းတစ်ရာစီ ရိုက်ကြပါ။[၂]ထို့ပြင် အကယ်၍ အသင်တို့ သည် *အလ္လာဟ်*အရှင်မြတ်နှင့် နောက်ဆုံးနေ့ကိုယုံကြည်ကြလျှင် သူတို့ နှစ်ဦးအပေါ်တွင် သနားခြင်းသည် အသင်တို့အား *အလ္လာဟ်* အရှင်မြတ်၏ အမိန့်ပညတ်ကို လိုက်နာရာတွင် လျော့နည်းခြင်းမရှိစေရပေ။ ထို့ပြင် သူတို့ နှစ်ဦးအား ပြစ်ဒဏ်ပေးခြင်းကို *အီမာန်*ယုံကြည်သည့်အုပ်စုတစ်စုသည် လာရောက် ကြည့်ရှုကြရမည် ဖြစ်သည်။[၂]

**မတ်စ်အလဟ် – (၁၄၉) လက်ထပ်ထိမ်းမြားပြီးသောသူ ဇိနာကျူးလွန်ပါက ပြစ်ဒဏ်မှာ ခဲဖြင့်ပေါက်သတ်ခြင်း ဖြစ်သည်။**

အိဗ်နအဗ္ဗားစ် ﵄ထံမှ ဆင့်ပြန်ချက်လာရှိသည်။ မာအိဇ်ဗင်န် မာလိက် ﵁သည် တမန်တော်မြတ် ﷺထံသို့လာပြီး ဇိနာကျူးလွန်မိခဲ့ ကြောင်း နှစ်ကြိမ်တိုင်တိုင်ဝန်ခံခဲ့သည်။ တမန်တော်မြတ် ﷺက သူ့အား ပြန်လွှတ်ခဲ့သည်။ ထို့နောက်တစ်ဖန် မာအိဇ် ﵁သည် တမန်တော်မြတ် ﷺ ထံ ရောက်ရှိလာပြီး နှစ်ကြိမ်တိုင်တိုင် ဇိနာကျူးလွန်ခဲ့ကြောင်း ထပ်မံ၍

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၈၉၇။

၂ – ကုရ်အာန် ၂၄း ၂။

ဝန်ခံခဲ့သည်။ ထိုအခါ ကိုယ်တော်မြတ် ﷺက မိန့်တော်မူသည်။ "အသင်သည် လေးကြိမ်တိုင်တိုင် မိမိနှင့်ဆန့်ကျင်ဘက် သက်သေထွက်ဆိုခဲ့ပေပြီ" ထို့နောက် ကိုယ်တော်မြတ် ﷺသည် လူတို့အား "သူ့အား ခေါ်ဆောင်သွားကြကုန်။ ပြီးနောက် ခဲဖြင့်ပေါက်ကြကုန်။"[၁]

**မတ်စ်အလဟ် – (၁၅၀) ဇိနာကျူးလွန်သောအမျိုးသား၊ အမျိုးသမီးများသည် နောင်တမလွန်တွင် မီးဟုန်းဟုန်းလောင်နေသောဖိုထဲတွင် ဝတ်လစ်စလစ် အတူထည့်ခြင်းခံရမည်။**

စမိုရဟ်ဗင်န်ဂျွန်ဒုဗ် ﷺသည် အိပ်မက်ဟာဒီးဆ်တော်တွင် ဆင့်ပြန်ပြောပြသည်။ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ "ငါကိုယ်တော်၏ မေးမြန်းချက်ကြောင့် ကောင်းကင်တမန်ဂျိဗ်ရီးလ်နှင့် မီကာအီလ်တို့က အဖြေပေးခဲ့သည်။ အသင်တွေ့မြင်ခဲ့သော ပါးစောင်အား နောက်စိထိဆွဲဖြဲနေသူ၊ နှာခေါင်းအား နောက်စိထိ ဆွဲဖြဲနေသူ၊ မျက်လုံးအား နောက်စိထိဆွဲဖြဲနေသူများ နံနက်တွင် မုသားစကားတစ်ခုကို ပြောဆိုပြီး ထိုမုသားစကားအားကမ္ဘာသို့ပြန့်နှံ့စေသူဖြစ်သည်။ ဆီအိုးထဲတွင် ဝတ်လစ်စလစ်နှင့် အသင်တွေ့မြင်ခဲ့ရသော အမျိုးသား၊ အမျိုးသမီးများမှာ ဇိနာမှုကျူးလွန်သောအမျိုးသား၊ အမျိုးသမီးများဖြစ်ကြသည်။ သွေးပြည်ပုပ်ချောင်းထဲတွင် ရေကူးနေပြီး၊ ပါးစပ်ကို ကျောက်တုံးနှင့်အထုခံနေသည်ကို အသင်တွေ့ မြင်ခဲ့သူမှာ အတိုးစားသူများဖြစ်သည်။[၂]

  

---

၁ – အဗူဒါဝူးဒ်ကျမ်း။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၇၀၄၇။

## (၂၃) လိင်တူဆက်ဆံခြင်း

**မတ်စ်အလဟ် - (၁၅၁) လိင်တူဆက်ဆံခြင်းအမှုသည် ကြီးလေးသော ပြစ်မှုဖြစ်သည်။**

وَلُوطًا إِذْ قَالَ لِقَوْمِهِۦٓ أَتَأْتُونَ ٱلْفَٰحِشَةَ مَا سَبَقَكُم بِهَا مِنْ أَحَدٍ مِّنَ ٱلْعَٰلَمِينَ ﴿٨٠﴾ إِنَّكُمْ لَتَأْتُونَ ٱلرِّجَالَ شَهْوَةً مِّن دُونِ ٱلنِّسَآءِ ۚ بَلْ أَنتُمْ قَوْمٌ مُّسْرِفُونَ ﴿٨١﴾

ထို့ပြင် (တမန်တော်) *လူသွ်* ကို (လည်းစေလွှတ်တော်မူခဲ့သည်)။ တစ်ခါတွင် ၎င်း(တမန်တော် *လူသွ်* )က ၎င်း၏အမျိုးသားများအား ပြောကြားခဲ့သည် - အသင်တို့သည် အသင်တို့မတိုင်မီ စကြဝဠာအားလုံးတွင် မည်သူတစ်ဦးတစ်ယောက်မျှ မကျူးလွန်ခဲ့သော စက်ဆုပ်ရွံရှာဖွယ် ကိစ္စကို ကျူးလွန်ကြသလော။ အမှန်စင်စစ် အသင်တို့သည် မိန်းမများကို စွန့်ပြီး ယောကျ်ားများထံသို့ ကာမဂုဏ်ခံစားရန် ရောက်လာကြသည်။ အမှန်စင်စစ် အသင်တို့သည် စည်းဖောက်သော လူမျိုးပင်ဖြစ်သည်။[1]

**မတ်စ်အလဟ် - (၁၅၂) လိင်တူဆက်ဆံခြင်းအမှုကိုကျူးလွန်သောလူမျိုးစုကို အလ္လာဟ်အရှင်မြတ်သည် ကျောက်ခဲမိုးရွာသွန်းစေတော်မူပြီး ဖျက်ဆီးတော်မူခဲ့သည်။**

فَلَمَّا جَآءَ أَمْرُنَا جَعَلْنَا عَٰلِيَهَا سَافِلَهَا وَأَمْطَرْنَا عَلَيْهَا حِجَارَةً مِّن سِجِّيلٍ مَّنضُودٍ ﴿٨٢﴾ مُّسَوَّمَةً عِندَ رَبِّكَ ۖ وَمَا هِىَ مِنَ ٱلظَّٰلِمِينَ بِبَعِيدٍ ﴿٨٣﴾

ထို့နောက် ငါအရှင်မြတ်၏ အမိန့်တော်ရောက်ရှိလာသောအခါ ငါအရှင်မြတ်သည် ထိုမြို့ရွာအား အထက်အောက် လှန်ပစ်တော်မူခဲ့သည်။ ထို့ပြင် ငါအရှင်မြတ်သည် မြို့ရွာပေါ်သို့ ရွှံ့စေးအကျက်နှင့်ပြုလုပ်ထားသော ကျောက်ခဲမိုးကို ဆက်တိုက် ရွာသွန်းချစေတော်မူခဲ့သည်။ (ထိုကျောက်

---

၁ - ကုရ်အာန် ၇း ၈၀၊ ၈၁။

ခဲများသည်) အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ထံတော်မှ တံဆိပ်ခတ်နှိပ်ပြီးဖြစ်သည်။ ထိုမြို့ရွာသည် မတရားကျူး လွန်ကြသော (*မက္ကာဟ်*မြို့သား)များနှင့် မဝေးကွာလှပေ။[၁]

**မတ်စ်အလဟ် – (၁၅၃) လိင်တူဆက်ဆံခြင်းအမှု ကျူးလွန်သူများကို တမန်တော်မြတ် ﷺသည် အကြိမ်ကြိမ် လအ်နသ်ပို့တော်မူခဲ့သည်။**

အိဗ်နအဗ္ဗားစ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်တော်မူသည်။ "အလ္လာဟ်အရှင်မြတ်မှအပ အခြားအရာအတွက် သားကောင်ဇဗဟ်လုပ်သူကို အလ္လာဟ်အရှင်မြတ် လအ်နသ်ပို့ပါစေ။ မြေပြင်၏နယ်နိမိတ်များကိုအပြောင်းအလဲလုပ်သူကိုအလ္လာဟ်အရှင်မြတ် လအ်နသ်ပို့တော်မူပါစေ။ မျက်မမြင်အား လမ်းလွဲမှားအောင်လုပ်သူကို အလ္လာဟ်အရှင်မြတ် လအ်နသ်ပို့တော်မူပါစေ။ မိဘနှစ်ပါးအား ဆဲဆိုသူကို အလ္လာဟ်အရှင်မြတ် လအ်နသ်ပို့တော်မူပါစေ။ မိမိ၏အရှင်သခင်မဟုတ်သောသူအား မိမိ၏အရှင်သခင်ဟုပြောဆိုသောကျေးကျွန်ကို အလ္လာဟ်အရှင်မြတ် လအ်နသ်ပို့တော်မူပါစေ။ လိင်တူဆက်ဆံမှုကျူးလွန်သူများကို အလ္လာဟ်အရှင် လအ်နသ်ပို့တော်မူပါစေ။ နောက်ဆုံးအချက်ကို တမန်တော်မြတ် ﷺက သုံးကြိမ်မိန့်ကြားတော်မူခဲ့သည်။[၂]

**မတ်စ်အလဟ် – (၁၅၄) လိင်တူဆက်ဆံခြင်းအမှု ကျူးလွန်သူများကို အလ္လာဟ်အရှင်မြတ်သည် ကိယာမသ်နေ့တွင် ကြည့်ရှုတော်မူမည် မဟုတ်ပေ။**

အိဗ်နအဗ္ဗားစ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အမျိုးသားတစ်ဦးသို့မဟုတ်အမျိုးသမီးတစ်ဦး၏ အနောက်ဒွါရတွင် လိင်ဆက်ဆံသူကို အလ္လာဟ်အရှင်မြတ်သည် ကြည့်

---

၁ – ကုရ်အာန် ၁၁း ၈၂၊ ၈၃။

၂ – အိဗ်နဟိဗ်ဗာန်ကျမ်း၊ နံပါတ် – ၄၄၁၇။

တော်မူမည်မဟုတ်ပေ။[၁]

**မတ်စ်အလဟ် – (၁၅၅) လိင်တူဆက်ဆံခြင်းအမှုကျူးလွန်သောသူရော၊ အကျူးလွန်ခံသူရော နှစ်ဦးစလုံး၏ပြစ်ဒဏ်မှာ သေဒဏ်ဖြစ်သည်။**

အိဗ်နအဗ္ဗားစ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "လိင်တူဆက်ဆံခြင်းအမှုကျူးလွန်သူကို အသင်တို့တွေ့ရှိပါက ကျူးလွန်သူနှင့် ကျူးလွန်ခံရသူ နှစ်ဦးစလုံးကို သတ်ပစ်ကြ။[၂]

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် လိင်တူဆက်ဆံခြင်းအမှု ကျူးလွန်သူများနှင့်စပ်လျဉ်းပြီး မိန့်ကြားတော်မူသည်။ အပေါ်လူ၊ အောက်လူ နှစ်ဦးစလုံးကို ခဲပေါက်သတ်ကြ။[၃]

**မတ်စ်အလဟ် – (၁၅၆) တမန်တော်မြတ် ﷺ သည် မိမိ၏အွမ္မသ်အတွင်း၌ လိင်တူဆက်ဆံခြင်းအမှု ကျူးလွန်သူများ ပေါ်ပေါက်လာမည့်အကြောင်း ကြိုတင်ဟောကြားခဲ့သည်။**

ဂျာဗိရ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "ငါ၏ အွမ္မသ်သားများအပေါ် ငါကိုယ်တော်အစိုးရိမ်ဆုံးသောကိစ္စရပ်မှာ လိင်တူဆက်ဆံခြင်းအမှု ကျူးလွန်းခြင်းပင် ဖြစ်သည်။[၄]



---

၁ – သိရ်မိဇီကျမ်း၊ နံပါတ် – ၁၁၆၅။

၂ – သိရ်မိဇီကျမ်း၊ နံပါတ် – ၁၄၅၆။

၃ – အိဗ်နမာဂျဟ်ကျမ်း – ၂၅၆၂။

၄ – သိရ်မိဇီကျမ်း၊ နံပါတ် – ၁၄၅၇။

## (၂၆) တိရစ္ဆာန်နှင့် လိင်ဆက်ဆံခြင်း

**မတ်စ်အလဟ် – (၁၅၇) တိရစ္ဆာန်နှင့် လိင်ဆက်ဆံသူ၏ အပြစ်ဒဏ်မှာ သေဒဏ်ဖြစ်သည်။**

အိဗ်နအဗ္ဗားစ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "တိရစ္ဆာန်နှင့်လိင်ဆက်ဆံသူကို သတ်ပစ်ကြ။ ထိုသူနှင့်အတူ ယင်းတိရစ္ဆာန်ကိုပါ သတ်ပစ်ကြ။"[၁]

ရှင်းလင်းချက်။ ။ ပညာရှင်များထံတွင် ထိုသို့သောတိရစ္ဆာန်ကို စားသုံးခြင်းသည် မက္ကရူဟ်ဖြစ်သွားပေသည်။ ထို့ကြောင့် သတ်ဖြတ်ပစ်ရန် အမိန့်ပေးခြင်းဖြစ်သည်။



## (၂၇) လောင်းတမ်းကစားခြင်း

**မတ်စ်အလဟ် – (၁၅၈) လောင်းတမ်းကစားခြင်းသည် ကြီးလေးသော အပြစ်ဖြစ်သည်။**

يَاَيُّهَا الَّذِيْنَ اٰمَنُوْٓا اِنَّمَا الْخَمْرُ وَ الْمَيْسِرُ وَ الْاَنْصَابُ وَ الْاَزْلَامُ رِجْسٌ مِّنْ عَمَلِ الشَّيْطٰنِ فَاجْتَنِبُوْهُ لَعَلَّكُمْ تُفْلِحُوْنَ ﴿٩٠﴾ اِنَّمَا يُرِيْدُ الشَّيْطٰنُ اَنْ يُّوْقِعَ بَيْنَكُمُ الْعَدَاوَةَ وَ الْبَغْضَآءَ فِى الْخَمْرِ وَ الْمَيْسِرِ وَ يَصُدَّكُمْ عَنْ ذِكْرِ اللّٰهِ وَ عَنِ الصَّلٰوةِ ۚ فَهَلْ اَنْتُمْ مُّنْتَهُوْنَ ﴿٩١﴾

အို – *အီမာန်* ယုံကြည်သူအပေါင်းတို့၊ အရက်၊ လောင်းကစားမှု၊ ရုပ်တုဆင်းတု၊ မြားများ(ဖြင့်ကံစမ်းခြင်း)တို့သည် *ရှိုင်သွာန်*၏လုပ်ရပ်များထဲမှ အလွန်ဆိုးဝါး ညစ်ညမ်းသော ကိစ္စများဖြစ်သည်။ သို့ဖြစ်ရာ

---

၁ – အဗူဒါဝူဒ်ကျမ်း၊ နံပါတ် – ၄၄၆၄။

အသင်တို့သည် ထိုအရာများကို အသင်တို့အောင်မြင်ရန်အတွက် ရှောင်ကြဉ်ကြပါ။ စင်စစ် *ရှိုင်သွာန်*သည် အရက်၊ လောင်းကစားနှင့်ပတ်သက်၍ အသင်တို့ကြားတွင် ရန်ငြိုးမှုနှင့် မုန်းတီးမှုကို ဖြစ်ပေါ်စေရန်နှင့် အသင် တို့အား *အလ္လာဟ်*အရှင်မြတ်၏ သတိရမှုနှင့်*စွလာသ်*ဝတ်ပြုမှုမှ တားဆီးရန်ကိုသာ ရည်ရွယ်နေသည်။ သို့ဖြစ်ရာ အသင်တို့သည် (အရက်သောက်ခြင်းနှင့် လောင်းကစားခြင်းမှ) ရပ်တန့်ကြမည်လော။(ဝါ) ရပ်တန့်ကြပါ။[၁]

**မတ်စ်အလဟ် – (၁၅၉) လောင်းကစားလုပ်သူသည် ဝက်၏အသားနှင့် သွေးထဲတွင် လက်နှိုက်သကဲ့သို့ ဖြစ်သည်။**

အဗူဗုရိုင်ဒဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ စစ်တုရင်ဖြင့်လောင်းတမ်းကစားသူသည် မိမိ၏လက်အား ဝက်၏အသားနှင့် သွေးဖြင့် အရောင်ဆိုးသကဲ့သို့ ဖြစ်သည်။[၂]

**မတ်စ်အလဟ် – (၁၆၀) လောင်းတမ်းကစားဖို့အတွက် ရည်ရွယ်လိုက်လျှင်ပင် မိမိ၏အပြစ်ကို ကဖ်ဖွာရဟ်လုပ်သည့်အနေဖြင့် တစ်ခုမဟုတ်တစ်ခု စွဒကဟ်လုပ်လိုက်ရမည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အသင်တို့အနက်မှ တစ်ဦးတစ်ယောက်သည် ကစမ်ကျိန်ဆိုရာတွင် လားသ်ရပ်တု၏အမည်ကို ပြောဆိုမိပါက လာအိလာဟအိလ်လ္လာဟ်ဟု ရွတ်ဆိုလိုက်ပါ။ တစ်ဦးတစ်ယောက်သည် မိမိ၏ မိတ်ဆွေအား "လာပါ၊ လောင်းတမ်းကစားရအောင်"ဟု ပြောဆိုမိပါက စွဒကဟ်ပေးပါ။[၃]

**မတ်စ်အလဟ် – (၁၆၁) လောင်းတမ်းကစားသူသည် ငါတို့အနက်မှမဟုတ်ပေ။**

---

၁ – ကုရ်အာန် ၅း ၉၀၊ ၉၁။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၂၆၀။

၃ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၆၄၇။

အိဗ်နုအဗ္ဗားစ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မြင်းပြိုင်ရာတွင် အလောင်းအထပ်လုပ်သူသည် ငါတို့အနက်မှ မဟုတ်ပေ။"[၁]

  

## (၂၈) ခိုးမှုကျူးခြင်း

**မတ်စ်အလဟ် – (၁၆၂) ခိုးမှုကျူးခြင်း၏ ပြစ်ဒဏ်မှာ သူခိုး၏လက်ကို ဖြတ်တောက်ပစ်ရခြင်း ဖြစ်သည်။**

وَالسَّارِقُ وَالسَّارِقَةُ فَاقْطَعُوٓا اَيْدِيَهُمَا جَزَآءًۢ بِمَا كَسَبَا نَكَالًا مِّنَ اللّٰهِ ۗ وَاللّٰهُ عَزِيْزٌ حَكِيْمٌ ﴿٣٨﴾

ထို့ပြင် သူခိုးဖြစ်စေ၊ သူခိုးမဖြစ်စေ အသင်တို့သည် သူတို့နှစ်ဦးလုံး၏ လက်များကို (လက်ကောက်ဝတ်မှ)ဖြတ်ကြပါ။ (ဤသည်) သူတို့နှစ်ဦးပြုလုပ်ခဲ့သော လုပ်ရပ်၏ အပြစ်ဒဏ်လည်းဖြစ်သည်။ *အလ္လာဟ်* အရှင်မြတ်ထံတော်မှ သတိရစေရန် ဆုံးမမှုတစ်ခုလည်းဖြစ်သည်။ ထို့ပြင် *အလ္လာဟ်*အရှင်မြတ်သည် တန်ခိုးတော်နှင့် အလွန်လွှမ်းမိုးတော်မူသော အရှင်၊ ပညာဉာဏ်အမြော် အမြင်နှင့် အလွန်ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူသည်။[၂]

**မတ်စ်အလဟ် – (၁၆၃) သူခိုးပေါ်သို့ အလ္လာဟ်အရှင်မြတ်၏ လအ်နသ်ကျရောက်ပေသည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "သူခိုးပေါ်သို့ အလ္လာဟ်အရှင်မြတ်၏ လအ်နသ်

---

၁ – သွဗ်ရာနီကျမ်း၊ နံပါတ် – ၁၁၅၅၈။

၂ – ကုရ်အာန် ၅း ၃၈။

ကျရောက်ပါစေ။ သူသည် ဥတစ်လုံးအတွက်နှင့် လက်ဖြတ်ခံလိုက်ရသည်။ ကြိုးလေးတစ်ချောင်းအတွက်နှင့် လက်ဖြတ်ခံလိုက်ရသည်။[၁]

**မတ်စ်အလဟ် – (၁၆၄) ကျီစယ်သည့်သဘောဖြင့် ခိုးသောသူခိုးကို တမန်တော်မြတ် ﷺ သည် ဂျဟန္နမ်ငရဲဘုံတွင် တွေ့မြင်ခဲ့သည်။**

ဂျာဗိရ်ဗင်န်အဗ်ဒုလ္လာဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်။ "ငါကိုယ်တော်သည် ထိုငရဲဘုံတွင် တုတ်ကောက်ပိုင်ရှင်တစ်ဦးကို တွေ့ခဲ့ရသည်။ သူသည် မီးထဲတွင် မိမိကိုယ်ကို ဆွဲယူသွားနေသည်။ သူသည် မိမိ၏တုတ်ကောက်ဖြင့် ဟာဂျီများ၏ ပစ္စည်းများကို ချိတ်ယူခိုးလေ့ရှိသည်။ လူမြင်လျှင် ဤပစ္စည်းသည် ကျွန်ုပ်၏ တုတ်ကောက်နှင့် ချိတ်မိသွားသည်ဟု ပြောသည်။ လူမမြင်လျှင်မူ ယူသွားလေ့ရှိသည်။[၂]

**မတ်စ်အလဟ် – (၁၆၅) အိမ်နီးချင်း၏အိမ်မှ ခိုးယူခြင်းသည် အခြားသောအိမ်(၁၀)အိမ်မှ ခိုးယူခြင်းထက်ပို၍ အပြစ်ကြီးလေးသည်။**

မိက်ဒါဒ်ဗင်န် အတ်စ်ဝတ်ဒ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် စွဟာဗဟ်များအား မိန့်ကြားတော်မူသည်။ " ခိုးမှုနှင့်ပတ်သက်ပြီး အသင်တို့ မည်သို့ ထင်မြင်ယူဆပါသနည်း။ စွဟာဗဟ်များက လျှောက်ထားကြသည်။ ခိုးမှုကို အလ္လာဟ်နှင့် အလ္လာဟ့်တမန်တော်က ဟရာမ်အဖြစ်သတ်မှတ်ထားသောကြောင့် ယင်းအမှုသည် ဟရာမ်ဖြစ်ပါသည်။ တမန်တော်မြတ် ﷺ က မိန့်ကြာတော်မူသည်။ အိမ်နီးချင်းထံမှ ခိုးယူခြင်းသည် အခြားသောအိမ်(၁၀)အိမ်မှ ခိုးယူခြင်းထက် ပို၍ အပြစ်ကြီးပေသည်။[၃]

---

၁ – နစာအီကျမ်း။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၉၀၄။

၃ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် – ၂၃၈၅၄။

**မတ်စ်အလဟ် – (၁၆၆) ပိုင်ရှင်၏ခွင့်ပြုချက်မရှိဘဲ တိရစ္ဆာန်၏ နို့ညှစ်ခြင်းသည် ခိုးယူခြင်းဖြစ်သည်။**

အဗ်ဒုလ္လာဟ်ဗင်န်အုမရ် ﷛ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ အသင်တို့တစ်ဦးတစ်ယောက်သည် ပိုင်ရှင်၏ခွင့်ပြုချက်မရှိဘဲ တိရစ္ဆာန်မှ နို့မညှစ်လေနှင့်။ အသင်တို့၏ ရိက္ခာ အခန်းတံခါးကို တစ်ဦးတစ်ယောက်က ချိုးဖျက်ပြီး အတွင်းမှ စားသောက်စရာများကို ယူငင်လျှင် အသင်တို့ ကြိုက်ကြမလား။ ထိုနည်းအတိုင်းပင် တိရစ္ဆာန်များ၏ နို့အိမ်များသည် ပိုင်ရှင်တို့အဖို့ စားသောက်ကုန် သိုလှောင်ပေးသည်။ ထို့ကြောင့် ပိုင်ရှင်၏ခွင့်ပြုချက်မပါဘဲ သူ၏တိရစ္ဆာန်ကို နို့မညှစ်လေနှင့်။[၁]

  

# (၂၉) လှည့်စားခြင်း

**မတ်စ်အလဟ် – (၁၆၇) လှည့်စားဖြားယောင်းသောသူသည် ဂျဟန္နမ်ငရဲဘုံသို့ သွားရမည်။**

ကိုင်စ်ဗင်န်စအီးဒ် ﷛ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “လှည့်စားခြင်း၊ ဖြားယောင်းခြင်းသည် ငရဲဘုံတွင် ရှိလိမ့်မည်။[၂]

အဗ်ဒုလ္လာဟ်ဗင်န်မတ်စ်အူးဒ် ﷛ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “ငါတို့အား လှည့်စားသူသည် ငါ့တို့အနက်မှ မဟုတ်။ မကောင်းကြံစည်ခြင်း၊ လှည့်ဖြားခြင်းသည် ငရဲဘုံတွင်ရှိလိမ့်မည်။[၃]

  

---

၁ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၂၃၀၂။
၂ – ဗိုင်ဟကီကျမ်း၊ နံပါတ် – ၄၈၈၇။
၃ – အိဗ်နဟိဗ္ဗားန်ကျမ်း၊ နံပါတ် – ၅၅၅၉။

## (၃၀) ခိုလှုံခွင့်ပေးမှုအား ချိုးဖျက်ခြင်း

မတ်စ်အလဟ် – (၁၆၈) မွတ်စ်လင်မ်တစ်ဦးတစ်ယောက်ကို ခိုလှုံခွင့်၊ လုံခြုံရေးပေးထားပြီးနောက် ချိုးဖျက်သူကို အလ္လာဟ်အရှင်မြတ်၊ ကောင်းကင်တမန်နှင့် မုအ်မင်န်အားလုံးက လအ်နသ်ပို့သည်။

အဗူမိုအာဝိယဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မွတ်စ်လင်မ်တစ်ဦးအား ခိုလှုံခွင့်ပေးပြီး ကတိချိုးဖောက်သူအပေါ် အလ္လာဟ်အရှင်မြတ်၊ ကောင်းကင်တမန်များနှင့် မုအ်မင်န်အားလုံး၏ လအ်နသ်ကျရောက်ပါစေ။[၁]

  

## (၃၁) မကောင်းကြံစည်ခြင်း

မတ်စ်အလဟ် – (၁၆၉) တစ်ဦးတစ်ယောက်အား မကောင်းကြံစည်ခြင်းသည် ကြီးလေးသောပြစ်မှုဖြစ်သည်။

وَلَا يَحِيقُ الْمَكْرُ السَّيِّئُ إِلَّا بِأَهْلِهِ

ထို့ပြင် မကောင်းကြံစည်မှု၏ အကျိုးဆက်သည် ထိုမကောင်းကြံစည်မှုကို ကြံစည်သည့်သူများအပေါ်၌ပင် သက်ရောက်သည်။[၂]

ကိုင်စ်ဗင်န်စအီးဒ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မကောင်းကြံခြင်း၊ လှည့်ဖြားခြင်းသည် ငရဲဘုံတွင် ရှိလိမ့်မည်။[၃]

  

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၄၄။

၂ – ကုရ်အာန် ၃၅ း ၄၃။

၃ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၅၅၉။

## (၃၂) အလွဲသုံးစားလုပ်ခြင်း

**မတ်စ်အလဟ် – (၁၇၀) အပ်နှံထားသောပစ္စည်းအားအလွဲသုံးစားလုပ်ခြင်းသည် ကြီးလေးသောပြစ်မှုဖြစ်သည်။**

يَآيُّهَا الَّذِيْنَ اٰمَنُوْا لَا تَخُوْنُوا اللّٰهَ وَالرَّسُوْلَ وَتَخُوْنُوْٓا اَمٰنٰتِكُمْ وَاَنْتُمْ تَعْلَمُوْنَ ﴿٢٧﴾

အို – *အီမာန်* ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် *အလ္လာဟ်* အရှင်မြတ်နှင့်တမန်တော်အပေါ်တွင် (တာဝန်ပျက်ကွက်ခြင်းနှင့်)သစ္စာမဖောက်ကြနှင့်။ ၎င်းပြင် အသင်တို့သည် အသင်တို့အား အပ်နှံထားသောပစ္စည်းများကို အသင်တို့ သိပါလျက်နှင့် သစ္စာဖောက် အလွဲသုံးစားမလုပ်ကြနှင့်။[၁]

**မတ်စ်အလဟ် – (၁၇၁) ခြုံထည်တစ်ထည်အလွဲသုံးစားလုပ်မှုကြောင့် ဂျဟန္နမ်ငရဲဘုံသို့ သွားရသည်။**

အုမရ်ဗင်န်ခွတ်သွားဗ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ ခိုင်ဗရ်စစ်ပွဲနေ့တွင် စွဟာဗဟ်အချို့သည် တမန်တော်မြတ် ﷺထံသို့ လာ၍လျှောက်ထားခဲ့ကြသည်။ မည်သူမည်ဝါကား ရှဟီးဒ်ဖြစ်သွားပေပြီ။ မည်သူမည်ဝါကား ရှဟီးဒ်ဖြစ်သွားလေပြီ။ နောက်ဆုံး ပုဂ္ဂိုလ်တစ်ဦးနှင့် စပ်လျဉ်းပြီး "ထိုသူလည်း ရှဟီးဒ်ဖြစ်သွားလေပြီ" ဟု ပြောခဲ့ကြသည်။ ထိုအခါ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ "လုံးဝမဟုတ်ပေ။ ငါသည် သူ့အား ခြုံထည်တစ်ထည်၊ သို့မဟုတ် ဝတ်ရုံတစ်ထည် အလွဲသုံး စားလုပ်မှုကြောင့် ငရဲမီးတွင် တွေ့ခဲ့ရသည်။"[၂]

---

၁ – ကုရ်အာန် ၈း ၂၇။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၁၄။

**မတ်စ်အလဟ် – (၁၇၂) ဗိုင်သုလ်မားလ်ခေါ် အများပိုင်ငွေမှ အပ်တစ်ချောင်း သို့မဟုတ် ထို့ထက်ပိုသေးသောအရာကို အလွဲသုံးစားလုပ်လျှင်ပင် ကိယာမသ်နေ့၌ အရေးယူခံရမည်။**

အဒီဗင်န်အုမိုင်ရဟ်ကိင်န်ဒီ ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်ကို ကျွန်ုပ်ကြားခဲ့သည်။ အသင်တို့အနက်မှ တစ်ဦးတစ်ယောက်ကို ငါကိုယ်တော် တာဝန်ပေးသည့်အခါ အပ်တစ်ချောင်း သို့မဟုတ် ထို့ထက်ပိုသေးငယ်သောအရာကိုအလွဲသုံးစားလုပ်ခဲ့လျှင် ကိယာမသ်နေ့တွင် ထိုသူသည် ယင်းအလွဲသုံးစားလုပ်မှုကို ယူဆောင်လာရပေမည်။[၁]

**မတ်စ်အလဟ် – (၁၇၃) အစိုးရအလုပ်များတွင် သတ်မှတ်ပြီးဖြစ်သောလစာအပြင် အခြားအကျိုးအမြတ်ရယူခြင်းသည် အလွဲသုံးစားလုပ်ခြင်းမည်သည်။**

အဗုရိုင်ဒဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "တစ်ဦးတစ်ယောက်ကို ငါကိုယ်တော်က အလုပ်တစ်ခုတာဝန်ပေးသောအခါ ထိုအလုပ်အတွက် ထိုသူ့အား လုပ်အားခပေးလေသည်။ ထိုလုပ်အားခထက်ပို၍ယူခြင်းသည် (ခယာနသ်) အလွဲသုံးစားလုပ်ခြင်းဖြစ်သည်။[၂]

**မတ်စ်အလဟ် – (၁၇၄) မိမိအား အလွဲသုံးစားလုပ်ထားသူကိုပင်လျှင် ပြန်၍အလွဲသုံးစားလုပ်၍ မရပေ။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အသင့်ထံ အပ်နှံထားသူအား သူ၏အပ်နှံပစ္စည်းပြန်ပေးပါ။ အသင့်အား အလွဲသုံးစားလုပ်ထားသူကို အသင်ပြန်၍

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၈၃၃။

၂ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၂၉၄၃။

အလွဲသုံးစားမလုပ်လေနှင့်။[၁]

**မတ်စ်အလဟ် – (၁၇၅) သုံ့ပန်းပစ္စည်းများမှ အလွဲသုံးစားလုပ်သူကို တမန်တော်မြတ် ﷺ သည် အလွန်အမျက်ထွက်တော်မူခဲ့သည်။ သူ၏ တောင်းပန်မှုကိုပင် လက်မခံခဲ့ပေ။**

အဗ်ဒုလ္လာဟ်ဗင်န်အမရ် ؓ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် သုံ့ပန်းပစ္စည်းများရလာလျှင် ဘိလားလ် ؓ အား လူတို့တွင် ကြေညာစေသည်။ ထိုအခါ လူတို့သည် မိမိတို့ရထားသောသုံ့ပန်းပစ္စည်းများကို ယူဆောင်လာကြသည်။ ထိုအခါ ကိုယ်တော်မြတ်က မိမိအဖို့ ငါးပုံတစ်ပုံယူတော်မူပြီး ကျန်သည်များကို မုဂျာဟိဒ်များအား ဝေခွဲပေးသည်။ ခွဲဝေပြီးနောက်မှ လူတစ်ဦးသည် အမွေးနှင့်လုပ်ထားသော နဖားကြိုးတစ်ချောင်းကို ယူလာ၍ လျှောက်တင်သည်။ အို – တမန်တော်၊ ဤပစ္စည်းသည် ကျွန်တော်မျိုး သုံ့ပန်းရထားသောပစ္စည်းဖြစ်ပါသည်။ တမန်တော်မြတ် ﷺ က မိန့်သည်။ ဘိလာလ် သုံးကြိမ်တိုင်တိုင် ကြေညာသည်ကို အသင်မကြားဘူးလား။ ထိုသူက လျှောက်တင်သည်။ ဟုတ်ကဲ့၊ ကြားပါသည်။ တမန်တော်က မေးမြန်းသည်။ သို့ဆိုလျှင် ဘာကြောင့် မယူလာခဲ့သနည်း။ ထိုသူက တမန်တော်မြတ် ﷺ အား တောင်းပန်ခဲ့သည်။ တမန်တော်မြတ် ﷺ က မိန့်ကြားသည်။ "ဤပစ္စည်းကို ကိယာမသ်နေ့တွင် အသင့်ဘာသာအသင် ယူဆောင်လာခဲ့ပါ။ ငါကိုယ်တော် လုံးဝ လက်ခံမည် မဟုတ်တော့။[၂]

**မတ်စ်အလဟ် – (၁၇၆) ဗိုင်သုလ်မားလ်ခေါ် ပြည်သူပိုင်ပစ္စည်းမှ အလွဲသုံးစားလုပ်သူသည် ကိယာမသ်နေ့တွင် တမန်တော်မြတ် ﷺ ၏ ရှဖာအသ် အသနားခံပေးမှုမှ လက်မဲ့ဖြစ်လိမ့်မည်။**

---

၁ – သိရ်မိဇီကျမ်း၊ နံပါတ် – ၁၂၆၄။

၂ – အဗူဒါဝူဒ်ကျမ်း၊ နံပါတ် – ၂၇၁၂။

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် တစ်ရက်တွင် ကျွန်တော်တို့ရှေ့၌ ရပ်တော်မူပြီး အလှဲသုံးစား လုပ်ခြင်းနှင့်စပ်လျဉ်းပြီး မိန့်ကြားတော်မူခဲ့သည်။ ထိုအပြစ်သည် ကြီးလေးကြောင်းနှင့် ပြစ်ဒဏ်ကြီးလေးကြောင်း မိန့်ကြားတော်မူခဲ့သည်။ ထို့နောက် မိန့်ကြားတော်မူသည်။ ငါသည် အသင်တို့တစ်ဦးတစ်ယောက်ကို ဤအဖြစ်နှင့် မတွေ့မြင်ရပါစေနှင့်။ သူသည် လည်ကုပ်ပေါ်တွင် အော်ဟစ်နေသောကုလားအုတ်ကိုထမ်းရွက်ထားပြီးငါ့အားပြောမည်။ အို – တမန်တော်၊ ကျွန်တော့်အား ကူညီတော်မူပါ။ ထိုအခါ ငါကိုယ်တော်က ပြောမည်။ ငါ ဘာမျှမတတ်နိုင်ပါ။ အသင့်ကို ကျွန်ုပ် ပို့ချပေးခဲ့ပြီးဖြစ်သည်။ ငါသည် အသင်တို့တစ်ဦးတစ်ယောက်ကို ဤအဖြစ်နှင့် မတွေ့မြင်ရပါစေနှင့်။ သူသည် လည်ကုပ်ပေါ်တွင် ဟီနေသောမြင်းကို ထမ်းရွက်ထားပြီး ငါ့အား ပြောမည်။ အို – တမန်တော်၊ ကျွန်တော့်အား ကူညီတော်မူပါ။ ထိုအခါ ငါကိုယ်တော်က ပြောမည်။ ငါ ဘာမျှမတတ်နိုင်ပါ။ အသင့်ကို ကျွန်ုပ် ပို့ချပေးခဲ့ပြီးဖြစ်သည်။ ငါသည် အသင်တို့တစ်ဦးတစ်ယောက်ကို ဤအဖြစ်နှင့် မတွေ့မြင်ရပါစေနှင့်။ သူသည် လည်ကုပ်ပေါ်တွင် အော်ဟစ်နေသောဆိတ်ကို ထမ်းရွက်ထားပြီး ငါ့အား ပြောမည်။ အို – တမန်တော်၊ ကျွန်တော့်အား ကူညီတော်မူပါ။ ထိုအခါ ငါကိုယ်တော်က ပြောမည်။ ငါ ဘာမျှမတတ်နိုင်ပါ။ အသင့်ကို ကျွန်ုပ် ပို့ချပေးခဲ့ပြီးဖြစ်သည်။ ငါသည် အသင်တို့တစ်ဦးတစ်ယောက်ကို ဤအဖြစ်နှင့် မတွေ့မြင်ရပါစေနှင့်။ သူသည် လည်ကုပ်ပေါ်တွင် အော်ဟစ်နေသော မတရားအသတ်ခံထားရသူကို ထမ်းရွက်ထားပြီး ငါ့အား ပြောမည်။ အို – တမန်တော်၊ ကျွန်တော့်အား ကူညီတော်မူပါ။ ထိုအခါ ငါကိုယ်တော်က ပြောမည်။ ငါ ဘာမျှမတတ်နိုင်ပါ။ အသင့်ကို ကျွန်ုပ် ပို့ချပေးခဲ့ပြီးဖြစ်သည်။ ငါသည် အသင်တို့တစ်ဦးတစ်ယောက်ကို ဤအဖြစ်နှင့် မတွေ့မြင်ရပါစေနှင့်။ သူသည် လည်ကုပ်ပေါ်တွင် လှုပ်ယမ်းနေသော အဝတ်ကို ထမ်းရွက်ထားပြီး ငါ့အား ပြောမည်။ အို – တမန်တော်၊ ကျွန်တော့်အား ကူညီတော်မူပါ။ ထိုအခါ ငါကိုယ်တော်က ပြောမည်။ ငါ ဘာမျှ

မတတ်နိုင်ပါ။ အသင့်ကို ကျွန်ုပ် ပို့ချပေးခဲ့ပြီးဖြစ်သည်။ ငါသည် အသင်တို့တစ်ဦးတစ်ယောက်ကို ဤအဖြစ်နှင့် မတွေ့မြင်ရပါစေနှင့်။ သူသည် လည်ကုပ်ပေါ်တွင် ရွှေ၊ ငွေများကို ထမ်းရွက်ထားပြီး ငါ့အား ပြောမည်။ အို – တမန်တော်၊ ကျွန်တော့်အား ကူညီတော်မူပါ။ ထိုအခါ ငါကိုယ်တော်က ပြောမည်။ ငါ ဘာမျှမတတ်နိုင်ပါ။ အသင့်ကို ကျွန်ုပ် ပို့ချပေးခဲ့ပြီးဖြစ်သည်။ [၁]

**မတ်စ်အလဟ် – (၁၇၇) အလွဲသုံးစားလုပ်သူ၊ သစ္စာမရှိသူကို ကိယာမသ်နေ့တွင် ဟာရှ်ရ်ကွင်းပြင်၌ လူအားလုံးရှေ့တွင် သေးသိမ်အောင်လုပ်လိမ့်မည်။**

အိဗ်နအုမရ် ﵄ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အလ္လာဟ်အရှင်မြတ်သည်ကိယာမသ်နေ့တွင် ရှေးလူ၊ နောက်လူ လူခပ်သိမ်းတို့ကို စုရုံးပြီးသောအခါ သစ္စာမရှိသူ၊ အလွဲသုံးစားလုပ်သူတိုင်းအတွက် အလံမြှင့်တင်ထားပြီး ဤသည် မည်သူမည်ဝါ၏ သစ္စာမဲ့မှုဟု ပြောဆိုပေမည်။[၂]

**မတ်စ်အလဟ် – (၁၇၈) ဗိုင်သုလ်မားလ်အများပိုင်ငွေမှအလွဲသုံးစားလုပ်၍ စားသုံးသူသည် ဂျဟန္နမ်သို့ သွားရမည်။**

ခေါင်လာအန်ဆွာရီ ﵂ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားသည်ကို ကျွန်မ ကြားခဲ့သည်။ "တချို့သောသူများသည် အလ္လာဟ်အရှင်မြတ်၏ငွေများ(ဗိုင်သုလ်မားလ်မှ ငွေများ)ကို အခွင့်မရှိဘဲ သုံးစွဲနေကြသည်။ ထိုသူတို့အဖို့ ကိယာမသ်နေ့တွင် ငရဲမီးရှိပေသည်။[၃]

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၈၃၁။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၇၃၅။

၃ – ဗုခါရီကျမ်း၊ နံပါတ် – ၃၁၁၈။

**မတ်စ်အလဟ် – (၁၇၉) အမာနသ်အပ်နှံမှုများသည် ကိယာမသ်နေ့တွင် စွိရားသ်တံတား၏ ဘေးတစ်ဖက်တွင် မတ်တတ်ရပ်နေပြီး အလွဲသုံးစား လုပ်သူတိုင်းကို ငရဲဘုံသို့ ဆွဲချလိမ့်မည်။**

ဟိုဇိုင်ဖဟ်နှင့် အဗူဟိုရိုင်ရဟ် ﷺတို့ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "အမာနသ်(အပ်နှံပစ္စည်း)နှင့် ရဟိမ် (ဆွေမျိုးတော်စပ်မှု)တို့အား ကိယာမသ်နေ့တွင် စေလွှတ်ပေးလိမ့်မည်။ သူတို့နှစ်ခုသည် စွိရားသ်တံတား၏ ဘေးဘက်နှင့် ညာဘက်တွင် ရပ်နေလိမ့်မည်။ အသင်တို့အနက်မှ ပထမဦးဆုံးသောပုဂ္ဂိုလ်သည် စွိရားသ်တံတားမှ လျှပ်တစ်ပြက်အတွင်း ဖြတ်သန်းသွားပေလိမ့်မည်။ ကျွန်ုပ်က လျှောက်ထားမေးမြန်းခဲ့သည်။ ကျွန်တော်မျိုး၏ မိဘကို ကိုယ်တော့်အတွက်စတေးပါသည်။ လျှပ်တစ်ပြက်အတွင်းဆိုသည်မှ အဘယ်ကဲ့သို့နည်း။ ကိုယ်တော်မြတ် ﷺ က မိန့်ကြားတော်မူသည်။ လျှပ်စီးသည် မျက်စိတစ်မှိတ်အတွင်း သွားလာသည်ကို အသင်တို့ မတွေ့မြင်ကြဘူးလား။ ထို့နောက်တွင် လူတစ်ချို့သည် လေပမာ ဖြတ်သန်းသွားကြလိမ့်မည်။ ထို့နောက်တွင် တချို့က ငှက်ပမာ ဖြတ်သန်းသွားကြလိမ့်မည်။ ထို့နောက်ကျန်လူအားလုံးသည် မိမိတို့၏ ကောင်းမှုကုသိုလ်များ၏ပမာဏအလိုက် ဖြတ်သန်းသွားကြမည်။ အသင် တို့၏ တမန်တော်သည် တံတားထိပ်တွင် ရပ်နေပြီး "အို – အရှင်၊ ကျွန်တော်မျိုး၏အွမ္မသ်ကို ကယ်တင်တော်မူပါ၊ အို – အရှင်၊ ကျွန်တော်မျိုး၏အွမ္မသ်ကို ကယ်တင်တော်မူပါဟု လျှောက်တင်နေမည်။ သို့နှင့် ကောင်းမှုကုသိုလ်ရှင်များ နည်းပါးသွားကြမည်။ ထိုအခါ လူတစ်ဦးရောက်လာမည်။ သူသည် လမ်းပင်မလျှောက်နိုင်ဘဲ တရွတ်တိုက်သွားနေမည်။ စွိရားသ်တံတား၏ အစွန်းနှစ်ဖက်တွင် သံချိတ်ကြီးများချိတ်ဆွဲထားလိမ့်မည်။ ထိုသံချိတ်များသည် အမိန့်ရထားသူများကို ချိတ်ပစ်လိမ့်မည်။ တစ်ချို့သည် ဒဏ်ရာရကာ တံတားပေါ်ပြန်ပြုတ်ကျမည်။ တစ်ချို့သည် တံတားပေါ်မှ လိမ့်ကျကြမည်။[၁]

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၉၅။

**မတ်စ်အလဟ် – (၁၈၀) အပ်နှံပစ္စည်းကို အလွဲသုံးစားလုပ်ခြင်းသည် မုနာဖိက်၏နိမိတ်လက္ခဏာတစ်ခုဖြစ်သည်။**

အဗူဟုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မုနာဖိက်၏ နိမိတ်လက္ခဏာ သုံးခုရှိသည်။ (၁) စကားပြောလျှင် လိမ်ပြောသည်။ (၂) ကတိပေးလျှင် ဖောက်ဖျက်သည်။ (၃) အပ်နှံခြင်းခံရလျှင် အလွဲသုံးစားလုပ်သည်။[၁]

**မတ်စ်အလဟ် – (၁၈၁) အလွဲသုံစားလုပ်သောအမျိုးသား၊ အမျိုးသမီး၏ သက်သေထွက်ဆိုမှုကို လက်မခံသင့်ပေ။**

စလ်မားန်ဗင်န်မူစာ ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အလွဲသုံးစားလုပ်သောအမျိုးသား၊ အမျိုးသမီး၊ ဇိနာကျူးလွန်သောအမျိုးသား၊ အမျိုးသမီးနှင့် မိမိ၏ညီနောင်ကို အငြိုးအတေးထားသူများ၏ သက်သေထွက်ဆိုမှု မပိုင်ပေ။[၂]

**မတ်စ်အလဟ် – (၁၈၂) သစ္စာမဲ့မှု၊ အလွဲသုံးစားလုပ်မှုတို့မှ ခိုလှုံခွင့်တောင်းခံရမည့်ဒုအာ**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အို – အလ္လာဟ်အရှင်မြတ်၊ ကျွန်တော်မျိုးသည် ဆာလောင်မွတ်သိပ်ခြင်းမှ အရှင်မြတ်ထံ ခိုလှုံပါ၏။ အဘယ်ကြောင့်ဆိုသော် ဆာလောင်မွတ်သိပ်မှုသည် အလွန်ဆိုးရွားသောမိတ်ဆွေဖြစ်သည်။ ထို့ပြင် ကျွန်တော်မျိုးသည် သစ္စာမဲ့မှုမှ ခိုလှုံပါ၏။ အဘယ်ကြောင့်ဆိုသော် သစ္စာမဲ့မှုသည် အလွန်ဆိုးရွားသောအဆွေခင်ပွန်းဖြစ်သည်။[၃]

  

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၅၉။
၂ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၃၆၀၁။
၃ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၃၃၅၄။

## (၃၃) စေးနဲ့တွန့်တိုခြင်း

မတ်စ်အလဟ် – (၁၈၃) စေးနဲ့တွန့်တိုခြင်းသည် ကြီးလေးသောအပြစ် ဖြစ်သည်။

ဂျာဗိရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ “စေးနဲ့တွန့်တိုခြင်းမှ ရှောင်ကြဉ်ကြကုန်၊ အဘယ်ကြောင့်ဆိုသော် စေးနဲ့တွန့်တိုခြင်းသည် အသင်တို့အလျင်ကလူများကို ပျက်စီးစေခဲ့သည်။စေးနဲ့တွန့်တိုခြင်းကပင်သူတို့အားသွေးချောင်းစီးရန်နှင့် ဟာရာမ်များကို ဟလာဟ်အဖြစ်လုပ်ဆောင်ရန် လှုံ့ဆော်ခဲ့သည်။[၁]

မတ်စ်အလဟ် – (၁၈၄) ဆွေးမျိုးသားချင်းများအား စေးနဲ့တွန့်တိုသောသူသည် ကိယာမသ်နေ့တွင် လည်ပင်း၌ မြွေတင်ခြင်းခံရမည်။

မှတ်ချက်။ ။ မတ်စ်အလဟ်အမှတ် (၂၉၆)တွင် ရှုပါ။

❋ ❋ ❋

## (၃၄) မောက်မာပလွှားခြင်း

မတ်စ်အလဟ် – (၁၈၅) မောက်မာပလွှားခြင်းသည် ကြီးလေးသောအပြစ် ဖြစ်သည်။



إِنَّهُۥ لَا يُحِبُّ ٱلْمُسْتَكْبِرِينَ ﴿٢٣﴾

အမှန်ပင် အရှင်မြတ်သည် မာနထောင်သောသူများအား မနှစ်သက်ပေ။[၂]

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “အလ္လာဟ်အရှင်မြတ် မိန့်တော်မူသည်။

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၅၇၈။

၂ – ကုရ်အာန် ၁၆း ၂၃။

မောက်မာပလွှားမှုသည် ငါအရှင်မြတ်၏ ခြုံထည်ဖြစ်သည်။ ကြီးမြတ်မှုသည် ငါအရှင်မြတ်၏ ဝတ်ရုံတော်ဖြစ်သည်။ ထိုနှစ်ခုအနက်မှတစ်ခုခုအား လာလုသူကို ငါအရှင်သည် ငရဲဘုံတွင် ပစ်ချတော်မူမည်။[၁]

မတ်စ်အလဟ် – (၁၈၆) ကိယာမသ်နေ့တွင် မောက်မာပလွှားသူများကို သိက္ခာချရန်အတွက် သူတို့၏ ကိုယ်ခန္ဓာများသည် ပုရွတ်ဆိတ်ပမာလုပ်ခြင်းခံရမည်။

အမရ်ဗင်နိရှုအိုင်ဗ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ ကိယာမသ်နေ့တွင် မောက်မာပလွှားသောသူများသည် လူသဏ္ဍာန်၊ ပုရွက်ဆိတ်ခန္ဓာဖြင့် ရှင်ထစေတော်မူမည်။ နေရာတိုင်းမှ သေးသိမ်မှုသည် သူတို့အပေါ် လွှမ်းမိုးနေလိမ့်မည် ။ "ဗူးလတ်စ်" မည်တွင်သောငရဲထောင်သို့ မောင်းပို့ခြင်းခံရမည်။ အလွန်ပြင်းထန်သောမီးသည် သူတို့အား လွှမ်းခြုံထားမည်။ ဂျဟန္နမ်ငရဲဘုံသားများ၏ သွေးပြည်ပုပ်များ တိုက်ကျွေးခြင်းခံရမည်။[၂]

မတ်စ်အလဟ် – (၁၈၇) မောက်မာသူ၊ ပလွှားသူ၊ ဂုဏ်မောက်သူများသည် ငရဲဘုံသို့သွားရမည်။

ဟာရိဆဟ်ဗင်နိ ဝဟာဗ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ငရဲဘုံသားများကို အသင်တို့အား ငါမပြောပြရဘူးလား။ စွဟာဗဟ်တို့က ပြောပြတော်မူပါဟု လျှောက်တင်သောအခါ ကိုယ်တော်မြတ်က မိန့်ကြားတော်မူသည်။ "မောက်မာသူ၊ ပလွှားသူ၊ ဂုဏ်မောက်သူတိုင်း ဖြစ်သည်။"[၃]

၁ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၄၁၇၄။

၂ – သိရ်မိဇီကျမ်း၊ နံပါတ် – ၂၄၉၂။

၃ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၈၅၃။

မတ်စ်အလဟ် – (၁၈၈) မောက်မာပလွှားသူများကို အပြစ်ပေးရန်အတွက် ငရဲဘုံကိုယ်တိုင်က ကြေညာလိမ့်မည်။

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ ကိယာမသ်နေ့တွင် ဂျဟန္နမ်ငရဲဘုံမှ လည်ကုပ်တစ်ခုထွက်လာမည်။ ထိုလည်ကုပ်တွင် မြင်နိုင်သောမျက်လုံးနှစ်လုံးရှိမည်။ ကြားနိုင်သောနားနှစ်ဖက်ရှိမည်။ ပြောနိုင်သောပါးစပ်ရှိမည်။ သူက ပြောမည်။ သုံးဦးသောသူကို အပြစ်ပေးရန် ငါ့အား တာဝန်ပေးထားသည်။ (၁) မောက်မာပြီး ခေါင်းမာသူ၊ (၂) အလ္လာဟ်အရှင်မြတ်နှင့်အတူ အခြားအရာကို ဟာစ်ခေါ်တသသူ၊ (၃) ရုပ်ပုံရေးဆွဲသူများ ဖြစ်ကြသည်။[၁]



## (၃၅) ပြစားခြင်း(ပဏာသန)

မတ်စ်အလဟ် – (၁၈၉) ပြစားရန်အတွက်၊ နာမည်ကြီးရန်အတွက် ကောင်းမှုကုသိုလ်လုပ်သူသည် ငရဲဘုံသို့သွားရမည်။

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ ကိယာမသ်နေ့တွင် ပထမဦးဆုံး စီရင်ဆုံးဖြတ်ခြင်းခံရမည့်သူမှာ ရှဟီဒ်ဖြစ်သည်။ သူ့အား ရှေ့တော်မှောက်သို့ခေါ်ဆောင်လာကြမည်။ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်များကို ပြန်လည်အမှတ်ရစေတော်မူမည်။ ထိုသူကလည်း မှတ်မိသွားမည်။ အရှင်မြတ်က မေးတော်မူမည်။ ထိုကျေးဇူးတော်များနှင့်စပ်လျဉ်းပြီး အသင်ဘာတွေလုပ်ခဲ့သလဲ။ ထိုသူက လျှောက်တင်မည်။ ကျွန်တော်မျိုးသည် အရှင့်အတွက် အသက်အသေခံပြီး စစ်တိုက်ခဲ့ပါသည်။ အရှင်မြတ်က မိန့်တော်မူမည်။ အသင် လိမ်ညာနေသည်။ အသင် စစ်တိုက်ခဲ့ခြင်းမှာ သူရဲကောင်း

---

၁ – သိရ်မိဇီကျမ်း၊ နံပါတ် – ၂၅၇၄။

ကြီးဟု အခေါ်ခံရရန်အတွက် ဖြစ်သည်။ ထိုအတိုင်း လောကတွင် အသင် အခေါ်ခံခဲ့ရပြီးပြီ။ ထို့နောက် သူ့အား ဂျဟန္နမ်ငရဲဘုံထဲ တရွတ်တိုက်ဆွဲခေါ်သွားပြီး ပစ်ချကြမည်။ နောက်တစ်ဦးမှာ အိလ်မ်ပညာကို သင်ယူခဲ့သည်၊ တဖန် လူတို့အား သင်ကြားပို့ချပေးခဲ့သည်။ ကုရ်အာန်လည်း တတ်ကျွမ်းခဲ့သည်။ ထိုသူ့ကို အရှင်မြတ်ရှေ့သို့ ခေါ်လာကြမည်။ အရှင်မြတ်သည် သူ့အား မိမိ၏ကျေးဇူးတော်များကို ပြန်လည်အမှတ်ရစေတော်မူမည်။ ထိုသူက လည်း မှတ်မိသွားမည်။ အရှင်မြတ်က မေးမြန်းတော်မူမည်။ ထိုကျေးဇူးတော်များနှင့်စပ်လျဉ်းပြီး အသင်ဘာတွေလုပ်ခဲ့လဲ။ ထိုသူက လျှောက်တင်မည်။ ကျွန်တော်မျိုးသည် အိလ်မ်ပညာကို သင်ယူပြီးနောက် ပြန်လည် ပို့ချခဲ့ပါသည်။ အရှင်မြတ်အတွက် ကုရ်အာန်ဖတ်ရွတ်ခဲ့ပါသည်။ အရှင်မြတ်က မိန့်ကြားတော်မူမည်။ အသင် လိမ်ညာနေသည်။ အမှန်စင်စစ်မှာ အသင်သည် အာလင်မ်ကြီးဟု အခေါ်ခံရဖို့ ပညာသင်ယူခဲ့ခြင်းဖြစ်သည်။ ကာရီဆပ်ကြီးဟု အခေါ်ခံရရန် ကုရ်အာန်သင်ယူခဲ့ခြင်း ဖြစ်သည်။ ထိုအတိုင်း အသင် အခေါ်ခံခဲ့ရပြီးပြီ။ ထို့နောက် သူ့အား ဂျဟန္နမ်ငရဲဘုံထဲ တရွတ်တိုက်ဆွဲခေါ်သွားပြီး ပစ်ချကြမည်။ နောက်တစ်ဦးမှာ အကြွင်သူဖြစ်သည်။ ထိုသူ့ကို အလ္လာဟ်အရှင်မြတ်က ဥစ္စာပစ္စည်း ကြွယ်ဝစွာ ချီးမြှင့်ထားသည်။ ဥစ္စာပစ္စည်းမျိုးစုံကိုလည်း ချီးမြှင့်ထားသည်။ ထိုသူ့ကို အရှင်မြတ်ရှေ့သို့ ခေါ်လာကြမည်။ အရှင်မြတ်သည် သူ့အား မိမိ၏ကျေးဇူးတော်များကို ပြန်လည်အမှတ်ရစေတော်မူမည်။ ထိုသူကလည်း မှတ်မိသွားမည်။ အရှင်မြတ်က မေးမြန်းတော်မူမည်။ ထိုကျေးဇူးတော်များနှင့်စပ်လျဉ်းပြီး အသင်ဘာတွေလုပ်ခဲ့လဲ။ ထိုသူက လျှောက်တင်မည်။ ကျွန်တော်မျိုးသည် အရှင်မြတ်နှစ်သက်သော လမ်းတိုင်းတွင် အရှင်မြတ်အတွက် ထိုငွေကြေးများကို လှူဒါန်းသုံးစွဲခဲ့ပါသည်။ အရှင်မြတ်က မိန့်ကြားတော်မူမည်။ အသင် လိမ်ညာနေသည်။ အမှန်စင်စစ်မှာ အသင်သည် ရက်ရောသူကြီးဟု အခေါ်ခံရဖို့ လှူဒါန်းခဲ့ခြင်းဖြစ်သည်။ ထို့နောက် သူ့အား ဂျဟန္နမ်ငရဲဘုံထဲ

တရွတ်တိုက်ဆွဲခေါ်သွားပြီး ပစ်ချကြမည်။[၁]

**မတ်စ်အလဟ် – (၁၉၀) နာမည်ကြီးဖို့၊ လူတို့အား ပြစားဖို့အတွက် ပြုလုပ်ခဲ့သောကောင်းမှုများ၏ အကျိုးကုသိုလ်သည် မြင်သာမြင်ရမည်။ လက်တွေ့ရရှိမည်မဟုတ်ပေ။**

အိဗ်နအဗ္ဗားစ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “မည်သူမဆို လူတို့ကြားသိပြီး မိမိထင်ပေါ်ကျော်ကြားအောင် ကောင်းမှုကုသိုလ်လုပ်ခဲ့ပါက အရှင်မြတ်ကလည်း သူ့အား လူတို့ထံ နာမည်ကြီးစေတော်မူမည်။ အကြင်သူသည် လူတို့အား ပြစားရန်အတွက် ကောင်းမှုကုသိုလ်ပြုလုပ်ခဲ့ပါက အရှင်မြတ်သည် လူတို့အား မြင်စေတော်မူ မည်။ (အကျိုးကုသိုလ်ရမည်မဟုတ်)[၂]



## (၃၆) မတရားညှင်းပန်းနှိပ်စက်ခြင်း

**မတ်စ်အလဟ် – (၁၉၁) မတရားညှင်းပန်းနှိပ်စက်ခြင်းသည် ဟရာမ်ဖြစ်သည်။**

အဗူဇရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို ပြန်လည်ပြောကြားတော်မူသည်။ “အို – ငါ့အရှင်မြတ်၏ ကျေးကျွန်တို့၊ မတရားညှင်းပန်းနှိပ်စက်မှုကို ငါအရှင်သည် မိမိအပေါ်၌ပင် ဟရာမ်အဖြစ်သတ်မှတ်ထားသည်။ အသင်တို့ကြားတွင်လည်း ထိုအမှုကို ဟရာမ်အဖြစ်ပင် သတ်မှတ်ထားတော်မူသည်။ ထို့ကြောင့် အသင်တို့အချင်းချင်း မတရားညှင်းပန်းနှိပ်စက်မှုမလုပ်ကြလေနှင့်။[၃]

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၉၀၅။
၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၉၈၇။
၃ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၅၇၇။

**မတ်စ်အလဟ် – (၁၉၂) မတရားညှင်းပန်းနှိပ်စက်မှုသည် အသေးအမွှား ပင်ဖြစ်နေလင့်ကစား ကိယာမသ်နေ့တွင် ပြန်လည်ပေးဆပ်ရမည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ မည်သူမဆို မိမိ၏ ကျေးကျွန်အား မတရား သဖြင့် ကြာပွတ်တစ်ချက်ရိုက်ခဲ့ပါက ကိယာမသ်နေ့တွင် သူ့ထံမှ အစားပြန် ယူခြင်းခံရမည်။[၁]

**မတ်စ်အလဟ် – (၁၉၃) မတရားညှင်းပန်းနှိပ်စက်မှုပြုသူသည် ကိယာမသ် နေ့တွင် အမှောင်ထုထဲ၌ လမ်းပျောက်နေလိမ့်မည်။**

အိဗ်နအုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "မတရားညှင်းပန်းနှိပ်စက်မှုသည် ကိယာမသ် နေ့တွင် အမှောင်ထုများဖြစ်နေလိမ့်မည်။"[၂]

  

## (၃၇) သူတစ်ပါးအား အထင်အမြင်သေးခြင်း

**မတ်စ်အလဟ် – (၁၉၄) သူတစ်ပါးကို အထင်အမြင်သေးခြင်းသည် ကောင်းမှုကုသိုလ်များကို ဖျက်ဆီးပစ်မည့်လုပ်ရပ်ဆိုးဖြစ်သည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "မွတ်စ်လင်မ်တစ်ဦးသည် နောက်မွတ်စ်လင်မ် တစ်ဦး၏ ညီနောင်ဖြစ်သည်။ ထို့ကြောင့် ညီနောင်ကို မတရားညှင်းပန်းမှု မလုပ်နှင့်၊ သူ့အား အကူအညီမပေးဘဲ ပစ်မထားနှင့်၊ သူ့အား အထင်မသေး လေနှင့်။ တမန်တော်မြတ်သည် မိမိ၏ရင်ဘတ်ကိုညွှန်ပြပြီး "သက္ကဝါတရား သည် ဤနေရာတွင်ရှိသည်" ဟု သုံးကြိမ်မိန့်ကြားတော်မူသည်။ မိမိညီ

၁ – ဗဇ်ဇားရ်ကျမ်း၊ သွဗ်ရာနီကျမ်း။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၅၇၉။

နောင်ကို အထင်သေးခြင်းအချက်တစ်ချက်တည်းနှင့်ပင် လူတစ်ဦး ပျက်စီးဖို့လုံလောက်သွားသည်။ မွတ်စ်လင်မ်တိုင်း၏ အသက်၊ ဥစ္စာပစ္စည်း၊ ဂုဏ်သိက္ခာတို့သည် နောက်မွတ်စ်လင်မ်တစ်ဦးအဖို့ ဟာရာမ်ဖြစ်သည်။[၁]

**မတ်စ်အလဟ် – (၁၉၅) သူတစ်ပါးအား အထင်အမြင်သေးပြီး မကောင်းပြောဆိုသူကို အလ္လာဟ်အရှင်မြတ်သည် ထိုသူအား ထိုအတိုင်းပင် ပြန်ခံစားစေတော်မူသည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "လူတစ်ဦးသည် "လူတွေ ပျက်စီးကုန်ကြပြီ" ဟု ပြောဆိုလျှင် ထိုသူသည် အားလုံးထဲတွင် အပျက်စီးဆုံးသူ ဖြစ်မည်။"[၂]

**မတ်စ်အလဟ် – (၁၉၆) သူတစ်ပါးကို အထင်သေးသူသည် မောက်မာပလွှားသူ ဖြစ်သည်။**

အဗ်ဒုလ္လာဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "စိတ်နှလုံးတွင် မြူမှုန်ခန့်မျှ အီမာန်ယုံကြည်မှုရှိသူသည် ငရဲဘုံသို့ ဝင်ရောက်ရမည်မဟုတ်။ စိတ်နှလုံးတွင် မြူမှုန်ခန့်မျှ မာနထောင်လွှားမှုရှိသူသည် ဂျန္နသ်သုခဘုံသို့ ဝင်ရောက်ရမည်မဟုတ်။ ထိုအခါ လူတစ်ဦးက လျှောက်ထားမေးမြန်းသည်။ အို – တမန်တော်၊ လူတိုင်းသည် မိမိ၏ အဝတ်အစား လှပနေခြင်း၊ မိမိ၏ ဖိနပ်လှပနေခြင်းကို နှစ်သက်ကြပါသည်။ (ဤသည်မာနနှင့်ဆိုင်ပါသလား) ကိုယ်တော်မြတ်က မိန့်ကြားတော်မူသည်။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် လှပတော်မူသောအရှင်ဖြစ်သည်။ လှပမှုကိုလည်း နှစ်သက်တော်မူသည်။ မာန်မာနထောင်လွှားမှုဟူသည် အမှန်တရားကိုလက်မခံဘဲ လူတို့အား အထင်သေး

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၅၈၀။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၆၂၃။

ခြင်းကို ခေါ်ဆိုသည်။[၁]

**မတ်စ်အလဟ် – (၁၉၇) သူတစ်ပါးကို အထင်သေးသူ၏ ကောင်းမှုကုသိုလ်များကို အလ္လာဟ်အရှင်မြတ်က ဖျက်ဆီးပစ်တော်မူသည်။**

ဂျွန်ဒုဗ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "လူတစ်ဦးက "အလ္လာဟ်အရှင်မြတ်၏ကစမ်၊ မုချအရှင်မြတ်သည် မည်သူမည်ဝါကို လွတ်ငြိမ်းချမ်းသာခွင့် ပေးလိမ့်မည် မဟုတ်ပေ"ဟု ပြောဆိုခဲ့သည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်က မိန့်ကြားတော်မူသည်။ "ငါအရှင်က မည်သူမည်ဝါကို ခွင့်လွှတ်မှာမဟုတ်ဘူးလို့ ကျိန်ဆိုတာ ဘယ်သူတုန်း။ ငါအရှင်သည် ထိုသူ့ကို လွတ်ငြိမ်းချမ်းသာခွင့် ပေးလိုက်ပေပြီ။ အသင့်၏ ကောင်းမှုကုသိုလ်များကို အချည်းနှီးလုပ်ပစ်တော်မူလိုက်ပေပြီ။[၂]

**မတ်စ်အလဟ် – (၁၉၈) မိခင်မွန်ကြီး ဇိုင်နဗ် ﷺသည် မိခင်မွန်ကြီး စွဖိယဟ် ﷺအား "ယဟူဒီမ"ဟု ခေါ်သည့်အတွက်ကြောင့် တမန်တော်မြတ်သည် ဇိုင်နဗ် ﷺနှင့် နှစ်လတိတိ အဆက်အဆံဖြတ်ခဲ့သည်။**

အာအိရှဟ် ﷺထံမှဆင့်ပြန်ချက်လာရှိသည်။ "တစ်ခါတွင် စွဖီယဟ် ﷺ၏ ကုလားအုတ်သည် နာမကျန်းဖြစ်သွားခဲ့သည်။ ဇိုင်နဗ်ထံတွင် ကုလားအုတ်တစ်ကောင် အပိုရှိနေသောကြောင့် တမန်တော်မြတ်က ဇိုင်နဗ် ﷺအား အမိန့်ရှိသည်။ ထိုပိုနေသောကုလားအုတ်ကို စွဖီယဟ်ကို ပေးလိုက်ပါ။ ထိုအခါ ဇိုင်နဗ်က "ထိုယဟူဒီမကို ပေးရမှာလား"ဟု ပြောလေသည်။ တမန်တော်မြတ်သည် အမျက်ဒေါသထွက်တော်မူပြီး သူမအား ဇွလ်ဟဂျ်လနှင့် မုဟာရ်ရမ်လနှင့် စွဖရ်လမှရက်အချို့အဆက်အသွယ်ဖြတ်

၁ – အိဗ်နဟိဗ်ဗာန်ကျမ်း၊ နံပါတ် – ၅၄၆၆။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၆၂၁။

တော်မူခဲ့သည်။[၁]



## (၃၈) ဖြုန်းတီးခြင်း

**မတ်စ်အလဟ် – (၁၉၉) ဖြုန်းတီးသူများသည် ရှိုင်သွာန်၏ ညီနောင်များဖြစ်ကြသည်။**

اِنَّ الْمُبَذِّرِيْنَ كَانُوْٓا اِخْوَانَ الشَّيٰطِيْنِ ۭ وَكَانَ الشَّيْطٰنُ لِرَبِّهٖ كَفُوْرًا ۝٢٧

အမှန်စင်စစ် အလဟာဿဖြုန်းတီးသူများသည် *ရှိုင်သွာန်*၏ ညီအစ်ကိုများပင် ဖြစ်ကြသည်။ ထို့ပြင် *ရှိုင်သွာန်* သည် သူ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ကို အလွန်ကျေးဇူးကန်းသူပင် ဖြစ်သည်။[၂]

ဂျာဗိရ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "အိပ်ရာတစ်ခုသည် အမျိုးသားအတွက်၊ နောက်အိပ်ရာတစ်ခုသည် အမျိုးသမီးအတွက်၊ တတိယအိပ်ရာသည် ဧည့်သည်အတွက်၊ စတုတ္ထအိပ်ရာသည် ရှိုင်သွာန်အတွက်ဖြစ်သည်။[၃]

ရှင်းလင်းချက်။ အိမာမ်နဝဝီ ﷺ က ဤအခန်းကဏ္ဍတွင် အဝတ်အစားကိုပါ ထည့်သွင်းသည်။ အလိုသဘောမှာ အဝတ်အစားနှင့် အိမ်ရာများကို လိုအပ်သည့်အတိုင်းအတာခန့်သာ ထားပိုင်ခွင့်ရှိသည်။ လိုအပ်သည် ထက်ပိုသုံးခြင်းသည် ဖြုန်းတီးခြင်းဖြစ်သည်။

**မတ်စ်အလဟ် – (၂၀၀) ဖြုန်းတီးခြင်းကို အလ္လာဟ်အရှင်မြတ် မနှစ်သက်ပေ။**

မုဂီရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ

---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၄၆၀၂။

၂ – ကုရ်အာန် ၁၇း ၂၇။

၃ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၀၈၄။

မိန့်ကြားသည်ကို ကျွန်ုပ်ကြားခဲ့သည်။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အတွက် သုံးခုသောအရာကို မနှစ်သက်ပေ။ (၁) အကျိုးမဲ့စကားပြောဆိုခြင်း၊ (၂) ငွေကြေးဖြုန်းတီးခြင်း၊ (၃) အမေးအမြန်းထူခြင်းတို့ဖြစ်သည်။[၁]



## (၃၉) လမ်းတွင် အပေါ့အလေးသွားခြင်း

**မတ်စ်အလဟ် - (၂၀၁) လမ်းတွင်အရိပ်အာဝါသကောင်းသောနေရာများ၌ အပေါ့အလေးသွားသူသည် လအ်နသ်သင့်ပေမည်။**

မုအားဇ်ဗင်န်ဂျဗလ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ လအ်နသ်ပို့သည့်အရာသုံးခုမှ အသင်တို့ ရှောင်ကြဉ်ကြကုန်။ (၁) ရေဆိပ်တွင် အပေါ့အလေးသွားခြင်း၊ (၂) အရိပ်ကောင်းသောနေရာတွင် အပေါ့အလေးသွားခြင်း၊ (၃) လမ်းမပေါ်တွင် အပေါ့အလေးသွားခြင်းတို့ဖြစ်သည်။[၂]



## (၄၀) ကျင်ငယ်စက်များမှ မရှောင်ကြဉ်ခြင်း

**မတ်စ်အလဟ် - (၂၀၂) ကျင်ငယ်စက်များမှ မရှောင်ကြဉ်သောသူသည် ကဗရ်တွင် အပြစ်ဒဏ်ခံရသည်။**

အဗ်နအဗ္ဗားစ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် ကဗရ်နှစ်ခုအနီးမှ ဖြတ်သန်းတော်မူရာ "ဤကဗရ်နှစ်ခုသည် ကြီးမားသောကိစ္စမဟုတ်ဘဲ အပြစ်ပေးခြင်းခံနေရသည်။ ထို့နောက် ကိုယ်

---

၁ - မွတ်စ်လင်မ်ကျမ်း၊ နံပါတ် - ၅၉၃။

၂ - အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် - ၃၂၈။

တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ "သူတို့နှစ်ဦးအနက်မှ တစ်ဦးသည် ကုန်းချောကုန်းတိုက်လုပ်သူဖြစ်သည်။ နောက်တစ်ဦးမှာ ကျင်ငယ်စွန့် ရာတွင် မရှောင်ကြဉ်သူဖြစ်သည်။[၁]

ရှင်းလင်းချက်။ "ကြီးမားသောကိစ္စမဟုတ်ဘဲ အပြစ်ပေးခြင်းခံနေရသည်"၏အလိုသဘောမှာခက်ခဲသော၊ရှောင်ကြဉ်ရန်မလွယ်ကူသောကိစ္စကြောင့် အပြစ်ခံနေရခြင်းမဟုတ်၊ ရှောင်ကြဉ်ဖို့ လွယ်ကူပါလျက်နှင့် အပြစ်ခံနေရသည်ဟု ဆိုလိုသည်။



## (၄၁) မလိုအပ်ဘဲ တောင်းရမ်းခြင်း

**မတ်စ်အလဟ် – (၂၀၃) လိုအပ်ချက်မရှိဘဲ ငွေတိုးပွားရန်အတွက် တောင်းရမ်းခြင်းသည် ငရဲဘုံမှ မီးခဲကို စုနေခြင်းပင် ဖြစ်သည်။**

အဗူဟိုရိုင်ရဟ်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မည်သူမဆို ငွေကြေးဥစ္စာတိုးပွားရန် လူတွေထံမှ တောင်းရမ်းခဲ့ပါက ထိုသူသည် မီးကျီးခဲကို တောင်းရမ်းနေခြင်းဖြစ်သည်။ ထို့ကြောင့် အလိုရှိက နည်းနည်းတောင်းလော့၊ အလိုရှိက များများတောင်းလော့။[၂]

**မတ်စ်အလဟ် – (၂၀၄) မလိုအပ်ဘဲ တောင်းရမ်းသောသူ၏မျက်နှာပေါ်တွင် ကိယာမသ်နေ့၌ အမည်းစက်များဖြစ်နေလိမ့်မည်။**

အဗ်ဒုလ္လာဟ်ဗင်န်မတ်စ်အူးဒ် ؓထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မည်သူမဆို မိမိထံတွင် လုံလောက်မှုရှိပါလျက်နှင့် လူတို့ထံမှ တောင်းရမ်းခဲ့ပါက ကိယာမသ်နေ့တွင်

၁ – ဗုခါရီကျမ်း၊ နပါတ် – ၂၁၈။
၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၀၄၁။

ထိုတောင်းရမ်းမှုများသည် တောင်းရမ်းသူ၏ မျက်နှာပေါ်တွင် အခြစ်ရာများ၊ အနာဒဏ်ရာများ ဖြစ်နေလိမ့်မည်။ သူက တမန်တော်မြတ် ﷺ အား မေးမြန်းသည်။ လုံလောက်မှုဟူသည် အဘယ်နည်း။ တမန်တော်မြတ်က မိန့်ကြား တော်မူသည်။ ငွေဒင်္ဂါး ၅၀ သို့မဟုတ် ထိုတန်ဖိုးနှင့်အညီ ရွှေဒင်္ဂါးဖြစ်သည်။[၁]

  

## (၄၂) မကောင်းမှုများကို ထုတ်ဖော်ကြေညာခြင်း

**မတ်စ်အလဟ် – (၂၀၅) မိမိကျူးလွန်ခဲ့သောမကောင်းမှုများ၏ လျှို့ဝှက်ချက်ကို ထုတ်ဖော်ခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်ကို ကျွန်ုပ်ကြားခဲ့သည်။ "ငါ၏ အွမ္မသ်နောက်လိုက်သားများအားလုံး ခွင့်လွှတ်ပေးခြင်းခံရမည်။ သို့သော် မိမိကျူးလွန်ထားသောပြစ်မှုကို မိမိကိုယ်တိုင်ထုတ်ဖော်ကြေညာသူမပါဝင်ပေ။ ကိုယ်တိုင်ထုတ်ဖော်ခြင်းဆိုသည်မှာ လူတစ်ဦးသည် ညဉ့်တွင် မကောင်းမှုတစ်ခုကို ကျူးလွန်သည်။ အလ္လာဟ်အရှင်မြတ်က ယင်းမကောင်းမှုကို ဖုံးကွယ်ထားပေသည်။ သို့သော် သူက "အို – မိတ်ဆွေ၊ ညဉ့်က ငါသည် အဘယ်အဘယ်မကောင်းမှုကို ကျူးလွန်ခဲ့သည်" ဟု ထုတ်ပြောခြင်းဖြစ်သည်။ ညဉ့်တွင် အလ္လာဟ်အရှင်မြတ်က ဖုံးဖိပေးထားသောအရာကို မနက်မိုးလင်းသောအခါ သူက ထုတ်ဖော်ပစ်လိုက်သည်။[၂]

**မတ်စ်အလဟ် – (၂၀၆) အလ္လာဟ်အရှင်မြတ် ရွံရှာမုန်းတီးဆုံးသောသူမှာ မိမိအိမ်ထောင်ဘက်၏ လျှို့ဝှက်ချက်ကို ထုတ်ဖော်ပြောသူဖြစ်သည်။**

---
၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၁၆၂၆။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၉၉၀။

အဗူစအီးဒ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ ကိယာမသ်နေ့တွင် အလ္လာဟ်အရှင်မြတ်ထံတွင် အဆင့်အတန်းအနိမ့်ကျဆုံးဖြစ်မည့်သူမှာ အကြင်သူဖြစ်သည်။ ထိုသူသည် မိမိ၏ဖနီးထံသွားထားပြီး ဖနီးသည်က သူ့ထံလာထားသည်။ ထို့နောက် ထိုဖနီးသည်၏ လျှို့ဝှက်ချက်ကို ထုတ်ဖော်လေသည်။[၁]

  

## (၄၃) မကောင်းမှုအပေါ် ပေ၍နေခြင်း၊ ထပ်ခါထပ်ခါ ကျူးလွန်ခြင်း

**မတ်စ်အလဟ် – (၂၀၇) မကောင်းမှုသည် သေးသည်ဖြစ်စေ၊ ကြီးသည်ဖြစ်စေ ထပ်ခါထပ်ခါ ကျူးလွန်ခြင်းသည် ငရဲဘုံသို့သွားရမည့်အကြောင်းခံဖြစ်သည်။**

အဗ်ဒုလ္လာဟ်ဗင်န်အမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် မင်န်ဗရ်ပေါ်မှနေ၍ မိန့်ကြားတော်မူသည်။ "မကောင်းမှုကို သိပါလျက်နှင့် ထပ်ခါထပ်ခါ ကျူးလွန်နေသူများအတွက် ပျက်စီးမှုရှိပေသည်။"[၂]

**မတ်စ်အလဟ် – (၂၀၈) မကောင်းမှုကို အဆက်မပြတ် ကျူးလွန်ခြင်းအားဖြင့် သေးငယ်သောမကောင်းမှုသည် စုပုံသွားပြီး လူသားကို ဖျက်ဆီးပစ်သည်။**

စဟာလ်ဗင်န်စအဒ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "သေးငယ်သောမကောင်းမှုများမှ အသင်

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၄၃၇။

၂ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် – ၆၅၄၁။

တို့ရှောင်ကြဉ်ကြကုန်။ သေးငယ်သောမကောင်းမှုများ၏ ပမာမှာ ဤသို့ဖြစ်သည်။ လူတစ်စုသည် လျှိုင်မြောင်တစ်ခုတွင် စခန်းချကြသည်။ တစ်ယောက်က ဟိုဘက်မှ သစ်ကိုင်းခြောက်တစ်ချောင်းကောက်လာသည်။ နောက်တစ်ယောက်က သည်ဘက်မှ သစ်ကိုင်းခြောက်တစ်ချောင်း ကောက်လာသည်။ သို့နှစ် စားစရာများအားလုံး ချက်ပြုတ်လိုက်ကြသည်။ ထိုနည်းအတိုင်းပင် သေးငယ်သောမကောင်းမှုများကို ကျူးလွန်သူသည် အရေးယူခြင်းခံရသောအခါ ထိုမကောင်းမှုလေးများကပင် ထိုသူ့ကို ဖျက်ဆီးပစ်လေသည်။[၁]

  

## (၄၄) မကောင်းမှုဒုစရိုက်ကို အသေးအမွှားဟု မှတ်ယူခြင်း

**မတ်စ်အလဟ် (၂၀၉) မကောင်းမှုဒုစရိုက်များကို အသေးအမွှားဟု မှတ်ယူခြင်း၊ ဘာမှမဖြစ်ပါဘူးဟုမှတ်ယူခြင်းသည် လူသားကို ပျက်စီးစေသည်။**

အဗ်ဒုလ္လာဟ်ဗင်န်မတ်စ်အူဒ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “သေးငယ်သောမကောင်းမှုများမှ အသင်တို့ ရှောင်ကြဉ်ကြကုန်။ အဘယ်ကြောင့်ဆိုသော် ထိုသေးငယ်သောမကောင်းမှုများ စုရုံးသွားသောအခါ လူသားကို ပျက်စီးစေသည်။[၂]

**မတ်စ်အလဟ် (၂၁၀) တစ်ခါတရံ လူသား၏ စိတ်ထဲမှပင် မထင်မှတ်ထားသော အသေးအမွှားကိစ္စလေးတစ်ခုကြောင့် ငရဲဘုံသို့သွားရောက်ရန် အကြောင်းခံ ဖြစ်သွားလေသည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “လူတစ်ဦးသည် အလ္လာဟ်အရှင်မြတ်

၁ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် – ၂၂၈၀၈။
၂ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် – ၃၈၁၈။

မနှစ်မြို့သောစကားတစ်ခွန်းကို ပြောလိုက်သည်။ သူက ထိုစကားရပ်ကို အသေးအမွှားလေးဟု ထင်နေသည်။ သို့သော် ယင်းစကားရပ်က ထိုသူ့ကို ငရဲဘုံသို့ ခေါ်သွားလေသည်။[၁]

**မတ်စ်အလဟ် – (၂၁၁) မကောင်းမှုတစ်ခုကို သေးငယ်သည်ဟုမှတ်ယူခြင်းသည် သူယုတ်မာတို့၏ လက္ခဏာဖြစ်သည်။**

အဗ်ဒုလ္လာဟ်ဗင်န် မတ်စ်အူးဒ် ﵁က မိန့်ဆိုသည်။ မိမိကျူးလွန်ထားသော ဂိုနဟ်အကုသိုလ်များနှင့်စပ်လျဉ်းပြီး မုအ်မင်န်တစ်ဦး၏ အမြင်မှာ မိမိသည် တောင်တစ်လုံးအောက်တွင်ရောက်နေပြီး ထိုတောင်သည် မိမိပေါ်ပြိုကျတော့မည့်အလား ထင်မှတ်သည်။ သူယုတ်မာတစ်ဦးကမူ မိမိကျူးလွန်ထားသောအကုသိုလ်များအား နှာခေါင်းပေါ်လာနား၍ ပျံသွားသောယင်ကောင်တစ်ကောင်အလား မှတ်ယူသည်။[၂]

**မတ်စ်အလဟ် – (၂၁၂) သေးငယ်သောပြစ်မှုဒုစရိုက်များအတွက်လည်း မေးမြန်းခြင်းခံရမည်။**

အာအိရှာဟ် ﵂ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် ကျွန်မအား မိန့်ကြားတော်မူခဲ့သည်။ "သေးငယ်သောမကောင်းမှုလုပ်ရပ်များမှ ရှောင်ကြဉ်ပါ။ အကြောင်းမှာ ထိုမကောင်းမှုများအတွက်လည်း အလ္လာဟ့်ဘက်မှ မေးမြန်းမှုရှိသည်။[၃]

**မတ်စ်အလဟ် – (၂၁၃) အပေါ်ယံအားဖြင့်ကြည့်လျှင် သေးငယ်သည်ဟု ထင်ရသည့်မကောင်းမှုကိုလည်း အထင်မသေးရ။**

အနတ်စ် ﵁က မိန့်ကြားတော်မူသည်။ "အသင်တို့သည် တချို့

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၆၄၇၈။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၆၃၀၈။

၃ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၄၂၄၃။

သောမကောင်းမှုများကို ကျူးလွန်နေကြသည်။ ထိုမကောင်းမှုများသည် အသင်တို့အမြင်တွင် ဆံချည်မျှင်ထက်ပင် သေးငယ်နေသည်။ ကျွန်ုပ်တို့ကမူ တမန်တော်မြတ် ﷺ ၏ ခေတ်အခါတွင်ယင်း ယင်းအမှုကိစ္စများကို ပျက်စီးစေသောအရာများအဖြစ် သတ်မှတ်ကြသည်။[၁]

**မတ်စ်အလဟ် – (၂၁၄) သေးငယ်သောပြစ်မှုဒုစရိုက်များကို အထင်သေးသောသူသည် ကြီးလေးသောပြစ်မှုများကိုကျူးလွန်ရန် လွယ်ကူသွားလေသည်။**

နအ်မာန်းဗင်န်ဗရှီးရ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "ဟလာလ်အမိန့်သည် ရှင်းလင်းပြတ်သားသည်။ ဟရာမ်အမိန့်သည့်လည်း ရှင်းလင်းပြတ်သားသည်။ ထိုနှစ်ခုကြားတွင် သံသယဖြစ်စရာကိစ္စများရှိသည်။ ထိုသံသယဖြစ်စရာမကောင်းမှုများကို ရှောင်ကြဉ်လိုက်သူသည် တိကျပြတ်သားသောမကောင်းမှုများကို ပို၍ ရှောင်ကြဉ်နိုင်လိမ့်မည်။ အကုသိုလ်ဟုသံသယဖြစ်ဖွယ်ကိစ္စများကိုအတင့်ရဲကျူးလွန်သူသည်တိကျပြတ်သားသောမကောင်းမှုများကို ကျူးလွန်ရန် ပိုမိုနီးစပ်သွားသည်။ ပြစ်မှုဒုစရိုက်များသည် အလ္လာဟ်အရှင်မြတ်တားမြစ်ထားသောနယ်မြေ ဖြစ်သည်။ မည်သူမဆို အလ္လာဟ်အရှင်မြတ်၏ တားမြစ်နယ်မြေအနီးတွင် လာရောက်ကျက် စားပါက ထိုထဲဝင်ရောက်ကျူးလွန်ရန် နီးစပ်သွားလေသည်။[၂]

## (၄၅) မွတ်စ်လင်မ်တစ်ဦးအား ကာဖိရ်ဟုသမုတ်ခြင်း

**မတ်စ်အလဟ် – (၂၁၅) မွတ်စ်လင်မ်တစ်ဦးကို ကာဖိရ်ဟုသမုတ်သောသူသည် ကိုယ်တိုင်ကာဖိရ်ဖြစ်သွားသည်။**

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၆၄၉၂။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၅၂။

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "လူတစ်ဦးသည် မိမိ၏ညီနောင်မွတ်စ်လင်မ် တစ်ဦးအား ကာဖိရ်ဟု ပြောလိုက်သောအခါ နှစ်ဦးအနက်မှ တစ်ဦးသည် ကာဖိရ်ဖြစ်သွားပေသည်။[၁]

အဗူဇရ် ﷺကဆင့်ပြန်သည်။ ကျွန်ုပ်သည်တမန်တော်မြတ် ﷺမိန့်တော်မူသည်ကို ကြားသိခဲ့ရသည်။ "မည်သူမဆို မွတ်စ်လင်မ်တစ်ဦးအား အို-ကာဖိရ်၊ သို့မဟုတ် အို-အလ္လာဟ်ရန်သူဟု ခေါ်လိုက်ပါက အခေါ်ခံရသူသည် ထိုအတိုင်း အမှန်တကယ်ဖြစ်မနေလျှင် ခေါ်သူသည် ကာဖိရ် သို့မဟုတ် အလ္လာဟ်ရန်သူ ဖြစ်သွားပေသည်။[၂]



## (၄၆) ပေးပြီးသားလက်ဆောင်ကို ပြန်ယူခြင်း

**မတ်စ်အလဟ်- (၂၁၆) လက်ဆောင်ပေးပြီးနောက် ပြန်ယူခြင်းသည် ကြီးလေးသောအပြစ် ဖြစ်သည်။**

အိဗ်နအဗ္ဗားစ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မကောင်းသောစံနမူသည် ငါတို့အတွက် မဟုတ်။ ပေးပြီးသားလက်ဆောင်ကို ပြန်ယူသူသည် မိမိအံထားသော အံဖတ်ကိုပြန်စားသောခွေးပမာဖြစ်သည်။[၃]



---

၁- ဗုခါရီကျမ်း၊ နံပါတ်-၆၁၀၃။
၂- မွတ်စ်လင်မ်ကျမ်း၊ နံပါတ်-၆၁။
၃- ဗုခါရီကျမ်း၊ နံပါတ်-၂၅၈၉။

## (၄၇) ဆာလောင်နေပါလျက်နှင့် မစားဘဲနေခြင်း

**မတ်စ်အလဟ် - (၂၁၇) ဆာလောင်နေပါလျက်နှင့် မစားဘဲနေခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အတ်စ်မာအ်ဗင်န်သိ ယဇီးဒ်ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺထံသို့ အစားအသောက် ရောက်ရှိလာခဲ့သည်။ ကိုယ်တော်က ကျွန်မတို့ရှေ့တွင် အစားအသောက်ကို ချပေးသည်။ ကျွန်မတို့က "ကျွန်မတို့ ဗိုက်မဆာလို့ပါ"ဟု လျှောက်တင်ရာ ကိုယ်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ "ဆာလောင်မှုနှင့်လိမ်လည်မှုကိုမရောကြလေနှင့်။"[1]

  

---

၁ - အိဗ်နမာဂျဟ်ကျမ်း။

# အပေးအယူကဏ္ဍနှင့်သက်ဆိုင်သော ကြီးလေးသည့်အပြစ်များ

## (၁) အတိုး

မတ်စ်အလဟ် – (၂၁၈) အတိုးစားသူသည် အလ္လာဟ်နှင့် အလ္လာ့ဟ်ရစူလ်ကို စစ်ကြေညာခြင်းမည်၏။

يَاَيُّهَا الَّذِيْنَ اٰمَنُوا اتَّقُوا اللّٰهَ وَ ذَرُوْا مَا بَقِيَ مِنَ الرِّبٰوا اِنْ كُنْتُمْ مُّؤْمِنِيْنَ ﴿٢٧٨﴾ فَاِنْ لَّمْ تَفْعَلُوْا فَاْذَنُوْا بِحَرْبٍ مِّنَ اللّٰهِ وَ رَسُوْلِهٖ ۚ وَ اِنْ تُبْتُمْ فَلَكُمْ رُءُوْسُ اَمْوَالِكُمْ ۚ لَا تَظْلِمُوْنَ وَ لَا تُظْلَمُوْنَ ﴿٢٧٩﴾

အို – *အီမာန်* ယုံကြည်သူအပေါင်းတို့၊ အကယ်၍ အသင်တို့သည် ယုံကြည်သူများဖြစ်ခဲ့ကြသည်ဆိုလျှင် *အလ္လာဟ်*အရှင်မြတ်အား ကြောက်ရွံ့ကြပါ၊ ထို့ပြင် ရယူရန်ကျန်ရှိနေသည့် အတိုးများကိုလည်း စွန့်လွှတ်လိုက်ကြပါ။ ထို့နောက် အကယ် ၍အသင်တို့သည် (ထို အမိန့်တော်အတိုင်း)မပြုလုပ်ခဲ့ကြလျှင် *အလ္လာဟ်* အရှင်မြတ်၊ အရှင်မြတ်၏ *ရစူလ်* တမန်တော်နှင့် စစ်တိုက်ရန် အဆင်သင့် ပြင်ဆင်လိုက်ပါ။ ထို့ပြင် အကယ်၍ အသင်တို့သည် (အတိုးစားခြင်းကိုရပ်ကာ) အရှင်မြတ်ဘက်သို့ လှည့်ပြီး အမှားဝန်ခံခဲ့ကြလျှင်အသင်တို့၏အရင်းငွေများသည်အသင်တို့အတွက်ဖြစ်သည်။ အသင်တို့သည် (ငွေရင်းထက်ပိုပြီး အတိုးယူကာ သူတစ်ပါးအား)မတရားပြုလုပ် နစ်နာစေကြ မည်လည်း မဟုတ်ပေ၊ ၎င်းပြင် အသင်တို့သည် (ငွေရင်းပြန်ရသည့်အတွက် သူတစ်ပါး၏)မတရား နစ်နာမှုပြုခြင်းကိုလည်း ခံကြရမည် မဟုတ်ပေ။[၁]

---

၁ – ကုရ်အာန် ၂း ၂၇၈ – ၂၇၉။

**မတ်စ်အလဟ် – (၂၁၉) အတိုးစားသူသည် ကိယာမသ်နေ့တွင် ကဗရ်မှ ထသောအခါ အရူးများပမာ ထကြရလိမ့်မည်။**

**اَلَّذِيْنَ يَاْكُلُوْنَ الرِّبٰوا لَا يَقُوْمُوْنَ اِلَّا كَمَا يَقُوْمُ الَّذِىْ يَتَخَبَّطُهُ الشَّيْطٰنُ مِنَ الْمَسِّ ؕ ذٰلِكَ بِاَنَّهُمْ قَالُوْۤا اِنَّمَا الْبَيْعُ مِثْلُ الرِّبٰوا ۘ وَاَحَلَّ اللّٰهُ الْبَيْعَ وَحَرَّمَ الرِّبٰوا**

အတိုးစားသူများသည်(*ကိယာမသ်*နေ့ပြန်ထသည့်အခါ ကောင်းကောင်း မရပ်နိုင်ကြဘဲ *ရှိုင်သွာန်*ပူးကပ်၍ ရူးနေသည့်သူများကဲ့သို့ ရပ်ကြလိမ့်မည်။ ထိုကဲ့သို့ ဖြစ်ရသည်မှာ သူတို့က “ ကူးသန်းရောင်းဝယ်ခြင်းသည်လည်း အတိုးစားခြင်းနှင့် အတူတူပင်ဖြစ်သည်”ဟုပြောဆိုခြင်းကြောင့်ဖြစ်သည်။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် ကူးသန်းရောင်းဝယ်ခြင်းကို ခွင့်ပြုထားတော်မူပြီး အတိုးစားခြင်းကိုတားမြစ်တော်မူခဲ့သည်။[၁]

**မတ်စ်အလဟ် – (၂၂၀) အတိုးငွေသည် အဘယ်မျှ များပြားနေစေကာမူ ဗရ်ကသ်မင်္ဂလာရှိမည်မဟုတ်။**

**يَمْحَقُ اللّٰهُ الرِّبٰوا وَيُرْبِى الصَّدَقٰتِ ؕ وَاللّٰهُ لَا يُحِبُّ كُلَّ كَفَّارٍ اَثِيْمٍ ﴿٢٧٦﴾**

*အလ္လာဟ်* အရှင်မြတ်သည် အတိုးကို ဆုတ်ယုတ်လျော့နည်းပျက်စီးစေတော်မူပြီး အလှူဒါနကို တိုးပွား စေတော်မူသည်။ ထို့ပြင် *အလ္လာဟ်* အရှင်မြတ်သည် အလွန်ကျေးဇူးကန်း ငြင်းပယ်သည့် ပြစ်မှုကျူးလွန်သူတိုင်းကို နှစ်သက်တော်မမူပေ။[၂]

အဗ်ဒုလ္လာဟ်ဗင်န်မတ်စ်အူဒ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ “အတိုးစားသူ၏ငွေကြေးသည်

၁ – ကုရ်အာန် ၂း ၂၇၅။
၂ – ကုရ်အာန် ၂း ၂၇၆။

အဘာယ်မျှပင် များပြားနေပါစေ ဆုတ်ယုတ်သွားမည်သာ ဖြစ်သည်။[၁]

**မတ်စ်အလဟ် – (၂၂၁) အတိုးပေးသူ၊ အတိုးယူသူ၊ အတိုးကိစ္စတွင် စာရေးလုပ်သူ၊ အတိုးကိစ္စတွင် သက်သေခံသူအားလုံး လအ်နသ်ကျမည်။**

ဂျာဗိရ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် အတိုးစားသူ၊ အတိုးပေးသူ၊ အတိုးအတွက် စာရေးလုပ်သူ၊ အတိုးအတွက် သက်သေခံသူ အားလုံးကို လအ်နသ်ပို့ခဲ့သည်။ ကိုယ်တော်မြတ်က မိန့်ကြားတော်မူသည်။ "သူတို့အားလုံး ညီတူညီမျှဖြစ်သည်။"[၂]

**မတ်စ်အလဟ် – (၂၂၂) အတိုးတွင် အကုသိုလ်ပေါင်း(၇၀) ရှိသည်။ အဆင့်အနိမ့်ဆုံးမှာ မိမိ၏မိခင်နှင့် ဇိနာဟ်ကျူးလွန်သည့်အပြစ် ဖြစ်သည်။**

အဗူဟိုရိုင်ရဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အတိုးတွင် အပြစ်ပေါင်း (၇၀)ရှိသည်။ ထိုထဲတွင် အနိမ့်ဆုံးမှာ မိမိ၏ မိခင်နှင့်ဇိနာဟ်ကျူးလွန်သည့်အပြစ် ဖြစ်သည်။[၃]

**မတ်စ်အလဟ် – (၂၂၃) ကိယာမသ်နေ့တွင် အတိုးစားသူများသည် သွေးချောင်းထဲမှ အပြင်သို့ထွက်ရန် ကြိုးစားကြမည်။ သို့သော် ကောင်းကင်တမန်များက သူ့အား ကျောက်ခဲများဖြင့်ပေါက်က သွေးချောင်းထဲသို့ အကြိမ်ကြိမ် ပြန်ပို့မည်။**

စမိုရဟ်ဗင်န် ဂျွန်ဒုဗ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ညက ငါကိုယ်တော်သည် အိပ်မက်တွင် ပုဂ္ဂိုလ်နှစ်ဦးကို မြင်မက်ခဲ့သည်။ သူတို့နှစ်ဦးသည် ငါကိုယ်တော်

---

၁ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၂၂၇၉။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၈၉။

၃ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၂၂၇၅။

အား မြင့်မြတ်သောမြေဘက်သို့ ခေါ်ဆောင်သွားခဲ့ကြသည်။ သွားရင်းနှင့် သွေးချောင်းတစ်ခုကို တွေ့ခဲ့သည်။ ထိုထဲတွင် လူတစ်ဦး ရှိနေသည်။ ကမ်းပေါ်တွင် နောက်လူတစ်ဦး မတ်တတ်ရပ်နေသည်။ သူ့ရှေ့တွင် ကျောက်ခဲများရှိသည်။ ချောင်းထဲကလူသည် ချောင်းထဲမှ အပြင်သို့ ထွက်ရန်လာလေတိုင်း ကမ်းပေါ်ကလူသည် သူ့ပါးစပ်အား ကျောက်ခဲ ဖြင့်ပစ်ပေါက်ပြီး ပထမနေရာသို့ ပြန်ရောက်စေသည်။ ချောင်းထဲကလူသည် အပြင်သို့ ထွက်ရန်ကြိုးစားတိုင်း ကမ်းပေါ်ကလူသည် သူ့ပါးစပ်အား ကျောက်ခဲဖြင့် ပေါက်ပြီး မူလနေရာသို့ ပြန်ရောက်စေသည်။ ငါကိုယ်တော်က "ဤသည် အဘယ်အရာနည်း" ဟု မေးမြန်းခဲ့ရာ ကောင်းကင်တမန် ဂျိဗ်ရီးလ်က ဖြေကြားသည်။ သွေးချောင်းထဲမှာ ကိုယ်တော်တွေ့မြင်ခဲ့ သူသည် အတိုးစားသူဖြစ်သည်။"[၁]



## (၂) လာဘ်ပေး လာဘ်ယူခြင်း

**မတ်စ်အလဟ် – (၂၂၄) လာဘ်ပေးလာဘ်ယူလုပ်ခြင်းသည် ကြီးလေးသောအပြစ် ဖြစ်သည်။**

وَ لَا تَاْكُلُوْٓا اَمْوَالَكُمْ بَيْنَكُمْ بِالْبَاطِلِ وَ تُدْلُوْا بِهَآ اِلَى الْحُكَّامِ لِتَاْكُلُوْا فَرِيْقًا مِّنْ اَمْوَالِ النَّاسِ بِالْاِثْمِ وَ اَنْتُمْ تَعْلَمُوْنَ ﴿١٨٨﴾

ထို့ပြင် အသင်တို့သည် အသင်တို့အချင်းချင်း တစ်ဦး၏ပစ္စည်းကို တစ်ဦးက မတရားသည့်နည်းနှင့် မစားသုံးကြနှင့်။ ထို့ပြင် သူတစ်ပါးတို့၏ ပစ္စည်းအချို့ကို မတရားသည့်နည်းဖြင့် စားခြင်းသည်(မတရားမှုဖြစ်ကြောင်း)အသင်တို့ သိပါလျက် အာဏာပိုင်များထံသို့ (တံစိုးလက်

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၂၀၈၅။

ဆောင်ပေးပြီး) ထိုအမှုကိစ္စကို မပို့ဆောင်ကြနှင့်။[၁]

**မတ်စ်အလဟ် – (၂၂၅) လာဘ်ပေးသူနှင့် လာဘ်ယူသူ နှစ်ဦးစလုံးအပေါ် တမန်တော်မြတ် ﷺ က လအ်နသ်ပို့တော်မူခဲ့သည်။**

အဗ်ဒုလ္လာဟ်ဗင်န်အမရ် ؓ ထံမှ ဆင့်ပြန်ပြောပြသည်။ တမန်တော်မြတ် ﷺ သည် "လာဘ်ပေးသူရော၊ လာဘ်ယူသူကိုပါ လအ်နသ်ပို့တော်မူခဲ့သည်။[၂]

**မတ်စ်အလဟ် – (၂၂၆) လာဘ်ပေးခြင်းနှင့် လာဘ်ယူခြင်းသည် ကုဖ်ရ်၏ အထိပို့ဆောင်သောပြစ်မှု ဖြစ်သည်။**

အဗ်ဒုလ္လာဟ်ဗင်န် မတ်စ်အူဒ် ؓ က မိန့်ကြားသည်။ လာဘ်ပေး လာဘ်ယူခြင်းသည် အမိန့်ပညတ်အရ ကုဖ်ရ်ဖြစ်ပြီး လူတို့အကြားတွင် ဟရာမ်ဖြစ်သည်။[၃]

**မတ်စ်အလဟ် – (၂၂၇) လာဘ်ပေးသူနှင့် လာဘ်ယူသူ နှစ်ဦးစလုံး ငရဲဘုံသို့သွားရမည်။**

အဗ်ဒုလ္လာဟ်ဗင်န်အမရ် ؓ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ " လာဘ်ပေးသူနှင့် လာဘ်ယူသည် ငရဲဘုံတွင်ရှိလိမ့်မည်။"[၄]

**မတ်စ်အလဟ် – (၂၂၈) တစ်ဦးတစ်ယောက်အား ကြားဝင်အသနားခံပေးခြင်း၊ ထောက်ခံချက်ပေးခြင်းအပေါ် လက်ဆောင်ယူခြင်းသည်လည်း လာဘ်စားခြင်းဖြစ်သည်။**

---

၁ – ကုရ်အာန် ၂း ၁၈၈။

၂ – သိရ်မိဇီကျမ်း၊ နံပါတ် – ၁၃၃၆။

၃ – သွဗ်ရာနီကျမ်း၊ နံပါတ် – ၉၁၀၀။

၄ – သွဗ်ရာနီကျမ်း၊ နံပါတ် – ၂၀၂၆။

အဗူအိုမာမဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အကြင်မည်သူမဆို မိမိညီနောင်အတွက် ကြားဝင်ထောက်ခံပေးသည်။ ထို့အတွက် ၎င်းက လက်ဆောင်ပေးသော အခါ လက်ခံခဲ့ပါက ထောက်ခံပေးသူသည် အတိုးတံခါးများအနက်မှ အကြီးဆုံးတံခါးတစ်ခုသို့ ဝင်ရောက်လိုက်ခြင်းဖြစ်သည်။[၁]



## (၃) ဓားပြတိုက်ခြင်း

မတ်စ်အလဟ် – (၂၂၉) ဓားပြတိုက်ခြင်း၊ ဆက်ကြေးကောက်ခြင်း၊ ခြိမ်းခြောက်ငွေညှစ်ခြင်းများ၏ ပြစ်ဒဏ်မှာ သေဒဏ်ပေးခြင်း၊ သို့မဟုတ် လက်ဝါးကပ်တိုင်တင်ခြင်း၊ သို့မဟုတ် နယ်နှင်ဒဏ်ပေးခြင်းဖြစ်သည်။ ထို့ပြင် နောင်တမလွန်တွင်လည်း ပြင်းထန်သောပြစ်ဒဏ်ခံရမည်။

إِنَّمَا جَزَٰٓؤُا۟ ٱلَّذِينَ يُحَارِبُونَ ٱللَّهَ وَرَسُولَهُۥ وَيَسْعَوْنَ فِى ٱلْأَرْضِ فَسَادًا أَن يُقَتَّلُوٓا۟ أَوْ يُصَلَّبُوٓا۟ أَوْ تُقَطَّعَ أَيْدِيهِمْ وَأَرْجُلُهُم مِّنْ خِلَـٰفٍ أَوْ يُنفَوْا۟ مِنَ ٱلْأَرْضِ ۚ ذَٰلِكَ لَهُمْ خِزْىٌ فِى ٱلدُّنْيَا ۖ وَلَهُمْ فِى ٱلْـَٔاخِرَةِ عَذَابٌ عَظِيمٌ ﴿٣٣﴾

အကြင်သူများသည် *အလ္လာဟ်*အရှင်မြတ်နှင့် အရှင်မြတ်၏ တမန်တော်ကို တိုက်ခိုက်ကြသည်။ ၎င်းပြင် ကမ္ဘာမြေတွင် ဖျက်ဆီးမှုကို ပြုလုပ်ကြသည်။ ထိုသူများ၏ပြစ်ဒဏ်မှာမူ သူတို့သည် သတ်ဖြတ်ခြင်းခံကြရမည်၊ သို့မဟုတ် လက်ဝါးကပ်တိုင်တင်ခြင်းခံကြရမည်၊ သို့မဟုတ် သူတို့၏ ခြေလက်များကို ဝဲ ယာ ဘက်လွဲပြီး ဖြတ်တောက်ခြင်းကို ခံကြရမည်၊ သို့မဟုတ် ပြည်နှင်ဒဏ်ပေးခြင်းခံကြရမည်။ ၎င်း(ပြစ်ဒဏ်)သည် သူတို့အား ဤဘဝ၌ သေးသိမ်မှုရစေခြင်းဖြစ်သည်။ ၎င်းပြင် သူတို့အတွက် တမလွန်ဘဝ၌

---

၁ – အဗူဒါဝူးဒ်ကျမ်း

အလွန်ကြီးလေးသောအပြစ်ဒဏ်လည်းရှိမည်။[၁]

**ရှင်းလင်းချက်။** အကယ်၍ ဓားပြတိုက်သူ၊ ငွေညှစ်သူသည် လူသတ်မှုကျူးလွန်ပြီး၊ ငွေကို မရယူနိုင်ခဲ့ဘူးဆိုလျှင် ထိုသူ့အား သတ်ပစ်ရမည်။ အကယ်၍သူသည် လူလည်းသတ်ခဲ့မည်၊ ငွေကြေးလည်း ရယူခဲ့မည်ဆိုပါက လက်ဝါးကပ်တိုင်တင်ပြီးကွပ်မျက်ရမည်။ အကယ်၍သူသည် ငွေပဲရယူခဲ့ပြီး လူမသတ်ခဲ့ဘူးဆိုလျှင် သူ၏ ခြေနှင့် လက်ကို ဘယ်ညာလွဲပြီး ဖြတ်ပစ်ရမည်။ အကယ်၍ သူသည် ကြိုးစားပါလျက်နှင့် လူလည်းမသတ်နိုင်ခဲ့၊ ငွေလည်း မယူနိုင်ခဲ့လျှင် သူ့အား နယ်နှင်ဒဏ် ပေးရမည်။

**မတ်စ်အလဟ် – (၂၃၀) ငွေညှစ်တောင်းခံသူသည် ဂျန္နသ်သို့ သွားရမည်မဟုတ်။**

အုက္ကဗဟ်ဗင်န်အာမိရ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်ကို ကျွန်ုပ်ကြားခဲ့သည်။ “အကျပ်ကိုင်ပြီး ငွေညှစ်သူသည် ဂျန္နသ်သို့သွားရမည်မဟုတ်။[၂]

**မတ်စ်အလဟ် – (၂၃၁) ဓားပြတိုက်သူသည် ငါတို့အနက်မှ မဟုတ်။**

အိမ်ရာန်ဗင်န်ဟိုစ္စိုင်န် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “လုယက်ဓားပြတိုက်သူသည် ငါတို့အနက်မှမဟုတ်။[၃]



၁ – ကုရ်အာန် ၅း ၃၃။

၂ – အဗူဒါဝူးဒ်ကျမ်း။

၃ – သိရ်မိဇီကျမ်း။

## (၄) သူတစ်ပါး၏ ပိုင်ဆိုင်မှုအား မတရားသိမ်းပိုက်ခြင်း

**မတ်စ်အလဟ် – (၂၃၂) သူတစ်ပါး၏ မြေကွက်၊ ဆိုင်၊ တိုက်ခန်းစသည်တို့ကို မတရားရယူသူအား ကိယာမသ်နေ့တွင် မြေခုနစ်ထပ်မှ မြေကြီးကို ကွင်းလုပ်ပြီး စွပ်ပေးခြင်းခံရမည်။**

အာအိရှဟ် ﵂ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “မည်သူမဆို သူတစ်ပါး၏မြေကြီးမှ တစ်ထွာခန့်မျှ မတရားရယူခဲ့သည်ရှိသော် မြေခုနစ်ထပ်မှမြေကြီးအား လည်းပင်းတွင် ကွင်းစွပ်ခံရမည်။[၁]

**မတ်စ်အလဟ် – (၂၃၃) သူတစ်ပါး၏ ပိုင်ဆိုင်မှုကို မတရားသိမ်းပိုက်ရယူသူသည် ကိယာမသ်နေ့တွင် မြေခုနစ်ထပ်ထိ မြေမျိုခြင်းခံရမည်။**

အဗ်ဒုလ္လာဟ်ဗင်နိအုမရ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “မည်သူမဆို သူတစ်ပါး၏ မြေကြီးပိုင်ဆိုင်မှုမှ အနည်းငယ်မျှပင်မတရားရယူခဲ့သည်ရှိသော် ကိယာမသ်နေ့တွင် မြေခုနစ်ထပ်ထိ မြေမျိုခြင်းခံရမည်။[၂]

**မတ်စ်အလဟ် – (၂၃၄) သူတစ်ပါးပစ္စည်းအားမိမိပိုင်ပစ္စည်းဟုကြွေးကြော်သူသည် မိမိ၏နေရာထိုင်ခင်းကို ငရဲဘုံတွင် သတ်မှတ်လိုက်သူဖြစ်သည်။**

အဗူဇရ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားသည်ကို ကျွန်ုပ်ကြားခဲ့သည်။ “မည်သူမဆို သူတစ်ပါးပစ္စည်းအား မိမိပိုင်ပစ္စည်းဟု ကြွေးကြော်ပါက ငရဲဘုံတွင် မိမိ၏ နေရာထိုင်ခင်းကို ပြုလုပ်ထားလိုက်ပါ။[၃]

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၃၁၉၅။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၂၄၅၄။

၃ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၆၁။

## (၅) အလုပ်သမားအား လုပ်အားခမပေးခြင်း

**မတ်စ်အလဟ် – (၂၃၅) အလုပ်သမားအား အလုပ်အပြည့်အဝခိုင်းပြီး လုပ်အားခအပြည့်အဝမပေးသူကို အလ္လာဟ်အရှင်မြတ်သည် ကိယာမသ်နေ့တွင် ရန်သူအဖြစ်ဆက်ဆံတော်မူမည်။**

အဗူဟုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ငါအရှင်မြတ်သည် ကိယာမသ်နေ့တွင် လူသုံးဦးအား တရားစွဲတော်မူမည်။ (၁) ငါအရှင်မြတ်၏ နာမည်ဖြင့် ကတိပေးပြီး ကတိမတည်သူ၊ (၂) လွတ်လပ်သူတစ်ဦးအား ရောင်းစားသူ၊ (၃) အလုပ်သမားတစ်ဦးအား အလုပ်အပြည့်အဝခိုင်းပြီး လုပ်အားခမပေးသူတို့ ဖြစ်ကြသည်။"[၁]

  

## (၆) သူတစ်ပါး၏ ရပိုင်ခွင့်များကို မတရားယူခြင်း

**မတ်စ်အလဟ် – (၂၃၆) သူတစ်ပါး၏ ရပိုင်ခွင့်များကို မတရားရယူအပေါ် ဂျန္နသ်သည် ဟာရာမ်ဖြစ်သွားပြီး ဂျဟန္နမ်သည် ဝါဂျိဗ်ဖြစ်သွားသည်။**

အဗူအိုမာမဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မည်သူမဆို မွတ်စ်လင်မ်တစ်ဦးတစ်ယောက်၏ ရပိုင်ခွင့်ကို မိမိ၏ကစမ်ကျိန်ဆိုချက်ဖြင့် ရယူခဲ့မည်ဆိုပါက အလ္လာဟ်အရှင်မြတ်သည် သူ့အတွက် ငရဲဘုံကို ဝါဂျိဗ်လုပ်တော်မူပြီး ဂျန္နသ်ကို ဟာရာမ်လုပ်ပစ်တော်မူသည်။ ပုဂ္ဂိုလ်တစ်ဦးက မေးမြန်းသည်။ အို – ကိုယ်တော်၊ အနည်းငယ်မျှ ရပိုင်ခွင့်ကို ရယူခဲ့ပါလျှင်ရော (ထိုအပြစ်ခံရမည်လော)။ ကိုယ်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ "သစ်ကိုင်းတစ်

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၂၂၂၇။

ကိုင်းရယူခဲ့လျှင်းလည်း ခံရမည်။[၁]

**မတ်စ်အလဟ် – (၂၃၇) အာဝဇ္ဇန်းကောင်းခြင်းကြောင့် သူတစ်ပါး၏ အခွင့်အရေးကို မတရားရယူသူအတွက် ငရဲဘုံရှိသည်။**

အွမ္မိုစလမဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “အသင်တို့သည် ငါ့ထံ အမှုအခင်းများ ယူဆောင်လာကြသည်။ အသင်တို့အနက်မှ တစ်ဦးတစ်ယောက်သည် အခြားသူတစ်ယောက်ထက် အာဝဇ္ဇန်းကောင်းကောင်းဖြင့် အထောက်အထားတင်ပြနိုင်သည်။ ထိုအခါ ငါကိုယ်တော်သည် ကြားသိရသည့်အပေါ် ဆုံးဖြတ်ချက်ချပေးလိုက်သည်ရှိ၏။ သို့ဖြစ်ရာ ငါသည် တစ်ဦးတစ်ယောက်အား အခြားသူ၏ အခွင့်အရေးကို ဆုံးဖြတ်ပေးလိုက်သည်ရှိသော် ထိုအရာကို မယူလေနှင့်။ ငါသည် သူ့အား ငရဲဘုံမှ အစိတ်အပိုင်းတစ်ခု ပေးလိုက်ခြင်းဖြစ်သည်။[၂]



## (၇) အလေးခိုးခြင်း

**မတ်စ်အလဟ် – (၂၃၈) ချိန်ခွင်၊ တင်းတောင်းတွင် အလေးခိုးသူများအတွက် ပျက်စီးမှုရှိပေသည်။**

وَيۡلٌ لِّلۡمُطَفِّفِينَ ۝١ ٱلَّذِينَ إِذَا ٱكۡتَالُواْ عَلَى ٱلنَّاسِ يَسۡتَوۡفُونَ ۝٢ وَإِذَا
كَالُوهُمۡ أَو وَّزَنُوهُمۡ يُخۡسِرُونَ ۝٣

အလေး၊ တင်းတောင်း၊ ခြင်ခွက်စသည်များတွင် ခိုးပြီးလျှော့ပေးသည့်သူများသည် ပျက်စီးကြရမည် ဖြစ်သည်။ အကြင်သူများသည် လူများ

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၃၇။
၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၇၁၃။

ထံမှ ခြင်တွယ်ပြီးယူကြသည့်အခါတွင်မူ အပြည့်(ခြင်တွယ်ပြီး) ရယူကြသည်။[၃]

  

## (၈) ကုန်သိုလှောင်ခြင်း

**မတ်စ်အလဟ် – (၂၃၉) ကပ်ဆိုက်နေသောကာလ၊ ပစ္စည်းရှားပါးနေသောကာလတွင် ကုန်ပစ္စည်းသိုလှောင်ထားသူကို အလ္လာဟ်အရှင်မြတ်သည် မွဲစေတော်မူမည်၊ သို့မဟုတ် အနူရောဂါစွဲကပ်စေတော်မူမည်။**

အုမရ် ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်ုပ်သည် တမန်တော်မြတ် မိန့်ကြားသည်ကို ကြားခဲ့သည်။ "မည်သူမဆို မွတ်စ်လင်များထံမှ စားသောက်ကုန်များကို သိုလှောင်ထားပါက အလ္လာဟ်အရှင်မြတ်သည် ထိုသူ့အား အနူရောဂါစွဲကပ်စေတော်မူမည်၊ သို့မဟုတ် မွဲပြာကျစေတော်မူမည်။[၄]

ရှင်းလင်းချက်။ အုမရ်၏ခေတ်တွင် ကုန်သည်နှစ်ဦးသည် စားသောက်ကုန်များကို သိုလှောင်ထားခဲ့သည်။ အုမရ်က ထိုကုန်သည်နှစ်ဦးကို ခေါ်တော်မူပြီး အထက်ပါဟဒီးဆ်တော်ကို တင်ပြသည်။ ထိုအခါ တစ်ဦးက ပြောသည်။ အို – ခေါင်းဆောင်ကြီး၊ အလ္လာဟ်အရှင်မြတ်နှင့် အသင့်အား ကတိပေးပါသည်။ နောက်နောင် ဘယ်သောအခါမျှ မသိုလှောင်တော့ပါဘူး။ နောက်ကုန်သည်တစ်ဦးက ပြောသည်။ ကျွန်ုပ်၏ ငွေကြေးဖြင့် ဝယ်ထားသောပစ္စည်းကို ကျွန်ုပ်စိတ်ကြိုက်သာရောင်းချပါမည်။ ဟဒီးဆ်ဆင့်ပြန်သူက ပြောပြသည်။ ကျွန်ုပ်သည် ထိုကုန်သည် နူနာရောဂါစွဲကပ်သွားသည်ကို မျက်စိနှင့်တပ်အပ်မြင်ခဲ့သည်။[၅]

---

၃ – ကုရ်အာန် – ၈၃း ၁ – ၂။

၄ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် – ၁၃၅။

၅ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် – ၁၃၅။

**မတ်စ်အလဟ် – (၂၄၀) ကပ်ဘေးသင့်နေချိန်တွင် ဈေးကြီးကြီးဖြင့်ရောင်းရန်အတွက် သိုလှောင်ထားသူသည် အပြစ်ထိုက်သူဖြစ်သည်။**

မအ်မရ်ဗင်န်အဗ်ဒုလ္လာဟ်ဗင်န်ဖဒ္ဒလဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်ကို ကျွန်ုပ်ကြားခဲ့သည်။ "အပြစ်ကျူးလွန်သူမှအပ မည်သူမျှ ပစ္စည်းမသိုလှောင်ပေ။"[၁]



## (၉) ဟာရာမ်နည်းဖြင့် ငွေကြေးရှာခြင်း

**မတ်စ်အလဟ် – (၂၄၁) ဟာရာမ်နည်းဖြင့်ငွေကြေးရှာဖွေခဲ့သူကို ငရဲမီးက ဦးစွာလောင်မြိုက်မည်။**

ဂျာဗိရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ဟာရာမ်ငွေကြေးဖြင့် ဖြစ်တည်လာသောကိုယ်ခန္ဓာကို ငရဲမီးက ဦးစွာလောင်မြိုက်မည်။"[၂]

**မတ်စ်အလဟ် – (၂၄၂) ဟာရာမ်ငွေကြေးစားသုံးသောသူ၏ အိဗာဒသ်များ၊ ဒုအာများ လက်ခံခြင်းမခံရပေ။**

အဗူဟိုရိုင်ရဟ်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အို – လူသားအပေါင်းတို့၊ အလ္လာဟ်အရှင်မြတ်သည် သန့်ပြန့်စင်ကြယ်တော်မူသောအရှင်ဖြစ်တော်မူရာ သန့်ပြန့်စင်ကြယ်သောအရာကိုသာ လက်ခံတော်မူပေသည်။ မုချ အလ္လာဟ်အရှင်မြတ်သည် ရစူလ်တမန်တော်များအား မိန့်ကြားထားသည့်အမိန့်တော်ကိုပင် မုအ်မင်န်တို့အား မိန့်ကြားတော်မူပေသည်။

يَٰٓأَيُّهَا ٱلرُّسُلُ كُلُوا۟ مِنَ ٱلطَّيِّبَٰتِ وَٱعْمَلُوا۟ صَٰلِحًا ۖ إِنِّى بِمَا تَعْمَلُونَ عَلِيمٌ ﴿٥١﴾

---

၁ – သိရ်မိဇီကျမ်း၊ နံပါတ် – ၁၂၆၇။

၂ – အဟ်မဒ်ကျမ်း၊ နံပါတ် – ၁၄၀၃၂။

အို – တမန်တော်အပေါင်းတို့၊ အသင်တို့သည် စင်ကြယ်သန့်ရှင်းသော အရာများကို စားသုံးကြပါ။ ထို့ပြင် အသင်တို့သည် ကောင်းမြတ်သည့်လုပ်ရပ်ကို ပြုလုပ်ကြပါ။ အမှန်စင်စစ် ငါအရှင်မြတ်သည် အသင်တို့ပြုလုပ်ကြသည်များကို အကြွင်းမဲ့သိတော်မူသော အရှင်ဖြစ်တော်မူသည်။" အရှင်မြတ်က မိန့်တော်မူသည်။[၁]

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ كُلُوا۟ مِن طَيِّبَٰتِ مَا رَزَقْنَٰكُمْ

အို – *အီမာန်*ယုံကြည်သူအပေါင်းတို့၊ အသင်တို့အား ငါအရှင်မြတ်ပေးသနားတော်မူထားသည့် သန့်ပြန့်သောအရာများထဲမှ စားသုံးကြပါ။[၂]

ပြီးနောက် ကိုယ်တော်မြတ် ﷺ က တင်ပြသည်။ ပုဂ္ဂိုလ်တစ်ဦး ခရီးရှည်နှင်လာသောကြောင့် ဖုံတစ်လူးလူးဖြစ်နေသည်။ မိုးကောင်းကင်ဘက် လက်ဖြန့်ကာ အို – အရှင်၊ အို – အရှင်ဟု ဆုတောင်းနေသည်။ သို့သော် သူစားသောအရာမှာ ဟရာမ်၊ သူသောက်သောအရာမှာ ဟရာမ်၊ သူဝတ်သောအရာမှာ ဟရာမ်၊ ဟရာမ်ဖြင့် အာဟာရဖြည့်တင်းနေသည်ဖြစ်ရာ သူ၏ဆုမွန်ဒုအာသည် အဘယ်မှာ လက်ခံခြင်းခံရမည်နည်း။[၃]

**မတ်စ်အလဟ် – (၂၄၃) ဟရာမ်ငွေကြေးဖြင့် လှူဒါန်းသောအလှူဒါနသည် လက်ခံခြင်းမခံရပေ။**

အဗ်ဒုလ္လာဟ်ဗင်န်အုမရ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်ကို ကျွန်ုပ်ကြားခဲ့သည်။ "ဝူဇူမပါသောစွလာႀသ်သည် လက်ခံခြင်းမခံရ။ သုံ့ပန်းပစ္စည်းမှ ခိုးယူထားသောငွေဖြင့်ပြုသောအလှူဒါနသည် လက်ခံခြင်းမခံရ။[၄]

---

၁ – ကုရ်အာန် ၂၃း ၅၁။

၂ – ကုရ်အာန် ၂း ၁၇၂

၃ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၀၁၅။

၄ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၂၄။

ရှင်းလင်းချက်။ ။ လိမ်လည်ခြင်း၊ လှည့်ဖြားခြင်း၊ အလွဲသုံးစား လုပ်ခြင်း၊ လောင်းကစား၊ လိမ်ပြောခြင်း စသည့်နည်းလမ်းအားလုံးဖြင့်ရှာဖွေသောငွေကြေးအားလုံးသည် ဟရာမ်ဝင်ငွေများဖြစ်သည်။

  

## (၁၀) ဟရာမ်သတ်မှတ်ထားသောအရာများ ရောင်းချခြင်း

**မတ်စ်အလဟ် – (၂၄၄) ဟရာမ်ပစ္စည်းအရောင်းအဝယ်လုပ်ခြင်းမှ ရလာသောဝင်ငွေသည် ဟရာမ်ဖြစ်သည်။**

အဗူမတ်စ်အူးဒ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် ခွေးမှရသောငွေ၊ ပြည့်တန်ဆာ၏ဝင်ငွေနှင့် နက္ခတ်ဗေဒင်ဆရာ၏အဖိုးအခများကိုတမန်တော်မြတ် ﷺကတားမြစ်တော်မူခဲ့သည်။[၁]

ဂျာဗိရ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် မက္ကာဟ်မြို့ကိုအောင်နိုင်စဉ်နှစ်က မိန့်ကြားတော်မူသည်ကို ကျွန်ုပ်ကြားသိခဲ့သည်။ “အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်နှင့် အရှင့်တမန်တော်သည် အရက်ရောင်းဝယ်ခြင်း၊ အသေသားရောင်းဝယ်ခြင်း၊ ဝက်ရောင်းဝယ်ခြင်းနှင့် ရုပ်တုရောင်းဝယ်ခြင်းများကို တားမြစ်တော်မူခဲ့သည်။[၂]

  

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၂၂၃၇။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၂၂၃၆။

## (၁၁) ဖတဆိုးကလေး၏ ဥစ္စာပစ္စည်းကို မတရားသောနည်းဖြင့် စားသုံးခြင်း

**မတ်စ်အလဟ် – (၂၄၅) ဖတဆိုးကလေးများ၏ ငွေကြေးဥစ္စာကို မတရားသောနည်းဖြင့် စားသုံးသူသည် မိမိ၏ဝမ်းဗိုက်ထဲသို့ ဂျဟန္နမ်ငရဲမီးကို ထည့်ခြင်းဖြစ်သည်။**

إِنَّ الَّذِينَ يَأْكُلُونَ أَمْوَالَ الْيَتَامَىٰ ظُلْمًا إِنَّمَا يَأْكُلُونَ فِي بُطُونِهِمْ

نَارًا ۖ وَسَيَصْلَوْنَ سَعِيرًا ﴿١٠﴾

အမှန်စင်စစ် အကြင်သူများသည် အဘမဲ့ကလေးများ၏ ပစ္စည်းများကို မတရားစားသုံးကြသည်။ အမှန်စင်စစ် ထိုသူများသည် သူတို့၏ဗိုက်များထဲတွင် မီးကိုသာ (ထည့်သွင်း)စားသုံးကြခြင်းဖြစ်သည်။ ထို့ပြင် သူတို့သည် မကြာမီ ဟုန်းဟုန်းတောက်နေသော ငရဲမီးထဲသို့ ဝင်ရောက်ကြရမည်။[၁]

**မတ်စ်အလဟ် – (၂၄၆) ဖတဆိုးကလေးများ၏ ငွေကြေးကို မတရားသောနည်းဖြင့် စားသုံးခြင်းသည် ဟရာမ်ဖြစ်သည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အို – အလ္လာဟ်အရှင်မြတ်၊ ကျွန်တော်မျိုးသည် အားအင်ချည့်နဲ့သူနှစ်ဦး၏ အခွင့်အရေးအား(မတရားလုပ်ခြင်းမှ) ဟရာမ်အဖြစ်သတ်မှတ်တော်မူသည်။ တစ်ဦးမှာ ဖတဆိုးကလေးဖြစ်ပြီး နောက်တစ်ဦးမှာ အမျိုးသမီးဖြစ်သည်။[၂]



---

၁ – ကုရ်အာန် ၄ – ၁၀။

၂ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၃၆၇၈။

## (၁၂) အကြွေးမဆပ်ခြင်း

**မတ်စ်အလဟ် – (၂၄၇) အလ္လာဟ်လမ်းတော်မှ သုံးကြိမ်တိုင်တိုင် ရှဟီးဒ် ဖြစ်ခဲ့သူသည်ပင် အကြွေးမဆပ်မချင်း ဂျန္နသ်သို့မဝင်ရ။**

မုဟမ္မဒ်ဗင်န်ဂျဟ်ရှ်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်ုပ်တို့သည် တမန်တော်မြတ် ﷺ အနီးတွင် ထိုင်နေခဲ့ကြသည်။ ကိုယ်တော်မြတ် ﷺ သည် မိုးကောင်းကင်ပေါ်သို့ ဦးမော့တော်မူသည်။ ပြီးနောက် မိမိ၏ လက်ကို နဖူးပေါ်တင်ပြီး "စွဗ်ဟာနလ္လာဟ်၊ အဘယ်မျှ ပြင်းထန်မှုကျရောက်ခဲ့ပါဘိ။" ဟု မိန့်ကြားတော်မူလေသည်။ ကျွန်ုပ်တို့သည် ဆိတ်ဆိတ်နေခဲ့ကြသည်။ ကျွန်ုပ်တို့ ထိပ်လန့်နေခဲ့ကြသည်။ နောက်တစ်နေ့တွင် ကျွန်ုပ်သည် တမန်တော်မြတ် ﷺ အား လျှောက်ထားမေးမြန်းတော်မူခဲ့သည်။ အို – ကိုယ်တော်မြတ်၊ ပြင်းထန်မှုကျရောက်ခဲ့သည်မှာအဘယ်အရာနည်း။ ကိုယ်တော်မြတ် ﷺ က မိန့်ကြားတော်မူသည်။ ငါကိုယ်တော်မြတ်၏ အသက်ကို စိုးပိုင်တော်မူသောအရှင်မြတ်၏ကစမ်၊ အကယ်၍ လူတစ်ဦးသည် အလ္လာဟ်လမ်းတွင် အသတ်ခံရမည်၊ ထို့နောက်တစ်ဖန် ပြန်လည်ရှင်ထစေခြင်းခံရမည်၊ ထို့နောက်တစ်ဖန် အသတ်ခံရမည်၊ ထို့နောက်တစ်ဖန် ပြန်လည်ရှင်ထစေခြင်းခံရမည်၊ ထို့နောက်တစ်ဖန် အသတ်ခံရဦးမည်ဆိုလျှင်လည်း သူ့ထံတွင် အကြွေးတင်ရှိနေပါက ထိုအကြွေးမဆပ်ရသေးမချင်း ဂျန္နသ်သုခဘုံသို့ ဝင်ရောက်ရမည်မဟုတ်ပေ။[၁]

**မတ်စ်အလဟ် – (၂၄၈) တမန်တော်မြတ် ﷺ သည်အကြွေးတင်ရှိနေသူ၏ ဂျနာဇဟ်စွလားသ်ကို ဝတ်ပြုခြင်းမှ ငြင်းဆန်တော်မူခဲ့သည်။**

အဗူကသာဒဟ် ؓ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ ထံသို့ ပုဂ္ဂိုလ်တစ်ဦး၏ ဂျနာဇဟ်ဝတ်ပြုရန် ယူဆောင်လာခဲ့ကြသည်။ တမန်တော်မြတ် ﷺ က မိန့်ကြားတော်မူသည်။ သူ့ဂျနာဇဟ်ကို

---

၁ – နစာအီကျမ်း၊ နံပါတ် – ၄၆၉၈။

အသင်တို့သာ ဝတ်ပြုပေးကြပါ။ သူ့ထံတွင် အကြွေးကျန်ရှိနေသည်။ အဗူကသာဒဟ် ﷺက လျှောက်တင်သည်။ ထိုအကြွေးကို ကျွန်ုပ်တာဝန်ယူဆပ်ပေးပါမည်။ ထိုအခါ တမန်တော်မြတ် ﷺက "အကြွေးကျေသည်အထိ တာဝန်ယူဆပ်ပေးမည်လော" ဟု မေးမြန်းတော်မူသည်။ ကျွန်ုပ်က အကြွေးကျေသည်အထိ ဆပ်ပေးပါမည်ဟု လျှောက်တင်ခဲ့သည်။ ထိုအခါမှ တမန်တော်မြတ် ﷺသည် ၎င်းပုဂ္ဂိုလ်၏ ဂျနာဇဟ်ကို ဝတ်ပြုပေးတော်မူခဲ့သည်။[၁]

**မတ်စ်အလဟ် – (၂၄၉) အကြွေးဆပ်ရန် တတ်စွမ်းနိုင်ပါလျက်နှင့် အကြွေးမဆပ်သောသူသည် မတရားလုပ်သူဖြစ်သည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ငွေကြေးချောင်လည်ပါလျက် အကြွေးမဆပ်ခြင်းသည် မတရားလုပ်ခြင်းဖြစ်သည်။[၂]



## (၁၃) အမျိုးသမီးအား အမွေမပေးခြင်း

**မတ်စ်အလဟ် – (၂၅၀) အစ်မ၊ ညီမဖြစ်စေ၊ သမီးဖြစ်စေ၊ အမျိုးသမီးဖြစ်စေ အမျိုးသမီးအား သတ်မှတ်ထားသောအမွေဝေစု မပေးသူသည် ငရဲဘုံသို့လားရမည်။ ယင်းငရဲဘုံတွင် သူသည် သေးသိမ်သောပြစ်ဒဏ်ကို ခံစားရမည်။**

وَمَنْ يَّعْصِ اللّٰهَ وَرَسُوْلَهٗ وَيَتَعَدَّ حُدُوْدَهٗ يُدْخِلْهُ نَارًا خَالِدًا فِيْهَا ۖ وَلَهٗ عَذَابٌ مُّهِيْنٌ ﴿١٤﴾

ထို့ပြင် မည်သူမဆို *အလ္လာဟ်* အရှင်မြတ်နှင့် အရှင့် *ရစူလ်*၏ အမိန့်

---

၁ – သိန်မိဇီကျမ်း၊ နံပါတ် – ၁၀၆၉။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၂၂၈၈။

တော်များကို သွေဖည်ငြင်းပယ်ပြီး အရှင်မြတ်၏ စည်းမျဉ်းဥပဒေများကို ကျူးကျော်ဖောက်ဖျက်လျှင် အရှင်မြတ်သည် ထိုသူ့ကို (ငရဲ)မီးထဲသို့ သွတ်သွင်းတော်မူမည်။ ထိုထဲတွင်အမြဲ နေထိုင်ရမည်။ ၎င်းပြင် ထိုသူ့အတွက် သိက္ခာကျစေသော အပြစ်ဒဏ်လည်းရှိမည်။[၁]

  

---

၁ - ကုရ်အာန် ၄း ၁၄။

## လူမှုဆက်ဆံရေးနှင့်သက်ဆိုင်သော အပြစ်ကြီးများ

### (၁) မတရား သတ်ဖြတ်ခြင်း

မတ်စ်အလဟ် – (၂၅၁) လူ့အသတ်ကို မတရားသတ်ဖြတ်သောသူ၏ ပြစ်ဒဏ်လေးမျိုးရှိသည်။ (၁) ထာဝရငရဲဘုံတွင်နေရမည်။ (၂) အလ္လာဟ် အရှင်မြတ်၏ အမျက်ဒေါသ။ (၃) အလ္လာဟ်အရှင်မြတ်၏ လအ်နသ်။ (၄) ကြီးမားသောပြစ်ဒဏ်။

وَمَنۡ يَقۡتُلۡ مُؤۡمِنًا مُّتَعَمِّدًا فَجَزَآؤُهُۥ جَهَنَّمُ خَٰلِدًا فِيهَا وَغَضِبَ ٱللَّهُ عَلَيۡهِ وَلَعَنَهُۥ وَأَعَدَّ لَهُۥ عَذَابًا عَظِيمًا ﴿٩٣﴾

ထို့ပြင် အကြင်သူသည် *မုအ်မင်န်* တစ်ဦးအား အကြောင်းမဲ့ တမင်သတ်ခဲ့လျှင် ထိုသူ၏ အပြစ်သည် (အမှန်ဆိုလျှင်) *ဂျဟန္နမ်* ငရဲဘုံပင်ဖြစ်သည်။ ထိုငရဲဘုံ တွင်အမြဲနေရမည်ဖြစ်သည်။ ၎င်းပြင် *အလ္လာဟ်*အရှင်မြတ်သည် ထိုသူ၏အပေါ်တွင်(ကာလတစ်ခုထိ)အမျက်ထားတော်မူမည်။ ၎င်းပြင် ထိုသူ့အား ကရုဏာတော်မှ ကင်းဝေးစေတော်မူမည်။ ထိုသူ့အတွက် ကြီးလေးသော အပြစ်ဒဏ်ကိုလည်းအဆင်သင့်ပြုလုပ်ထားတော်မူမည်။[၁]

ရှင်းလင်းချက်။ ငရဲဘုံတွင် ထာဝရနေရမည်ဟုဆိုလိုရင်းမှာ အချိန်ကာလကြာမြင့်စွာဟု ဆိုလိုသည်။ အချိန်အတိအကျကိုမူ အလ္လာဟ် အရှင်မြတ်သာ သိတော်မူမည်။ အလ္လာဟ်အရှင်မြတ် အလိုတော်ရှိသည့် အချိန်ထိ သူသည် ငရဲဘုံတွင်နေရမည်။

---

၁ – ကုရ်အာန် ၄း ၉၃။

**မတ်စ်အလဟ် – (၂၅၂) ကိယာမသ်နေ့၌ ဟုကူကုလ်အိဗာဒ်ခေါ် လူသား အချင်းချင်းနှင့်ဆိုင်သည့်အခွင့်အရေးများအနက် ပထမဦးဆုံး စီရင်ဆုံး ဖြတ်မည်မှာ လူသတ်မှုဖြစ်သည်။**

အဗ်ဒုလ္လာဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ကိယာမသ်နေ့၌ လူသားများအကြား ပထမ ဦးဆုံး စီရင်ချက်ချမည့်အမှုမှာ လူသတ်မှုဖြစ်သည်။"[၁]

**မတ်စ်အလဟ် – (၂၅၃) ကိယာမသ်နေ့၌ အသတ်ခံခဲ့ရသောသူသည် လူ သတ်သမားအားနဖူးဆံစမှဆွဲကာအလ္လာဟ်အရှင်မြတ်၏ရှေ့တော်မှောက် သို့ ခေါ်ဆောင်လာလိမ့်မည်။**

အိဗ်နအဗ္ဗားစ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ကိယာမသ်နေ့တွင် အသတ်ခံခဲ့ရသူသည် လူသတ်သမားအားဦးခေါင်းကိုကိုင်၍နဖူးဆံမှဆွဲကာ ခေါ်ဆောင်လာမည်။ လူသတ်သမား၏ ကိုယ်မှ သွေးများပန်းထွက်နေမည်။ အသတ်ခံရသူက လျှောက်ထားမည်။ အို – အရှင်မြတ်၊ သူသည် ကျွန်တော်မျိုးအား သတ် ဖြတ်ခဲ့ပါသည်။ အသတ်ခံရသူသည် လူသတ်သမားအား ဆွဲခေါ်သွားရင်း သွားရင် အရ်ရှ်တော်အနီးထိပင် ရောက်လာလိမ့်မည်။"[၂]

**မတ်စ်အလဟ် – (၂၅၄) ကိယာမသ်နေ့၌ အသတ်ခံရသူသည် အလ္လာဟ် အရှင်မြတ်၏ရှေ့၌ ဤသို့လူသည် "ဘာကြောင့် ကျွန်ုပ်အား သတ်ခဲ့ပါသနည်း၊ အရှင်မြတ်မေးတော်မူပါ" ဟု လျှောက်တင်လိမ့်မည်။**

ဂျွန်ဒုဗ် ﷺက ပြောပြသည်။ စွဟာဗဟ်တစ်ဦးသည် ကျွန်ုပ်အား ပြောပြသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ ကိယာမသ်နေ့၌ အသတ်ခံရသူသည် လူသတ်သမားအား ခေါ်ဆောင်လာပြီး အို – အရှင်

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၆၇၈။

၂ – သိရ်မိဇီကျမ်း၊ နံပါတ် – ၃၀၂၉။

မြတ် "ကျွန်တော်မျိုးအား သူဘာကြောင့်သတ်ခဲ့သနည်း မေးတော်မူပါ" ဟု လျှောက်တင်မည်။ ထိုအခါ လူသတ်သမားက ကျွန်တော်သူ ထိုသူ့အား မည်သူမည်ဝါ၏ အမိန့်ပေးစေခိုင်းမှုကြောင့် သတ်ခဲ့ခြင်းဖြစ်ပါသည်ဟု လျှောက်ထားလိမ့်မည်။ ဂျွန်ဒုဗ် ﷺက မိန့်ကြားတော်မူသည်။ "ထို့ကြောင့် သူတစ်ပါးအသတ်သက် ခြင်းမှ အသင်ရှောင်ကြဉ်ပါ။[၁]

**မတ်စ်အလဟ် – (၂၅၅) မုအ်မင်န်တစ်ဦးကို မတရားသတ်ဖြတ်ခြင်းသည် အလ္လာဟ်အရှင်မြတ်၏ထံတွင် တစ်လောကလုံးကို ဖျက်ဆီးပစ်ခြင်းထက် ပို အပြစ်ကြီးသည်။**

ဗရာအ်ဗင်န် အာဇိဗ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အလ္လာဟ်အရှင်မြတ်ထံတွင် တစ်လောကလုံး ပျက်စီးသွားခြင်းသည် မုအ်မင်န်တစ်ဦးအား မတရားသတ်ဖြတ်ခြင်း လောက် အပြစ်မကြီးပေ။[၂]

**မတ်စ်အလဟ် – (၂၅၆) မတရားသတ်ဖြတ်ခြင်းသည် မဂ်ဖိရသ်လွတ်ငြိမ်း ချမ်းသာခွင့်ကိုပါ တားမြစ်သည်။**

အိဗ်နအုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ မုအ်မင်န်သည် မိမိ၏သာသနာရေးတွင် အမြဲ ကျယ်ဝန်းမှုရှိသည်။ (မဂ်ဖိရသ်အတွက် အမြဲ မျှော်လင့်၍ရသည်။) မတရား သတ်ဖြတ်မှုကို မကျူးလွန်မချင်းဖြစ်သည်။[၃]

**မတ်စ်အလဟ် – (၂၅၇) မတရားသတ်ဖြတ်ခြင်းသည် ပျက်စီးခြင်း၏ ချောက်ကမ်းပါးဖြစ်သည်။ ထိုထဲသို့ကျပြီးလျှင် အန္တရာယ်ကင်းစွာ ပြန်ထွက်**

---

၁ – နစာအီကျမ်း၊ နံပါတ် – ၃၉၉၈။

၂ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၂၆၁၉။

၃ – ဗုခါရီကျမ်း၊ နံပါတ် – ၆၈၆၂။

**လာဖို့ မလွယ်ကူတော့ပေ။**

အဗ်ဒုလ္လာဟ်ဗင်န်အုမရ် ﷺက မိန့်ဆိုသည်။ မတရားသတ်ဖြတ်ခြင်းသည် ပျက်စီးခြင်း၏ ချောက်ကမ်းပါးဖြစ်သည်။ ထိုထဲသို့ကျပြီးလျှင် အန္တရာယ်ကင်းစွာ ပြန်ထွက် လာဖို့ မလွယ်ကူတော့ပေ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်က လူသတ်မှုကို ဟရာမ်အဖြစ်တော်မြစ်တော်မူထားခြင်းကြောင့် ဖြစ်သည်။[၁]

**မတ်စ်အလဟ် - (၂၅၈) လူသတ်မှုကျူးလွန်ပြီးသည့်နောက်တွင် ကောင်းမှုကုသိုလ်ပွားများရန် ခက်ခဲသွားလေတော့သည်။**

အဗုဒ်ဒရ်ဒါအ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မုအ်မင်န်သည် အစဉ်အမြဲ ကောင်းမှုကုသိုလ်ပွားများသူဖြစ်သည်။ သို့သော် လူသတ်မှုကျူးလွန်လိုက်သောအခါ သူသည် ကောင်းမှုကုသိုလ်ပွားများခြင်းမှ ဖင့်နွှဲ့သွားလေတော့သည်။[၂]

**မတ်စ်အလဟ် - (၂၅၉) မွတ်စ်လင်မ်တစ်ဦးကို သတ်ဖြတ်ပြီး ပျော်ရွှင်နေသောသူတစ်ဦး၏ ဖရဇ်ဖြစ်စေ၊ နဖ်လ်ဖြစ်စေ မည်သည့်အိဗာဒသ်ကိုမျှ အလ္လာဟ်လက်မခံတော့ပေ။**

အိုဗာဒဟ်ဗင်န်စွာမိသ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မည်သူမဆို မုအ်မင်န်တစ်ဦးအား သတ်ဖြတ်ခဲ့မည်၊ ထိုသတ်ဖြတ်မှုကြောင့် ပျော်ရွှင်ခဲ့မည်ဆိုလျှင် အလ္လာဟ်အရှင်မြတ်သည် ထိုသူ၏ ဖရဇ်ဖြစ်စေ၊ နဖ်လ်ဖြစ်စေ မည်သည့်အိဗာဒသ်ကိုမျှ အလ္လာဟ်လက်မခံတော့ပေ။[၃]

---

၁ - ဗုခါရီကျမ်း၊ နံပါတ် - ၆၈၆၃။

၂ - အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် - ၄၂၇၀။

၃ - အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် - ၄၂၇။

**မတ်စ်အလဟ် – (၂၆၀) မုအ်မင်န်တစ်ဦးအား မတရားသတ်ဖြတ်ခြင်းသည် ရှိရ်က်နှင့်ကုဖရ်ကဲ့သို့ ခွင့်မလွှတ်ထိုက်သောပြစ်မှုဖြစ်သည်။**

အဗုဒ်ဒရ်ဒါအ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်တော်မူသည်ကို ကျွန်ုပ် ကြားသိခဲ့သည်။ "ပြစ်မှုတိုင်းကို အလ္လာဟ်အရှင်မြတ်က ခွင့်လွှတ်မည်ဟု မျှော်လင့်ရပါသည်။ သို့သော် မုရှ်ရိက်အဖြစ်သေဆုံးသူနှင့် မုအ်မင်န်တစ်ဦးအား ရည်ရွယ်သတ်ဖြတ်ခဲ့သူတို့ဖြစ်သည်။"[၁]

မုအာဝယဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်ကို ကျွန်ုပ်ကြားခဲ့သည်။ "ပြစ်မှုတိုင်းကို အလ္လာဟ်အရှင်မြတ်က ခွင့်လွှတ်မည်ဟု မျှော်လင့်ရပါသည်။ သို့သော် မုအ်မင်န်တစ်ဦးအား ရည်ရွယ်သတ်ဖြတ်ခဲ့သူနှင့် ကာဖိရ်အဖြစ်သေဆုံးသူတို့ဖြစ်သည်။"[၂]

ရှင်းလင်းချက်။ အကယ်၍ မုရ်ှရိက်နှင့် လူသတ်သမားသည် မသေခင်အလျင် သောင်ဗဟ်လုပ်ခဲ့မည်ဆိုပါ မဂ်ဖိရသ်အတွက် မျှော်လင့်ရသည်။ သို့သော် သောင်ဗဟ်မလုပ်ဘဲ သေဆုံးသွားပါက မဂ်ဖိရသ်ရဖို့ မျှော်လင့်၍ မရပေ။

**မတ်စ်အလဟ် – (၂၆၁) မတရားသတ်ဖြတ်မှုနှင့်ပထဦးဆုံးအစပျိုးလိုက်သူသည် နောက်ပိုင်းဖြစ်ပေါ်လာမည့် လက်စားချေသောလူသတ်မှုအားလုံး၏ အပြစ်ကို ခံရမည်။ ကျန်လူသတ်သမားများလည်း အပြစ်ခံရမည်။**

အဗ်ဒုလ္လာဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "လူသတ်မှုတစ်ခုဖြစ်တိုင်း အာဒမ်၏ပထမဦးဆုံးသားဖြစ်သူ(ကာဗီလ်)သည် ထိုအပြစ်၏ တစ်စိတ်တစ်ဒေသကို ခံရမည်။ အဘယ်ကြောင့်ဆိုသော် သူသည် လူသတ်မှုကို ပထဦးဆုံးလမ်းပြ

---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၄၂၇၀။

၂ – နစာအီကျမ်း၊ နံပါတ် – ၃၉၈၄။

ခဲ့သောကြောင့် ဖြစ်သည်။[၁]

**မတ်စ်အလဟ် – (၂၆၂)လူသတ်မှုကျူးလွန်သောသူသည် ဂျဟန္နမ်ငရဲဘုံတွင် အပြင်းထန်းဆုံးမီးဖြင့် အပြစ်ပေးခြင်းခံရမည်။**

အဗူစအီးဒ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ဂျဟန္နမ်ငရဲမီးအတွင်းမှ စကားပြောသော ဦးခေါင်းတစ်ခု ထွက်လာ၍ ပြောမည်။ ယနေ့ ငါသည် လူသုံးဦးအား အပြစ်ပေးရန်တာဝန်ပေးခြင်းခံရသည်။ (၁) အမှန်တရားကို လက်မခံသော မောက်မာသူ၊ (၂) အလ္လာဟ်အရှင်မြတ်နှင့်အတူ အခြားအရာကို ကိုးကွယ်သူ၊ (၃) သူတစ်ပါးအသက်အား မတရားသတ်ဖြတ်သူတို့ ဖြစ်သည်။ ထို့နောက် ငရဲမီးသည် ထိုသုံးဦးအား ဆွဲယူပြီး မီးထဲသို့ ပစ်ထည့်ပေလိမ့်မည်။[၂]

**မတ်စ်အလဟ် – (၂၆၃) မုအ်မင်န်တစ်ဦးအား မတရားသတ်ဖြတ်ခြင်းကို ပြုပိုင်သည်ဟုမှတ်ယူခြင်းသည် ကုဖ်ရ်ဖြစ်သည်။**

အဗ်ဒုလ္လာဟ်ဗင်န်အုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အသင်တို့သည် ငါကိုယ်တော်မရှိသည့်နောက် အချင်းချင်း သတ်ဖြတ်ပြီး ကာဖိရ်အဖြစ်သို့ ပြန်မသွားကြလေနှင့်။[၃]

  

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၆၇၇။

၂ – သွဗ်ရာနီကျမ်း၊ နံပါတ် – ၃၉၈၁။

၃ – ဗုခါရီကျမ်း၊ နံပါတ် – ၇၀၈၀။

## (၂) လူသတ်မှုအတွက် အားပေးကူညီခြင်း

**မတ်စ်အလဟ် – (၂၆၄) လူတစ်ဦးကိုသတ်ဖြတ်ရာတွင် ပါဝင်ပတ်သတ်သူအားလုံးသည် ပြစ်ဒဏ်ညီတူမျှတူ ခံကြရမည်။**

အိဗ်နအမုရ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ လူငယ်တစ်ဦးသည် မတရားလုပ်ကြံသတ်ဖြတ်ခံလိုက်ရသည်။ ထိုအခါ အုမရ် ﷺ က မိန့်သည်။ အကယ်၍ ဤလူငယ်အားသတ်ဖြတ်မှုတွင် စွန်အာမြို့သားအားလုံးပါဝင်လျှင်လည်း အားလုံးကို ငါသေဒဏ်ပေးမည်။[၄]

**မတ်စ်အလဟ် – (၂၆၅) မုအ်မင်နတစ်ဦးအားမတရားသတ်ဖြတ်ခြင်းမှုတွင် မိုးနှင့်မြေရှိ အဖန်ဆင်းခံအားလုံးပါဝင်ပတ်သက်ခဲ့လျှင်လည်း အလ္လာဟ်အရှင်မြတ်သည် အားလုံးကို ငရဲမီးထဲ ဖောက်ထိုးပစ်ချတော်မူမည်။**

အဗူစအီးဒ်ခုဒ်ရီ ﷺ နှင့် အဗူဟိုရိုင်ရဟ် ﷺ က ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "မုအ်မင်နတစ်ဦးအား သတ်ဖြတ်မှုတွင် အကယ်၍ မိုးကောင်းကင်သားများနှင့် မြေပထဝီသားများ အားလုံး ပါဝင်ပတ်သက်ခဲ့လျှင်ပင် ငါ့အရှင်မြတ်သည် အားလုံးကို ငရဲမီးထဲ ဖောက်ထိုးကျစေတော်မူမည်။[၅]



---

၄ – ဗုခါရီကျမ်း။

၅ – သိရ်မီဇီကျမ်း။

## (၃) မသတ်မီအလျင် ညှင်းပန်းနှိပ်စက်ခြင်း

**မတ်စ်အလဟ် – (၂၆၇) မသတ်ဖြတ်မီအလျင် ညှင်းပန်းနှိပ်စက်ခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အိုင်ယူးဗ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် မသတ်ဖြတ်မီအလျင် ညှင်းပန်းနှိပ်စက်ခြင်းမှ တားမြစ်တော်မူခဲ့သည်။[၁]

  

## (၄) လူသတ်ရန် ကြံရွယ်ခြင်း

**မတ်စ်အလဟ် – (၂၆၈) လူနှစ်ဦးသည် ခိုက်ရန်ဖြစ်ပွားကြပြီး တစ်ဦးကို တစ်ဦး သတ်ဖြတ်ရန်ကြိုးစားခဲ့ကြလျှင် သတ်သူရော၊ အသတ်ခံရသူပါ နှစ်ဦးစလုံး ငရဲလားမည်။**

အဗူဗက်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်ကိုကျွန်ုပ်ကြားခဲ့သည်။ "မွတ်စ်လင်မ်နှစ်ဦးသည် ဓားကိုယ်စီဆွဲကိုင်ပြီး ရင်ဆိုင်ခဲ့ကြလျှင် သတ်သူရော၊ အသတ်ခံရသူရော ငရဲလားမည်။ ကျွန်တော်က လျှောက်ထားမေးမြန်းခဲ့သည်။ အို – အလ္လာဟ် တမန်တော်၊ လူသတ်သမားကတော့ဟုတ်ပါပြီ။ သို့သော် အသတ်ခံရသူက အဘယ်ကြောင့်ပါနည်း။ ထိုအခါ ကိုယ်တော်မြတ် ﷺ က မိန့်ကြားတော်မူသည်။ သူသည်လည်း အခြားတစ်ဦးကို သတ်ဖြတ်ရန် လိုလားခဲ့ပေသည်။[၂]

---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၂၆၈၇။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၃၁။

**မတ်စ်အလဟ် – (၂၆၉) မွတ်စ်လင်မ်တစ်ဦးအား သတ်ဖြတ်ရန်အတွက် လိုက်လံကြိုးစားနေသူကိုအလ္လာဟ်အရှင်မြတ် လွန်စွာမုန်းတီးတော်မူမည်။**

အိဗ်နအဗ္ဗားစ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "လူသုံးဦးကို အလ္လာဟ်အရှင်မြတ် ရွံရှာမုန်းတီးတော်မူသည်။ (၁) ဟာရာမ် မြင့်မြတ်သောနေရာတွင် သာသနာကို စွန့်လွှတ်သူ၊ (၂) အစ္စလာမ်တွင် အမိုက်ခေတ်က လမ်းစဉ်ကို ကျင့်မူသူ၊ (၃) မတရားသတ်ဖြတ်ရန် ကြိုးစားအားထုတ်သူတို့ ဖြစ်သည်။"[၁]



## (၅) ခိုလှုံမှုပေးပြီးနောက် သတ်ဖြတ်ခြင်း

**မတ်စ်အလဟ် – (၂၇၀) တစ်ဦးတစ်ယောက်အား လုံခြုံရေးပေးပြီးနောက်၊ တစ်ဦးတစ်ယောက်အား ခိုလှုံခွင့်ပေးပြီးနောက် သတ်ဖြတ်သူသည် ကိယာမသ်နေ့တွင် လိမ်လည်လှည့်ဖြားမှုအလံကို ကိုင်ဆောင်ထားရမည်။**

အမရ်ဗင်န်ဟမိက်ခိုဇာအီ ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မည်သူမဆို လူတစ်ဦးအား အသက်ချမ်းသာခွင့် ပေးပြီးနောက်မှ သတ်ဖြတ်ခဲ့ပါက ကိယာမသ်နေ့တွင် လိမ်လည်လှည့်ဖြားမှုအလံကို ကိုင်ဆောင်ထားရမည်။"[၂]



---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၆၈၈၂။

၂ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၂၆၈၈။

## (၅) ကိုယ့်ကိုယ်ကို သတ်သေခြင်း

မတ်စ်အလဟ် – (၂၇၁) ကိုယ့်ကိုယ်ကိုသတ်သေခြင်းသည်ကြီးလေးသော ပြစ်မှု ဖြစ်သည်။

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မည်သူမဆိုမိမိကိုယ်ကိုသံလက်နက်ဖြင့် သတ်သေခဲ့ပါက ကိယာမသ်နေ့တွင် ထိုသံလက်နက်ကို လက်တွင်ကိုင်၍ မိမိ၏ ဗိုက်ကို ထိုးသတ်နေရလိမ့်မည်။ ငရဲမီးတွင် အမြဲထာဝရ ထိုအတိုင်း အပြစ်ပေးနေလိမ့်မည်။ မည်သူမဆို မိမိကိုယ်ကို အဆိပ်ဖြင့် သတ်သေခဲ့ပါက ကိယာမသ်နေ့တွင် ထိုအဆိပ် လက်တွင်ကိုင်၍ သောက်နေရလိမ့်မည်။ ငရဲမီးတွင် အမြဲထာဝရ ထိုအတိုင်း အပြစ်ပေးနေလိမ့်မည်။ မည်သူမဆို တောင်ပေါ်မှ ခုန်ချပြီး မိမိကိုယ်ကို သတ်သေခဲ့ပါက ကိယာမသ်နေ့တွင် ထိုသူသည် ငရဲမီးတွင် အမြဲထာဝရ တောင်ပေါ်မှ ခုန်ချနေရလိမ့်မည်။[၁]



## (၇) သားသမီးများကို သတ်ဖြတ်ခြင်း

မတ်စ်အလဟ် – (၂၇၂) မိမိ၏ သားသမီးများကို သတ်ခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။

وَإِذَا الْمَوْءُدَةُ سُئِلَتْ ﴿٨﴾ بِأَيِّ ذَنْبٍ قُتِلَتْ ﴿٩﴾

ထို့ပြင် အရှင်လတ်လတ် မြှုပ်နှံခြင်းကို ခံခဲ့ရသော သမီးမိန်းကလေးသည် မေးမြန်းခြင်းကိုခံရသည့်အခါ၊မည်သည့်အပြစ်ကြောင့် အသတ်ခံခဲ့ရသနည်း(ဟူ၍)၊[၂]

---

၁ – သိရ်မိဇီကျမ်း၊ နံပါတ် – ၂၀၄၃။

၂ – ကုရ်အာန် ၈၁း၈ – ၉

وَلَا تَقْتُلُوٓا أَوْلَٰدَكُمْ خَشْيَةَ إِمْلَٰقٍ ۖ نَّحْنُ نَرْزُقُهُمْ وَإِيَّاكُمْ ۚ إِنَّ قَتْلَهُمْ كَانَ خِطْـًٔا كَبِيرًا ﴿٣١﴾

ထို့ပြင် အသင်တို့ သည် ဆင်းရဲမှုကို စိုးရိမ်သည့်အတွက် အသင်တို့၏ သားသမီးများအား မသတ်ဖြတ်ကြနှင့်။ ငါအရှင်မြတ်သည်ပင် သူတို့နှင့်တကွ အသင်တို့အား စားနပ်ရိက္ခာ ပေးသနားတော်မူသည်။ အမှန်စင်စစ် သူတို့အား သတ်ဖြတ်ခြင်းသည် အလွန်ကြီးလေးသောအပြစ် ဖြစ်သည်။[၁]

အဗ်ဒုလ္လာဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်ုပ်သည် တမန်တော်မြတ် ﷺ အား "အဘယ်ပြစ်မှုသည် အလ္လာဟ်အရှင်မြတ်ထံတွင် အကြီးဆုံးဖြစ်ပါသနည်း" ဟု မေးမြန်းခဲ့သည်။ ကိုယ်တော်မြတ် ﷺ က မိန့်ကြားတော်မူသည်။ "အလ္လာဟ်အရှင်မြတ်သည် အသင့်အား ဖန်ဆင်းထားပါလျက်နှင့် အရှင်မြတ်နှင့်ယှဉ်တွဲ၍ အခြားဂုဏ်ရည်တူပြုလုပ်ခြင်း။" ကျွန်တော်က လျှောက်တင်သည်။ "အမှန်စင်စစ် ထိုအပြစ်သည် အလွန်ကြီးလေးပါသည်။ ထို့နောက် အဘယ်ပြစ်သည် အကြီးဆုံးဖြစ်ပါသနည်း။ ကိုယ်တော်မြတ် ﷺ က မိန့်ကြားတော်မူသည်။ "အသင်နှင့်အတူ စားသုံးမည်ကို စိုးရိမ်သဖြင့် အသင့်၏သားသမီးကို သတ်ဖြတ်ခြင်း။ ကျွန်တော်က မေးမြန်းခဲ့သည်။ ထို့ နောက် အဘယ်အပြစ်သည် အကြီးဆုံးဖြစ်ပါသနည်း။ ကိုယ်တော်မြတ် ﷺ က မိန့်ကြားတော်မူသည်။ "အသင်၏ အိမ်နီးချင်း၏ ဇနီးသည်ကို ဇိနာကျူး လွန်ခြင်းဖြစ်သည်။[၂]

ရှင်းလင်းချက်။ သားဆက်ခြားခြင်း၏ အဓိကအကြောင်းရင်းမှာ စားဝတ်နေရေးကျပ်တည်းမှုကြောင့် ဖြစ်နေတတ်သည်။ ထို့ကြောင့် သားဆက်ခြားခြင်းသည်လည်း ကြီးလေးသောအပြစ်ဖြစ်သည်။ သို့ရာတွင် မိခင်၏အသက်အန္တရာယ်နှင့် ရင်သွေး၏အသက်အန္တရာယ်ကို စိုးရိမ်ရပါက

---

၁ – ကုရ်အာန် ၁၇း ၃၁။

၂ – မွတ်စ်လင်မ်ကျမ်း။

ပြုပိုင်သည်။[၁]

  

## (၈) ကတိကဝတ်ပြုထားသူကို သတ်ဖြတ်ခြင်း

**မတ်စ်အလဟ် – (၂၇၃) ကတိကဝတ်ရယူထားသူကို သတ်ဖြတ်သူသည် ဂျန္နသ်သုခဘုံ၏ ရနံ့ကိုပင်ရမည်မဟုတ်။**

အဗ်ဒုလ္လာဟ်ဗင်န်အုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မည်သူမဆို ကတိကဝတ်ယူထားသူကို သတ်ဖြတ်ခဲ့ပါက ဂျန္နသ်သုခဘုံ၏ ရနံ့ကိုပင် ရမည်မဟုတ်။ ထိုရနံ့သည် နှစ်ပေါင်း (၄၀) ခရီးအကွာမှပင် ရနေသည်။[၂]

  

## (၉) သက်ရှိတစ်စုံတရာကို ရုပ်ပျက်အောင်လုပ်ခြင်း၊ ကိုယ်ခန္ဓာအစိတ်အပိုင်း ဖြတ်တောက်ခြင်း

**မတ်စ်အလဟ် – (၂၇၄)သက်ရှိတစ်ဦးအား ရုပ်ပျက်ဆင်းပျက်ဖြစ်အောင် လုပ်ခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

ဟိုင်ယားဂျ်ဗင်န်အိမ်ရာန်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ အိမ်ရာန် ﷺ၏ ကျေးကျွန်တစ်ဦး ထွက်ပြေးသွားခဲ့သည်။ ထိုအခါ သူက ယင်းကျေးကျွန်ကို ဖမ်းမိပါက လက်ဖြတ်ပစ်မည်ဟု အဓိဋ္ဌာန်ပြုလိုက်သည်။ ထို့နောက်သူသည် ဤကိစ္စနှင့်စပ်လျဉ်းပြီး မေးမြန်းစုံစမ်းရန်အတွက် ကျွန်တော့်အား စမုရဟ်ဗင်န်ဂျွန်ဒုဗ် ﷺထံ စေလွှတ်ခဲ့သည်။ ကျွန်တော်က သူ့ထံတွင် မေးမြန်းခဲ့ရာ သူက မိန့်သည်။ တမန်တော်မြတ် ﷺသည် ကျွန်ုပ်တို့

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၈၆။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၃၁၆၆။

အား စွဒကဟ်အလှူဒါနပေးရန်နှင့် ကိုယ်ခန္ဓာအစိတ်အပိုင်းများကို ဖြတ်တောက်ခြင်းမှ တားမြစ်တော်မူခဲ့သည်။ သို့နှင့် ကျွန်တော်သည် အိမ်ရာန် ဗင်န် ဟိုစွိုင်န်း ﵁ထံသို့သွား၍ ဤသည်နှင့်စပ်လျဉ်း၍ မေးမြန်းခဲ့ ရာ သူက မိန့်တော်မူသည်။တမန်တော်မြတ် ﷺသည်ကျွန်ုပ်တို့အားစွဒကဟ်အလှူဒါနပေးရန်နှင့် ကိုယ်ခန္ဓာအစိတ်အပိုင်းများကိုဖြတ်တောက်ခြင်းမှ တားမြစ်တော်မူခဲ့သည်။[၁]

**မတ်စ်အလဟ် – (၂၇၅) သက်ရှိတစ်ဦး၏ ခြေလက်၊ နားနှာခေါင်းတို့အား ဖြတ်တောက်ခြင်းသူအပေါ် အလ္လာဟ်အရှင်မြတ်၏ လအ်နသ်သင့်ပေသည်။**

အိဗ်နအုမရ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ်သည် တိရစ္ဆာန်အရှင်၏ ခြေလက်များ ဖြတ်တောက်သူကို လအ်နသ်ပို့တော်မူသည်။[၂]



## (၁၀)လူတို့အား လက်နက်ဖြင့် ခြိမ်းခြောက်ခြင်း

**မတ်စ်အလဟ် –(၂၇၆) မွတ်စ်လင်မ်တစ်ဦးအား လက်နက်ဖြင့် ခြိမ်းခြောက်သောသူကို ကောင်းကင်တမန်များက လအ်နသ်ပို့တော်မူသည်။**

အဗူဟိုရိုင်ရဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မည်သူမဆို မိမိ၏ညီနောင်မွတ်စ်လင်မ်အား လက်နက်ဖြင့် ချိန်ရွယ်ပါက ထိုလုပ်ရပ်မှ မရပ်တန့်မချင်း ကောင်းကင်တမန်များက သူ့အား လအ်နသ်ပို့တော်မူသည်။ သူ၏ ညီအကို အရင်းပင်ဖြစ် နေ

---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၂၆၆၇။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၅၅၁၅။

ပါစေ။[၁]

အဗူဟိုရိုင်ရဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အသင်တို့တစ်ဦးတစ်ယောက်သည် မိမိ၏ ညီနောင်အား လက်နက်ဖြင့် မချိန်ရွယ်လေနှင့်။ အဘယ်ကြောင့်ဆိုသော် ရှိုင်သွာန်သည် သူ၏လက်အား ဖိအားပေးလိုက်မလား သူမသိနိုင်ပေ။ ထို့နောက်တွင် သူသည် ငရဲဘုံ၏ကျင်းထဲသို့ ကျသွားနိုင်သည်။[၂]

## (၁၁)တိရစ္ဆာန်ကို ညှင်းပန်းနှိပ်စက်ခြင်း

**မတ်စ်အလဟ် (၂၇၇)တိရစ္ဆာန်ကို ရိုက်နက်ခြင်း၊ အစာမကျွေးခြင်း၊ ဒုက္ခပေးခြင်းတို့သည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အဗ်ဒုလ္လာဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အမျိုးသမီးတစ်ဦးသည် ကြောင်တစ်ကောင်ကြောင့် အပြစ်ဒဏ်ခံရသည်။ သူမသည် ကြောင်ကို သေဆုံးသိတိုင်အောင် ဖမ်းဆီးချုပ်နှောင်ထားခဲ့သည်။ ထို့ကြောင့် ငရဲဘုံသို့ ကျခဲ့သည်။ ဖမ်းဆီးထားပြီး အစာလည်းမကျွေး၊ ရေလည်းမတိုက်။ ကြောင်လေးအား သူ့ဘာသာ ရှာဖွေစားသောက်ဖို့လည်း လွှတ်မပေးခဲ့။[၃]

## (၁၂) မိဘနှစ်ပါး၏အမိန့်ကို မနာခံခြင်း

**မတ်စ်အလဟ် – (၂၇၈) မိဘနှစ်ပါး၏အမိန့်ကို မနာခံခြင်း၊ ဒုက္ခပေးခြင်း၊ အသံမြှင့်၍ စကားပြောခြင်း၊ အမျက်ဒေါသ ထွက်ပြခြင်း၊ လိုအပ်ချက်များအား မဖြည့်ဆည်းဘဲ မသိချင်ယောင်ဆောင်နေခြင်းတို့သည် ကြီးလေး**

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၆၁၆။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၇၀၇၂။

၃ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၂၄၂။

သောအပြစ်ဖြစ်သည်။

وَ قَضٰى رَبُّكَ اَلَّا تَعۡبُدُوۡۤا اِلَّاۤ اِيَّاهُ وَ بِالۡوَالِدَيۡنِ اِحۡسَانًا ؕ اِمَّا يَبۡلُغَنَّ عِنۡدَكَ الۡكِبَرَ اَحَدُهُمَاۤ اَوۡ كِلٰهُمَا فَلَا تَقُلۡ لَّهُمَاۤ اُفٍّ وَّ لَا تَنۡهَرۡهُمَا وَ قُلۡ لَّهُمَا قَوۡلًا كَرِيۡمًا ﴿۲۳﴾ وَ اخۡفِضۡ لَهُمَا جَنَاحَ الذُّلِّ مِنَ الرَّحۡمَةِ وَ قُلۡ رَّبِّ ارۡحَمۡهُمَا كَمَا رَبَّيٰنِىۡ صَغِيۡرًا ؕ﴿۲۴﴾

ထို့ပြင် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်က အမိန့်ပြဋ္ဌာန်းတော်မူသည်။ အသင်တို့သည် အရှင်မြတ်တစ်ပါးတည်းကိုသာ ကိုးကွယ်မှုပြုခြင်းမှလွဲ၍ အခြားကို ကိုးကွယ်မှု မပြုရပေ။ ၎င်းနောက် မိဘနစ်ပါးကို ကောင်းမွန်စွာ ပြုစုကြရမည်။ အကယ်၍ ထိုမိဘနစ်ပါးထဲမှ တစ်ပါးဖြစ်စေ၊ နှစ်ပါးစလုံးဖြစ်စေ အသင့်ရှေ့၌ အိုမင်းရင့်ရော်သောအရွယ်သို့ ရောက်ခဲ့လျှင် အသင် သည် ထိုမိဘနစ်ပါးအား "အို" ဟုပင် မပြောနှင့်။ ၎င်းနောက် အသင်သည် မိဘနစ်ပါးအား ငေါက်ငမ်းခြင်းလည်းမပြုနှင့်။ အသင်သည်ထိုမိဘနစ်ပါးနှင့် ယဉ်ကျေးသိမ်မွေ့ချိုသာသောစကားကိုသာ ပြောဆိုပါ။ ထို့ပြင် အသင်သည် ထိုမိဘနစ်ပါး၏ ရှေ့ ၌ သူတို့အပေါ်တွင် ကြင်နာသောသဘောနှင့် ကျိုးနွံပါ။ ၎င်းနောက် အသင်သည် (အရှင်မြတ်ထံတော်၌ ဤသို့)တောင်းဆိုပါ - "အို - ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ ထိုမိဘနစ်ပါးသည် ကျွန်ုပ်ကို ငယ်စဉ်တောင်ကျေးကလေးဘဝက ပြုစုပျိုးထောင်ခဲ့ကြသကဲ့သို့ အရှင်မြတ်ကလည်း သူတို့နှစ်ပါးအပေါ်တွင် သနားကြင်နာတော်မူပါ။"[၄]

အနတ်စ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "ကြီးလေးသောပြစ်မှုများမှာ (၁) အလ္လာဟ်အရှင်မြတ်နှင့်အတူ အခြားအရာအား ရှိရ်က်လုပ်ခြင်း၊ (၂) မိဘနစ်ပါး၏အမိန့်ကို ဖီဆန်ခြင်း၊ (၃)လူ့အသက် သတ်ခြင်းနှင့် (၄) လိမ်လည်ပြောဆိုခြင်းတို့

---

၄ - ကုရ်အာန် ၁၇း ၂၃ - ၂၄။

ဖြစ်သည်။[၁]

**မတ်စ်အလဟ် – (၂၇၉) မိဘနှစ်ပါးကိုဒုက္ခပေးသူပြုလုပ်သော ဖရဇ်ဖြစ်စေ၊ နဖိလ်ဖြစ်စေ မည့်သည့်အိဗာဒသ်မျှ လက်ခံခြင်းခံရမည်မဟုတ်။**

အဗူအိုမာမဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "လူသုံးဦးပြုလုပ်သော ဖရဇ်ဖြစ်စေ၊ နဖိလ်ဖြစ်စေ မည့်သည့်အိဗာဒသ်ကိုမျှ အလ္လာဟ်အရှင်မြတ် လက်ခံတော်မူမည်မဟုတ်ပေ။ (၁) မိဘနှစ်ပါး၏အမိန့်ကို မနာခံသူ၊ (၂) ကျေးဇူးပြုပြီးနောက် ဂုဏ်ဖော်သူ၊ (၃) သက္ကဒီရ်သတ်မှတ်ချက်ကို ငြင်းပယ်သူတို့ဖြစ်သည်။[၂]

ရှင်းလင်းချက်။ ထိုပြစ်မှုများမှ သောင်ဗဟ်လုပ်လိုက်သည့်နောက်တွင်မှ ပြုလုပ်သည့်အိဗာဒသ်များ လက်ခံခြင်းခံရမည်။

**မတ်စ်အလဟ် – (၂၈၀) မိဘနှစ်ပါးကိုဒုက္ခပေးခြင်း၏ ပြစ်ဒဏ်ကို လောကမှာပင် ခံစားရမည်။**

အနတ်စ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "မကောင်းမှုနှစ်ခု၏ ပြစ်ဒဏ်သည် လောကမှာပင် ချက်ချင်းလက်ငင်း ခံစားရမည်ဖြစ်သည်။ (၁) ဇိနာမှု၊ (၂) မိဘနှစ်ပါးကို ဒုက္ခပေးခြင်းတို့ဖြစ်သည်။[၃]

**မတ်စ်အလဟ် – (၂၈၁) အသက်အရွယ်ကြီးရင့်သော မိဘနှစ်ပါးအား အလုပ်အကျွေးမပြုသောသားသမီးများကို တမန်တော်မြတ် ﷺ က မကောင်းဆုတောင်းတော်မူခဲ့သည်။**

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။တမန်တော်မြတ်

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၈၈။
၂ – ကိသာဗုစ်စွန္နဟ်ကျမ်း၊ နံပါတ် ၃၂၃။
၃ – စိလ်စိလသုလ် အဟာဒီစွစ် စွဟီဟဟ်ကျမ်း၊ နံပါတ် ၁၁၂၀။

ﷺမိန့်ကြားတော်မူသည်။ "ထိုသူပျက်စီးပါစေသား၊ ထိုသူ ပျက်စီးပါစေသား၊ ထိုသူ ပျက်စီးပါစေသား။" တစ်ဦးသောသူက လျှောက်ထားမေးမြန်းသည်။ အို - တမန်တော်၊ ထိုသူမှာ မည်သူပါနည်း။ ကိုယ်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ "အကြင်သူသည် မိဘနှစ်ပါးစလုံး၊ သို့မဟုတ် မိဘတစ်ပါးပါးအား အသက်အရွယ်ကြီးရင့်ချိန်တွင် မီခဲ့ပါလျက်နှင့် ဂျန္နသ်သို့မဝင်ရသူဖြစ်သည်။[၄]

**မတ်စ်အလဟ် - (၂၈၂) မိဘနှစ်ပါးက စိတ်ဆိုးနေသောသားသမီးကို မိဘစိတ်ဆိုးမပြေမချင်း အလ္လာဟ်အရှင်မြတ်ကလည်း စိတ်ဆိုးတော်မူသည်။**

အိဗ်နအုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အလ္လာဟ်အရှင်မြတ်၏ ကျေနပ်နှစ်သက်မှုသည် မိဘ၏ ကျေနပ်နှစ်သက်မှုတွင် တည်ရှိ၏။ အလ္လာဟ်အရှင်မြတ်၏ အမျက်ဒေါသသည် မိဘနှစ်ပါး၏ အမျက်ဒေါသတွင် တည်ရှိသည်။[၅]

**မတ်စ်အလဟ် - (၂၈၃) ဖခင်ကို စိတ်ဆိုးအောင်လုပ်သူသည် ဂျန္နသ်၏ တံခါးပေါက်ကို ကိုယ်ကိုယ်တိုင် ချိုးဖျက်လိုက်ခြင်းဖြစ်သည်။**

အဗုဒ်ဒရ်ဒါအ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ဖခင်သည် ဂျန္နသ်၏ တံခါးပေါက်များအနက်မှ အကောင်းဆုံးတံခါးပေါက်ဖြစ်သည်။ ထို့ကြောင့် ယင်းတံခါးကို ဖျက်ဆီးလိုက ဖျက်ဆီးပစ်ပါ၊ ထိန်းသိမ်းလိုက ထိန်းသိမ်းပါ။[၆]

**မတ်စ်အလဟ် - (၂၈၄) မိဘနှစ်ပါး၏အမိန့်ကို မနာခံသူသည် ကိယာမသ်**

---

၄ - မွတ်စ်လင်မ်ကျမ်း၊ နံပါတ် - ၂၅၅၁။

၅ - သိရ်မိဇီကျမ်း - နံပါတ် - ၁၈၉၉။

၆ - အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် - ၃၆၆၃။

**နေ့တွင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာအရှိမှ လက်မဲ့ဖြစ်မည်။**

အိဗ်နုအုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "လူသုံးဦးကို ကိယာမသ်နေ့တွင် အလ္လာဟ် အရှင်မြတ် ကြည့်ရှုမည်မဟုတ်။ (၁) မိဘနှစ်ပါး၏အမိန့်ကို မနာခံသူ။ (၂) ယောက်ျားလေးပုံစံလုပ်သောမိန်းကလေး၊ "ဒိုင်ယူးစ်"(မယားဖြစ်သူ ဖောက်ပြန်နေသည်ကို တွေ့မြင်နေပါလျက် ဘယ်လိုမှု မခံစားရသူ)တို့ဖြစ် ကြသည်။ ထို့နောက် ကိုယ်တော်မြတ် ﷺက ဆက်လက်မိန့်ကြားတော် မူသည်။ သုံးဦးသောသူသည် ဂျန္နသ်သို့ဝင်ရောက်ရမည်မဟုတ်။ (၁) မိဘ နှစ်ပါး၏အမိန့်ကို မနာခံသူ၊ (၂) အရက်စွဲနေသူ၊ (၃) ပေးကမ်းပြီးနောက် ဂုဏ်ဖော်သူတို့ဖြစ်သည်။[၁]



## (၁၃) မိဘကို ဆဲဆိုသူ

**မတ်စ်အလဟ် – (၂၈၅) မိမိ၏မိဘကိုဖြစ်စေ၊ သူတစ်ပါး၏မိဘကိုဖြစ်စေ ဆဲဆိုခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အိဗ်နုအုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အကြီးလေးဆုံးသောပြစ်မှုများအနက်တစ်ခု မှာ မိမိ၏မိဘကို ဆဲဆိုခြင်း ဖြစ်သည်။ ထိုအခါ မေးမြန်းလျှောက်ထားကြ သည်။ အို – တမန်တော်၊ မိမိ၏ မိဘနှစ်ပါးကို အဘယ်ကဲ့ကို့ ဆဲဆိုပါမည် နည်း။ ထိုအခါ ကိုယ်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ သူတစ်ပါး၏ မိဘကို သွားဆဲသောအခါ ထိုသူက သူ့အဖေကို ပြန်ဆဲမည်။ သူတစ်ပါး၏ မိခင် ကို သွားဆဲသောအခါ ထိုသူက သူ့မိခင်ကို ပြန်ဆဲသည်။[၂] (ဤသည် ကိုယ့် မိဘကို ကိုယ်ပြန်ဆဲသည်နှင့် အတူတူဖြစ်၏)

---

၁ – နစာအီကျမ်း၊ နံပါတ် – ၂၅၆၂။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၅၉၇၃။

## (၁၄) ဆွေမျိုးအဆက်ဖြတ်ခြင်း

မတ်စ်အလဟ် – (၂၈၆) ဆွေမျိုးအဆက်ဖြတ်သူသည် ကိယာမသ်နေ့တွင် ဆုံးရှုံးမှုနှင့်ရင်ဆိုင်ရလိမ့်မည်။

الَّذِيْنَ يَنْقُضُوْنَ عَهْدَ اللّٰهِ مِنْۢ بَعْدِ مِيْثَاقِهٖ ۖ وَ يَقْطَعُوْنَ مَآ اَمَرَ اللّٰهُ بِهٖٓ اَنْ يُّوْصَلَ وَ يُفْسِدُوْنَ فِى الْاَرْضِ ؕ اُولٰٓئِكَ هُمُ الْخٰسِرُوْنَ ﴿۲۷﴾

ထိုသူများသည် *အလ္လာဟ်* အရှင်မြတ်နှင့်သစ္စာ ကတိခိုင်မာစွာ ပြုပြီးနောက်မှ ထိုကတိကဝတ်ကို ဖောက်ဖျက်ကြသည်။ ထို့ပြင် *အလ္လာဟ်* အရှင်မြတ်သည်(ဆွေမျိုးသားချင်းများနှင့်ရင်းနှီးစွာ) ပေါင်းသင်းဆက်ဆံရန် အမိန့်ချထားတော်မူသည်ကိုလည်း အဆက်ဖြတ်ကြသည်။ ထို့ပြင် သူတို့သည် ကမ္ဘာမြေပေါ်၌လည်း ဖျက်လိုဖျက်ဆီးပြု လုပ်ကြသည်။ (စင်စစ်) သူတို့သာ ပျက်စီးဆုံးရှုံးမည့်သူများဖြစ်ကြသည်။[၁]

မတ်စ်အလဟ် – (၂၈၇) ဆွေမျိုးအဆက်ဖြတ်သူအပေါ် အလ္လာဟ်အရှင်မြတ်၏ လအ်နသ်ကျရောက်ပေသည်။

فَهَلْ عَسَيْتُمْ اِنْ تَوَلَّيْتُمْ اَنْ تُفْسِدُوْا فِى الْاَرْضِ وَ تُقَطِّعُوْٓا اَرْحَامَكُمْ ﴿۲۲﴾

ထို့နောက် အကယ်၍ အသင်တို့သည်(စစ်တိုက်ခြင်းမှ)မျက်နှာလွှဲခဲ့ကြလျှင် (အမိုက်ခေတ်ထံသို့ပင်ပြန်သွားပြီး)ကမ္ဘာမြေတွင်သောင်းကျန်းဖျက်ဆီးကြရန်နှင့် အသင်တို့အချင်းချင်း (သတ်ဖြတ်လျက်) သားချင်းတော်စပ်မှုကိုဖြတ်တောက်ကြရန်ပင် မျှော်လင့်လိုလားနေကြသလော။ ထိုသူများသည် အကြင်သူများပင် ဖြစ်ကြသည်။ *အလ္လာဟ်* အရှင် မြတ်သည် သူတို့ကို ကရုဏာတော်မှ ကင်းဝေး စေတော်မူခဲ့သည်။ ထို့ပြင် သူတို့ကို နားပင်းစေတော်မူခဲ့သည်။ ထို့ပြင် သူတို့၏မျက်စိများကိုလည်း ကန်းစေ

---

၁ – ကုရ်အာန် ၂း၂၇။

တော်မူခဲ့သည်။[၁]

**မတ်စ်အလဟ် – (၂၈၈) ဆွေမျိုးအဆက်ဖြတ်သူသည် အဆက်အသွယ်ပြန်မလုပ်မချင်း ကောင်းမှုများ လက်ခံခြင်းမခံရပေ။**

အဗူဟိုရိုင်ရဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်ကို ကျွန်ုပ်ကြားခဲ့သည်။ "ကြာသပတေးနေ့ညဥ့်တိုင်းတွင် လူသားတိုင်း၏ လုပ်ရပ်များ တင်ပြခြင်းခံရသည်။ သို့ရာတွင် ဆွေမျိုးအဆက်ဖြတ်သူ၏ ကောင်းမှုများ လက်ခံခြင်းမခံရပေ။[၂]

**မတ်စ်အလဟ် – (၂၈၉) ဆွေမျိုးအဆက်ဖြတ်သူသည် လောကဒ္ဓပင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ ကင်းဝေးမည်။**

အာအိရှဟ် ﵂ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ဆွေမျိုးတော်စပ်မှုသည် အရ်ရှ်ပလ္လင်တွင် တွယ်ကပ်ပြီး ဤသို့ ပြောလေသည်။ "ငါ့အား အဆက်အသွယ်ထားသူကို အလ္လာဟ်အရှင်မြတ် အဆက်အသွယ်ထားတော်မူပါစေ၊ ငါ့အား အဆက်အသွယ်ဖြတ်တောက်သူကို အလ္လာဟ်အရှင်မြတ် အဆက်အသွယ် ဖြတ်တောက်တော်မူပါစေ။[၃]

**မတ်စ်အလဟ် – (၂၉၀) ဆွေမျိုးဖြတ်ခြင်း၏ ပြစ်ဒဏ်သည် လောကဒ္ဓပင် ခံစားရမည်။**

အဗူဟိုရိုင်ရဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ မည်သူမဆို ဆွေမျိုးဖြတ်ခဲ့မည်၊ သို့မဟုတ် လိမ်လည်ကျိန်ဆိုခဲ့မည်ဆိုပါက ထိုအပြစ်ဒဏ်ကို မသေမီအလျင် မြင်တွေ့

---

၁ – ကုရ်အာန် ၄၇း၂၂ – ၂၃။

၂ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် – ၁၀၂၇၂။

၃ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၅၅၅။

သွားရပေမည်။[၁]

အဗူဗက်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ အလ္လာဟ်အရှင်မြတ်သည် နောင်တမလွန်တွင် ပြစ်ဒဏ်သတ်မှတ်ထားသည့်အပြင် လောကမှာပင် ချက်ချင်းလက်ငင်း အပြစ်ပေးမည်ဖြစ်သောပြစ်ဒဏ်မှာ (၁) ကာမဂုဏ်ဖောက်ပြန်သည့်အပြစ်၊ (၂) ဆွေမျိုးအဆက်ဖြတ်ခြင်းတို့ဖြစ်သည်။[၂]

**မတ်စ်အလဟ် – (၂၉၁) ဆွေမျိုးအဆက်ဖြတ်မှုကို စတင်ပြုလုပ်သူသည် အပြစ်ကို ပို၍ ခံရမည်ဖြစ်သည်။**

အာအိရှဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ မွတ်စ်လင်မ်တစ်ဦးသည် အခြားမွတ်စ်လင်မ် တစ်ဦးအား သုံးရက်ထက်ပို၍မခေါ်မပြောဘဲနေခြင်းမပြုပိုင်ပေ။ ထို့ကြောင့် သူနှင့်တွေ့ဆုံသောအခါ သုံးကြိမ်စလာမ်ပေးပါ။ သုံးကြိမ်လုံးတွင် စလာမ် မတုန့်ပြန်ပါက အဆက်ဖြတ်ခြင်း၏အပြစ်ဒဏ်ကို သူတစ်ဦးတည်းသာခံရ မည်ဖြစ်သည်။

**မတ်စ်အလဟ် – (၂၉၂) မွတ်စ်လင်မ်ညီနောင်တစ်ဦးအား သုံးရက်ထက် ပို၍ အဆက်အသွယ်ဖြတ်တောက်ထားပြီး ထိုအတောအတွင်း ကွယ်လွန် သေဆုံးခဲ့ပါက ငရဲသို့လားရမည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ မွတ်စ်လင်မ်တစ်ဦးသည် မိမိ၏ညီနောင်မွတ်စ် လင်မ်အား သုံးရက်ထက်ပို၍ အဆက်အသွယ်ဖြတ်တောက်ခြင်း မပိုင်ပေ။ ထိုအတောအတွင်း သေဆုံးသွားပါက ငရဲလားမည်။[၃]

၁ – ဗိုင်ဟကီကျမ်း။

၂ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၄၉၀၂။

၃ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၄၉၁၄။

**မတ်စ်အလဟ် - (၂၉၃) တစ်နှစ်တိတိ အဆက်အသွယ်ဖြတ်တောက်ထားသူ၏ ပြစ်ဒဏ်သည် လူသတ်မှုပြစ်ဒဏ်နှင့် ညီမျှပေသည်။**

အဗူခရာရှ်စုလမီ ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "မိမိ၏ မွတ်စ်လင်မ်ညီနောင်အား တစ်နှစ်အဆက်အသွယ်ဖြတ်ထားသူသည် သူ့အား သတ်သကဲ့သို့ ဖြစ်သည်။[၁]

**မတ်စ်အလဟ် - (၂၉၄) အဆက်ဖြတ်သူသည် အဆက်ဖြတ်ခြင်း၏ပြစ်ဒဏ်ကို မခံစားရသေးမချင်း ဂျန္နသ်သုခဘုံသို့ ဝင်ရောက်ရမည်မဟုတ်။**

ဂျိုဗိုင်ရ်ဗင်န်မုသ္ဂ်အင်မ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "ဆွေမျိုးအဆက်ဖြတ်သူသည် ဂျန္နသ်သုခဘုံသို့ ဝင်ရောက်ရမည်မဟုတ်။[၂]

**မတ်စ်အလဟ် - (၂၉၅) ကိယာမသ်နေ့တွင် ဆွေမျိုးတော်စပ်မှုသည် စ္ဂိရားသ်တံတား၏ ဘယ်ဘက်တွင် ရပ်နေ၍ အဆက်ဖြတ်တောက်ခဲ့သူကို ငရဲဘုံထဲ တွန်းချလိမ့်မည်။**

မှတ်ချက်။ ။ မတ်စ်အလဟ်(၁၇၉)တွင် ဟဒီးဆ်ကို ရှုစားပါကုန်။

**မတ်စ်အလဟ် - (၂၉၆) ဆွေးမျိုးတော်စပ်မှု၏တာဝန်မကျေပွန်သူများအား ကိယာမသ်နေ့တွင် လည်ပင်း၌ မြွေဆိုး ချိတ်ဆွဲခြင်းခံရမည်။**

ဂျရီးရ်ဗင်န်အဗ်ဒုလ္လာဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "ဆွေမျိုးတော်စပ်သူတစ်ဦးသည် မိမိ၏ဆွေမျိုးတော်စပ်သူထံမှ အလ္လာဟ်အရှင်မြတ်ပေးထားသည့် ဥစ္စာပစ္စည်းအနက်မှ တောင်းခံသောအခါ စေးနဲတွန့်တိုခဲ့ပါက အလ္လာဟ်အရှင်မြတ်သည် ကိယာမသ်နေ့တွင် ယှိုဂျာအ်အမည်ရှိ မြွေဆိုးတစ်ကောင်ကို

---

၁ - အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် - ၄၉၁၅။

၂ - မွတ်စ်လင်မ်ကျမ်း၊ နံပါတ် - ၂၅၅၆။

ထွက်လာစေတော်မူမည်။ ယင်းမြွေက ထိုသူ၏လည်ပင်းတွင် ရစ်ပတ်လိုက်လေမည်။[၁]



## (၁၅) လင်ယောကျာ်း၏ အမိန့်မနာခံခြင်း

**မတ်စ်အလဟ် – (၂၉၇) လင်ယောကျာ်းအား ကျေးဇူးကန်းသော အမျိုးသမီးသည် ငရဲဘုံသို့လားရမည်။**

အိဗ်နအဗ္ဗားစ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ငါကိုယ်တော်မြတ်သည် ယနေ့ ငရဲဘုံကို မြင်ကွင်းတစ်ခုတွေ့ မြင်ခဲ့ရသည်။ ထိုမြင်ကွင်းမျိုး ငါကိုယ်တော် အလျင်က မတွေ့မြင်ဘူးခဲ့ပေ။ ထိုငရဲထဲတွင် အမျိုးသမီးများကို အများဆုံးတွေ့မြင်ခဲ့သည်။ ထိုအခါ စွဟာဗဟ်တို့က မေးမြန်းကြသည်။ အို – တမန်တော်၊ အဘယ့်အတွက်ကြောင့်ပါနည်း။ တမန်တော်မြတ်က "သူမတို့၏ ကုဖ်ရ်ငြင်းဆန်မှုကြောင့်" ဟု မိန့်ကြားတော်မူလေသည်။ ကိုယ်တော့်အား မေးမြန်းကြသည်။ သူမတို့သည် အလ္လာဟ်အရှင်မြတ်အား ကုဖ်ရ်ငြင်းပယ်ကြပါသနည်း။ ကိုယ်တော်မြတ်က မိန့်ကြားတော်မူသည်။ သူမတို့သည် လင်ယောကျာ်း၏ ကျေးဇူးတရားများကို ငြင်းပယ်ကြသည်။ အကယ်၍ သင်သည် သူမအား အမြဲတမ်း ကျေးဇူးပြုနေပါလျက် သူမ မနှစ်သက်တာတစ်စုံတခုမြင်တွေ့လိုက်သည်နှင့် "ရှင် ဘယ်တုန်းက ကောင်းခဲ့လို့တုန်း" ဟု ပြောလိမ့်မည်။[၂]

**မတ်စ်အလဟ် – (၂၉၈) လင်ယောကျာ်း၏အမိန့်မနာခံသောအမျိုးသမီးကို ကောင်းကင်တမန်များက လအ်နသ်ပို့တော်မူသည်။**

၁ – သွဟ်ရာနီကျမ်း၊ တွဲ – ၂၊ စာ – ၃၂၂။
၂– မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၉၀၇။

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အမျိုးသားက ဇနီးသည်အား အိပ်ရာသို့ခေါ် သောအခါ လာဖို့ ငြင်းဆန်လျှင် ကောင်းကင်တမန်များသည် သူမအား နံနက်မိုးလင်းသည်အထိ လအ်နသ်ပို့ကြလေသည်။[၁]

**မတ်စ်အလဟ် – (၂၉၉) လင်ယောကျ်ားး၏ ကျေနပ်နစ်သက်မှုတွင် ဂျန္နသ် ရှိပြီး လင်ယောကျ်ားး၏ အမျက်ဒေါသတွင် ဂျဟန္နမ်ရှိသည်။**

ဟိုစွိုင်းန်ဗင်န် မုဟ်စွင်န် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန် တော့်၏ အဒေါ်က ကျွန်တော့်အား ပြောပြသည်။ "ငါသည် တမန်တော်မြတ် ထံသို့ ကိစ္စတစ်ခုနှင့် လာခဲ့သည်။ ကိုယ်တော်မြတ်က မေးမြန်းလေသည်။ " မည်သူနည်း၊ အိမ်ထောင်သည်လား။" ကျွန်မက ဟုတ်မှန်ကြောင်း လျှောက်ထားခဲ့သည်။ ကိုယ်တော်မြတ်က မေးမြန်းတော်မူသည်။ အသင်မ ၏ လင်ယောကျ်ားနှင့် ဆက်ဆံရေးမည်သို့ရှိပါသနည်း။ ကျွန်မက လျှောက် တင်သည်။ ကျွန်မသည် တတ်စွမ်းနိုင်သည့်အရာအားလုံးကို အစွမ်းကုန် လုပ်ပေးပါသည်။ ထိုအခါ ကိုယ်တော်မြတ်က မိန့်သည်။ အသင်မသည် သူ့ထံတွင် အဘယ်အနေအထားရှိသည်ကို ဂရုစိုက်ပါ။ သူသည် သင်မ၏ ဂျန္နသ်လည်းဟုတ်သည်၊ ဂျဟန္နမ်လည်း ဟုတ်သည်။[၂]

**ရှင်းလင်းချက်။** ။ အလ္လာဟ်နှင့် အလ္လာ့ဟ်တမန်တော်၏ အမိန့်ကို ဖီဆန်ရန်အတွက် လင်ယောကျ်ားက အမိန့်ပေးလာလျှင်မူ နာခံရန် မလို အပ်ပေ။ အဘယ့်ကြောင့်ဆိုသော် တမန်တော်မြတ် မိန့်ကြားတော်မူသည်။ "အလ္လာဟ်အရှင်မြတ်၏ အမိန့်ဖီဆန်မှုဖြစ်လာလျှင် မည်သူ၏ အမိန့်ကိုမျှ နာခံစရာမလို။

  

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၃၂၃၇။

၂ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် – ၁၉၀၂၅။

## (၁၆) လင်မယားကြားပြဿနာဖြစ်စေရန် ဇနီးအား မြှောက်ပေးခြင်း

မတ်စ်အလဟ် – (၁၀၀) ဇနီးသည်အား လင်ယောကျ်ားနှင့်ဆန့်ကျင်ရန် မြှောက်ပင့်ပေးခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "လင်ယောကျ်ားနှင့်ဆန့်ကျင်ရန် ဇနီးမိန်းမအား မြှောက်ပေးသူ၊ သခင်နှင့်ဆန့်ကျင်ရန် ကျေးကျွန်အား မြှောက်ပေးသူသည် ငါတို့အနက်မှ မဟုတ်။"[၁]

❋ ❋ ❋

## (၁၇) ဇနီးသည်၏ ဝတ္တရား မကျေပွန်ခြင်း

မတ်စ်အလဟ် – (၁၀၁) လင်ယောကျ်ားပေါ်တွင် ဇနီးသည်၏တာဝန်ရှိသကဲ့သို့ပင် ဇနီးသည်ပေါ်တွင်လည်း လင်ယောကျ်ား၏ တာဝန်များရှိသည်။



ဝင်းပြင် ထိုဇနီးမိန်းမများသည် ယောကျ်ားများ အခွင့်အရေးရသကဲ့သို့ သူမတို့လည်း ကောင်းသည့်နည်းလမ်းနှင့်အညီရကြသည်။[၂]

မတ်စ်အလဟ် – (၁၀၂) ဇနီးသည်ဝတ္တရားများကို မကျေပွန်ခြင်းသည် ဟရာမ်ဖြစ်သည်။

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ အို – အလ္လာဟ်အရှင်မြတ်၊ အားအင်ချည့်နဲ့

---

၁ – အဗူဒါဝူးဒ်ကျမ်း။

၂ – ကုရ်အာန် ၂း ၂၂၈။

သူနှစ်ဦး၏အခွင့်အရေးကိုမတရားလုပ်ခြင်းအားဟာရာမ်အဖြစ်သတ်မှတ်ပါသည်။ (၁) ဖတဆိုးကလေး၏ အခွင့်အရေးနှင့် (၂) အမျိုးသမီး၏ အခွင့်အရေးဖြစ်သည်။ [၁]

  

## (၁၈) လင်ယောကျ်ားထံမှ သွလားက်တောင်းခံခြင်း

**မတ်စ်အလဟ် – (၃၀၃) အကြောင်းမရှိဘဲ လင်ယောကျ်ားထံမှ သွလားက်တောင်းခံသောအမျိုးသမီးသည် ဂျန္နသ်သုခဘုံ၏ ရနံ့ကိုပင် ရမည်မဟုတ်။**

ဆောင်ဗားန် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ မည်သည့်အမျိုးသမီးမဆို လင်ယောကျ်ားထံမှ အကြောင်းပြချက်မရှိဘဲ သွလားက်တောင်းခံခဲ့မည်ဆိုပါက သူမအပေါ်တွင် ဂျန္နသ်၏ရနံ့သည်ပင် ဟာရာမ်ဖြစ်သွားပေသည်။ [၂]

  

## (၁၉) အမျိုးသမီး၏အနောက်ဒွါရတွင် ဆက်ဆံခြင်း

**မတ်စ်အလဟ် – (၃၀၄) ဇနီးသည်၏ အနောက်ဒွါရမှ ဆက်ဆံသူကို တမန်တော်မြတ် ﷺက လအ်နသ်ပို့တော်မူခဲ့သည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အမျိုးသမီးအား အနောက်ဒွါရတွင် ဆက်ဆံသူသည် လအ်နသ်သင့်သူဖြစ်သည်။ [၃]

**မတ်စ်အလဟ် – (၃၀၅) ဇနီးသည်အား အနောက်ဒွါရမှ ဆက်ဆံသူသည်**

---

၁ – အိဗ်နမာဂျဟ်ကျမ်း၊

၂ – သိရ်မိဇီကျမ်း၊ နံပါတ် – ၁၁၈၇။

၃ – အဗူဒါဝူးဒ်ကျမ်း။

သောင်ဗဟ်မလုပ်မချင်း အလ္လာဟ်အရှင်မြတ်၏ ရဟ်မသ်ကရုဏာတော်မှ လက်မဲ့ဖြစ်မည်။

အဗူဟိုရိုင်ရဟ် ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "အမျိုးသမီးအား အနောက်ဒွါရမှ ဆက်ဆံသောအမျိုးသားကို အလ္လာဟ်အရှင်မြတ်သည် ကရုဏာဖြင့် ရှုတော်မူမည် မဟုတ်။"[၁]



## (၂၀) တစ်ဦးထက်ပိုသောဇနီးသည်များအကြား မျှတမှုမရှိခြင်း

မတ်စ်အလဟ် - (၁၀၆) တစ်ဦးထက်ပိုသောဇနီးသည်များအကြား မျှတမှုမရှိသောသူသည် ကိယာမသ်နေ့တွင် လေဖြတ်နေသူအဖြစ်နှင့် လာရလိမ့်မည်။

အဗူဟိုရိုင်ရဟ် ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "အကြင်သူတစ်ဦးထံတွင် ဇနီးသည်နှစ်ဦးရှိပါက ထိုနှစ်ဦးအနက်မှ တစ်ဦးဘက်သို့ ယိမ်းယိုင်ခဲ့သည်ရှိသော် ကိယာမသ်နေ့တွင် သူ၏ကိုယ်ခန္ဓာကိုယ်သည် လေဖြတ်နေလိမ့်မည်။"[၂]



## (၂၁) ဟလာလဟ်လုပ်ခြင်း

မတ်စ်အလဟ် - (၁၀၇) ဟလာလဟ်လုပ်ပေးသူနှင့် ဟလာလဟ်လုပ်ခိုင်းသူ နှစ်ဦးစလုံးကို တမန်တော်မြတ် ﷺ က လအ်နသ်ပို့တော်မူခဲ့သည်။

---

၁ - အိဗ်နမာဂျဟ်ကျမ်း။

၂ - အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် - ၂၁၃၃။

အိဗ်နုမတ်စ်အူးဒ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည်ဟလာလဟ်လုပ်ခိုင်းသူနှစ်ဦးစလုံးကိုလအ်နသ်ပို့တော်မူခဲ့သည်။[၁]

  

## (၂၂) (မဟာရ်မပေးဘဲ) မိန်းကလေးအလဲအလှယ်လုပ်၍ နေကာဟ်လုပ်ခြင်း

**မတ်စ်အလဟ် – (၁၀၈) (မဟာရ်မပေးဘဲ) မိန်းကလေးအလဲအလှယ်လုပ်၍ နေကာဟ်လုပ်ခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အိဗ်နုအုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် (မဟာရ်မပေးဘဲ) မိန်းကလေးအလဲအလှယ်လုပ်၍ နေကာဟ်လုပ်ခြင်းကို တားမြစ်တော်မူခဲ့သည်။[၂]

  

## (၂၃) သူတစ်ပါးကမ်းလှမ်းထားသောသူအား ကြားဖြတ်ကမ်းလှမ်းခြင်း

**မတ်စ်အလဟ် – (၁၀၉) အမျိုးသမီးတစ်ဦးအား နေကာဟ်ကမ်းလှမ်းထားကြောင်း သိပါလျက်နှင့် ကြားဖြတ်၍ ကမ်းလှမ်းခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ်

---

၁ – သိရ်မိဇီကျမ်း၊ နံပါတ် – ၁၁၁၉။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၅၁၁၂။

ﷺမိန့်ကြားတော်မူသည်။ မိမိ၏ ညီနောင်တစ်ဦးကမ်းလှမ်းထားသော အမျိုးသမီးအား ကြားမှဖြတ်၍ မကမ်းလှမ်းလေနှင့်။”[၁]



## (၂၄) ဝလီအုပ်ထိန်းသူမပါဘဲ နေကာဟ်ထိမ်းမြားခြင်း

**မတ်စ်အလဟ် - (၁၁၀) ဝလီအုပ်ထိန်းသူ၏ ခွင့်ပြုချက် မပါဘဲ၊ ဝလီအုပ်ထိန်းသူ အသင့်ရှိမနေဘဲ နေကာဟ်ထိမ်းမြားခြင်းသည် ကြီးလေးသော အပြစ်ဖြစ်သည်။**

အဗူဟိုရိုင်ရဟ် ؓထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “အမျိုးသမီးသည် အမျိုးသမီးအား နေကာဟ်ထိမ်မြားမပေးလေနှင့်။ အမျိုးသမီးသည် (အုပ်ထိန်းသူမပါဘဲ)မိမိကိုယ်တိုင်အား နေကာဟ်မထိမ်းမြားပေးလေနှင့်။ ဇိနာမှုကျူးလွန်သောအမျိုးသမီးများသည် မိမိကိုယ်ကို နေကာဟ်ထိမ်းမြားပေးသူများ ဖြစ်ကြလေသည်။[၂]



## (၂၅) တစ်ထိုင်တည်း သွလားက်သုံးကြိမ်ပေးခြင်း

**မတ်စ်အလဟ် - (၁၁၁) တစ်ထိုင်တည်းတွင် သုံးသွလားက်ပေးသူများကို တမန်တော်မြတ် ﷺသည် အဘယ်မျှ အမျက်ဒေါသထွက်ခဲ့သနည်းဟူမှု စွဟာဗဟ်တစ်ဦးက ထိုလူအား သတ်ပစ်လိုက်ရမည်လားဟုပင် ခွင့်တောင်းခဲ့သည်။**

---

၁ - အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် - ၂၀၈၁။

၂ - အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် - ၁၅၃၆။

မဟ်မူးဒ်ဗင်န်လဗီးဒ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ မိမိ၏ဇနီးသည်အား တစ်ထိုင်တည်းမှာပင် သုံးသွလားက်ပေးလိုက်သောလူတစ်ဦးအကြောင်း တမန်တော်မြတ် ﷺ ကြားသိရသောအခါ ကိုယ်တော်မြတ်သည် အမျက်ထွက်တော်မူပြီး မတ်တတ်ရပ်ကာ " သင်တို့ကြားတွင် ငါကိုယ်တော် သက်ရှိထင်ရှားရှိနေပါလျက်နှင့် သင်တို့သည် ကျမ်းတော်မြတ်ကုရ်အာန်နှင့် ကစားနေသည်လော " ဟု မိန့်တော်မူခဲ့သည်။ ထိုအခါ လူတစ်ဦးက ထရပ်လိုက်ပြီး လျှောက်တင်သည်။ "အို - ကိုယ်တော်၊ ကျွန်တော်မျိုး သူ့အား သတ်ပစ်လိုက်ရမည်လော။[၁]

ရှင်းလင်းချက်။ တမန်တော်မြတ်သည် ထိုလူကို သတ်ရန် ခွင့်မပြုခဲ့ပါ။ သို့သော် ကိုယ်တော်မြတ် ﷺ သည် အလွန့်အလွန် ဒေါသထွက်တော်မူခဲ့ပေသည်။



## (၂၆) ဇွိဟားရ်လုပ်ခြင်း

**မတ်စ်အလဟ် - (၁၁၂) ဇနီးသည်အား မိမိ၏ မိခင်၊ နမနှင့် ခိုင်းနှိုင်းပြီး မိမိအပေါ် ဟရာမ်အဖြစ်သတ်မှတ်ခြင်းသည်လည်း ကြီးလေးသောအပြစ် ဖြစ်သည်။**

اَلَّذِيْنَ يُظٰهِرُوْنَ مِنْكُمْ مِّنْ نِّسَآىِٕهِمْ مَّا هُنَّ اُمَّهٰتِهِمْ ؕ اِنْ اُمَّهٰتُهُمْ اِلَّا الّٰٓـىِٕۡ
وَلَدْنَهُمْ ؕ وَاِنَّهُمْ لَيَقُوْلُوْنَ مُنْكَرًا مِّنَ الْقَوْلِ وَزُوْرًا ؕ وَاِنَّ اللّٰهَ لَعَفُوٌّ غَفُوْرٌ

အသင်တို့ထဲမှ အကြင်သူများသည် သူတို့၏ ဇနီး မိန်းမများကို (အသင်မသည် ကျွန်ုပ်၏ မိခင်ကဲ့သို့ ကျွန်ုပ်အပေါ်တွင် *ဟရာမ်*ဖြစ်သည်ဟု ပြောဆို) *ဇွိဟာရ်*ပြုလုပ်ကြသည်။ ထိုဇနီးမိန်းမများသည် သူတို့၏မိခင်များ

---

၁ - နစာအီကျမ်း၊ နံပါတ် - ၃၄၀၁။

မဟုတ်ပေ။ သူတို့အား မွေးဖွားခဲ့သည့်မိန်းမများပင် သူတို့၏ မိခင်များဖြစ်ကြသည်။ ထို့ပြင် အမှန်စင်စစ် သူတို့သည် စက်ဆုပ်ဖွယ် ရာစကားနှင့် မုသားစကားကို ပြောဆိုခဲ့ကြသည် အမှန်ပင်ဖြစ်သည်။ ထို့ပြင် *အလ္လာဟ်* အရှင်မြတ်သည် အလွန်ခွင့်လွှတ်တော်မူသောအရှင်၊ အလွန် လွတ်ငြိမ်းချမ်းသာခွင့်ပေးတော်မူသောအရှင် ဖြစ်တော်မူသည်။[၁]

ရှင်းလင်းချက်။ ဖွိဟားရ်လုပ်ခြင်း၏ ကဖ်ဖာရဟ်လုပ်နည်းမှာ ကျေးကျွန်တစ်ဦးကို သူကောင်းပြုရမည်။ မတတ်နိုင်ပါက နှစ်လ ဆက်တိုက် ဥပုသ်စောင့်ထိန်းရမည်။ မတတ်နိုင်ပါက ဆင်းရဲသား (၆၀)ဦးကို ကျွေးမွေးရမည်။

  

## (၂၇) "ဒိုင်ယူစ်" ဇနီးသည် ဖောက်ပြန်နေသည်ကို သိပါလျက်နှင့် မခံချင်စိတ်မဖြစ်ပေါ်သူ

**မတ်စ်အလဟ် – (၁၁၃) "ဒိုင်ယူစ်"သည် ဂျန္နသ်သို့ သွားရမည် မဟုတ်။**

အမ်မားရ်ဗင်န်ယဆားရ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "လူသုံးဦးသည် ဘယ်သောအခါမျှ ဂျန္နသ်သုခဘုံသို့ ဝင်ရောက်ရမည်မဟုတ်ပေ။ (၁) ဇနီးသည်ဖောက်ပြန်နေသည်ကို သိပါလျက်နှင့် မခံချင်စိတ်မဖြစ်ပေါ်သူ၊ (၂) ယောက်ျားရှာ၊ (၃) အရက်သေစာ စွဲနေသူတို့ဖြစ်သည်။[၂]

  

---

၁ – ကုရ်အာန် ၅၈ – ၂။

၂– သွဗ်ရာနီကျမ်း။

## (၂၈) သူစိမ်းအမျိုးသမီးနှင့် နှစ်ဦးတည်းတွေ့ဆုံခြင်း။

**မတ်စ်အလဟ် – (၁၁၄) သူစိမ်းအမျိုးသမီးနှင့် သီးသန့်တွေ့ဆုံခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အုကဗ်ဗင်နုအာမိရ် ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ သူစိမ်းအမျိုးသမီးများနှင့် နှစ်ဦးတည်းတွေ့ဆုံခြင်းမှ အသင်တို့ ရှောင်ကြဉ်ကြလေကုန်။ ထိုအခါ လူတစ်ဦးက မေးမြန်းလျှောက်ထားခဲ့သည်။ အို – ကိုယ်တော်မြတ်၊ ခဲအိုနှင့်စပ်လျဉ်းပြီး မည်သို့ အမိန့်ပေးမည်နည်း။ ကိုယ်တော်မြတ်က မိန့်ကြားတော်မူသည်။ ခဲအိုသည် သေခြင်းတရားဖြစ်သည်။[၁]

ရှင်းလင်းချက်။ "ဟမ်ဝ်" ဟူသောစကားလုံးသည် အရဗီစကားတွင် လင်ယောကျ်ားဘက်မှတော်သော အမျိုးသားတိုင်းကို ခေါ်ဆိုသည်။ ဥပမာ – လင်ယောကျ်ား၏ ညီအစ်ကို၊ ညီအစ်ကိုဝမ်းကွဲ စသည်တို့ဖြစ်သည်။

အုကဗ်ဗင်နုအာမိရ် ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "အမျိုးသားတစ်ဦးသည် အမျိုးသမီးတစ်ဦးနှင့် သီးသန့်နှစ်ကိုယ်တည်း မတွေ့ဆုံကြလေနှင့်။ ထိုသို့တွေ့ဆုံလျှင် တတိယလူမှာ ရှိုင်သွာန်ရှိနေသည်။[၂]

  

## (၂၉) အမျိုးသမီးသည် အိမ်အပြင်သို့ ဟိဂျာဗ်မပါဘဲ ထွက်ခြင်း

**မတ်စ်အလဟ် – (၁၁၅) အမျိုသမီးတစ်ဦး၏ ဟိဂျာဗ်မဝတ်ခြင်းသည်**

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၅၂၃၂။

၂ – သိရ်မိဇီကျမ်း၊ နံပါတ် – ၂၁၆၅။

ဇိနာပြန့်ပွားခြင်း၏ အကြောင်းခံဖြစ်သည်။

အဗ်ဒုလ္လာဟ်ဗင်နမတ်စ်အူးဒ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ အမျိုးသမီးဟူသည် လုံလုံခြုံခြုံထားရသောအရာဖြစ်သည်။ သူမ အပြင်သို့ထွက်သောအခါ ရှိုင်သွာန်သည် သူမအား ပို၍ ချယ်သပြသည်။ [၁]

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "လူသားပေါ်တွင် ဇိနာဟ်၏ဝေစုသည် ရေးမှတ်ထားပြီးဖြစ်ရာ သူသည် သေချာပေါက် ထိုဝေစုကို ရမည်ဖြစ်သည်။ မျက်လုံးနှစ်လုံး၏ ဇိနာမှာ ကြည့်ခြင်းဖြစ်သည်။ နားနှစ်ဖက်၏ ဇိနာမှာ နားထောင်ခြင်းဖြစ်သည်။ နှုတ်လျှာ၏ဇိနာမှာ ပြောဆိုခြင်းဖြစ်သည်။ လက်၏ဇိနာမှာ ထိကိုင်ခြင်းဖြစ်သည်။ ခြေထောက်၏ဇိနာမှာ သွားခြင်းဖြစ်သည်။ စိတ်နှလုံးသည် တက်မက်ပြီး မျှော်လင့်သည်။ အရှက်အင်္ဂါက ထိုမျှော်လင့်ချက်ကို ထောက်ခံပေးသည်။ သို့မဟုတ် ငြင်းဆန်ပေးသည်။ [၂]



## (၁၀) ယောကျ်ားက မိန်းမပုံစံ၊ မိန်းမက ယောကျ်ားပုံစံ တုခြင်း

**မတ်စ်အလဟ် – (၁၁၆) အမျိုးသားများနှင့် ဆင်တူယိုးမှား ဖြစ်အောင်လုပ်သောအမျိုးသမီးများနှင့်၊ အမျိုးသမီးနှင့် ဆင်တူယိုးမှားဖြစ်အောင်လုပ်သော အမျိုးသားများအပေါ် တမန်တော်မြတ် ﷺက လအ်နသ်ပို့တော်မူခဲ့သည်။**

အိဗ်နအဗ်ဗားစ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ်သည် အမျိုးသားများနှင့် ဆင်တူယိုးမှား ဖြစ်အောင်လုပ်သောအမျိုး

---

၁ – သိရ်မိဇီကျမ်း၊ နံပါတ် – ၁၁၇၃။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၆၅၇။

သမီးများနှင့်၊ အမျိုးသမီးနှင့်ဆင်တူယိုးမှားဖြစ်အောင်လုပ်သော အမျိုးသားများအပေါ် လအ်နသ်ပို့တော်မူခဲ့သည်။[၁]

ရှင်းလင်းချက်။ ဆင်တူးယိုးမှားလုပ်ဆောင်ခြင်းတွင် အဝတ်အစား အပြင် ဖိနပ်၊ ဆံပင်ပုံစံ၊ လှုပ်ရှားသွားလားမှု၊ ပြောဆိုဟန်၊ အမျိုးသားက ကိုယ့်ကိုယ်ကိုယ် အမျိုးသမီးနာမ်စားသုံးစွဲခြင်း၊ အမျိုးသမီးက ကိုယ်ကိုယ်ကိုယ် အမျိုးသားနာမ်စားသုံစွဲခြင်းတို့ အကျုံးဝင်သည်။ အရွယ်မရောက်သေးသော မိန်းကလေးများကို ယောကျ်ားအဝတ်အစားဝတ်ပေးခြင်း၊ ယောကျ်ားကလေးများကို မိန်းကလေးအဝတ်အစားဝတ်ပေးခြင်း၏ ပြစ်ဒဏ်ကို မိဘများခံရမည်။

**မတ်စ်အလဟ် – (၁၁၇) အမျိုးသားများနှင့်ဆင်တူယိုးမှားလုပ်သောအမျိုးသမီးများ၊ အမျိုးသမီးများနှင့် ဆင်တူယိုးမှားလုပ်သောအမျိုးသမီးများသည် ဂျန္နသ်သုခဘုံသို့ ဝင်ရမည်မဟုတ်။**

အမ်မားရ်ဗင်န်ယာစိရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “လူသုံးဦးသည် ဘယ်သောအခါမျှ ဂျန္နသ်သုခဘုံသို့ ဝင်ရောက်ရမည်မဟုတ်ပေ။ (၁) ဇနီးသည်ဖောက်ပြန်နေသည်ကို သိပါလျက်နှင့် မခံချင်စိတ်မဖြစ်ပေါ်သူ၊ (၂) ယောကျ်ားရှာ၊ (၃) အရက်သေစာ စွဲနေသူတို့ဖြစ်သည်။ လူတို့က မေးမြန်းလျှောက်ထားကြသည်။ အရက်သေစာသောက်သုံးသူကိုတော့ ကျွန်တော်တို့ သဘောပေါက်ကြပါသည်။ သို့သော် အမျိုးသားများအနက် ဒိုင်ယူးစ်ဟူသည် မည်သူပါနည်း။ ကိုယ်တော်မြတ်က မိန့်ကြားတော်မူသည်။ “မိမိ၏ ဇနီးသည်ထံ သူစိမ်းအမျိုးသား ဝင်ထွက်သွားလာနေခြင်းကို ဂရုမစိုက်သောသူ ဖြစ်သည်။ ကျွန်တော်တို့က မေးမြန်းခဲ့သည်။ အမျိုးသားများနှင့်ဆင်တူအောင်လုပ်သူဟူသည် မည်သူနည်း။ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူ

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၅၈၈၅။

သည်။ အမျိုးသားများနှင့် ဆင်တူအောင်လုပ်သူကို ခေါ်သည်။[၁]

**မတ်စ်အလဟ် -( ၁၁၈) အမျိုးသားများနှင့်ပုံစံတူလုပ်သော အမျိုးသမီးများ၊ အမျိုးသမီးများနှင့်တူဆင်အောင်လုပ်သော အမျိုးသားများသည် ငါတို့အနက်မှ မဟုတ်။**

အဗ်ဒုလ္လာဟ်ဗင်န် အမရ်ဗင်အွာစ် ﵄ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားသည်ကို ကျွန်ုပ်ကြားခဲ့သည်။ အမျိုးသားများနှင့်ပုံစံတူလုပ်သော အမျိုးသမီးများ၊ အမျိုးသမီးများနှင့်တူဆင်အောင်လုပ်သော အမျိုးသားများသည် ငါတို့အနက်မှ မဟုတ်။[၂]



## (၃၁) ကာဖိရ်များနှင့် ဆင်တူအောင်လုပ်ခြင်း

**မတ်စ်အလဟ် - (၁၁၉) ယုံကြည်ချက်များ၊ အိဗာဒသ် ခဝပ်မှုများ၊ ဝတ်စားဆင်ယင်မှုများ၊ ပွဲလမ်းသဘင်များ၊ ထုံးတမ်းဓလေ့များတွင် မွတ်စ်လင်မ်မဟုတ်သူများနှင့် တူဆင်အောင်လုပ်ခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

وَ مَنۡ یُّشَاقِقِ الرَّسُوۡلَ مِنۡۢ بَعۡدِ مَا تَبَیَّنَ لَهُ الۡهُدٰی وَ یَتَّبِعۡ غَیۡرَ سَبِیۡلِ الۡمُؤۡمِنِیۡنَ نُوَلِّهٖ مَا تَوَلّٰی وَ نُصۡلِهٖ جَهَنَّمَ ؕ وَ سَآءَتۡ مَصِیۡرًا ﴿۱۱۵﴾

ထို့ပြင် မည်သူမဆို သူ့အတွက် တရား လမ်းမှန်သည် ထင်ရှားခဲ့ပြီးနောက် *ရစူလ်* တမန်တော်ကို ဆန့်ကျင်မည်၊ ၎င်းပြင် ထိုသူသည် *အီမာန်* ယုံကြည်သူများ၏လမ်းစဉ်မှလွဲ၍အခြားလမ်းစဉ်ကိုလိုက်နာမည်ဆိုလျှင်၊ ငါအရှင်မြတ်သည် ထိုသူ့အား သူကိုယ်တိုင် လှည့်သည့်ဘက်သို့လှည့်ပေး တော်မူမည်။ ထို့နောက် ငါအရှင်မြတ်သည် ထိုသူ့အား *ဂျဟန္နမ်* ငရဲ

---

၁ - ဗိုင်ဟကီကျမ်း။

၂ - မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် - ၆၈၇၅။

ဘုံထဲသို့ ထည့်သွင်းတော်မူမည်။ ထို့ပြင် ထို*ဂျဟန္နမ်* ငရဲဘုံသည် အလွန်ယုတ်ညံ့သော ပြန်လည်ရာစခန်းဖြစ်သည်။[၁]

အိဗ်နုအုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အခြားသောလူမျိုးများနှင့် ပုံစံတူအောင်လုပ်သောသူသည် ထိုအုပ်စုအနက်မှ ဖြစ်မည်။[၂]



## (၃၂) အိမ်နီးချင်းကို ဒုက္ခပေးခြင်း

**မတ်စ်အလဟ် – ( ၃၂၀) အိမ်နီးချင်းကို ဒုက္ခပေးသောသူသည် ဂျန္နသ်သို့ သွားရမည်မဟုတ်ပေ။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ အိမ်နီးချင်းအား ဒုက္ခပေးသောသူသည် ဂျန္နသ်သို့ ဝင်ရောက်ရမည်မဟုတ်။[၃]

**မတ်စ်အလဟ် – (၃၂၁) အိဗာဒသ်များမြောင်စွာ လုပ်သူဖြစ်ပါလျက် အိမ်နီးချင်းကို ဒုက္ခပေးသောအမျိုးသမီးသည် ဂျဟန္နမ်ငရဲသို့ ဝင်ရောက်ရသည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ ပုဂ္ဂိုလ်တစ်ဦးက မေးမြန်းလျှောက်ထားခဲ့သည်။ အို – တမန်တော်၊ မည်သူမည်ဝါအမျိုးသမီးကြီးသည်၊ စွလာသ်ဆောက်တည်ခြင်း၊ စွောင်ဥပုသ်စောင့်ထိန်းခြင်း၊ စွဒကဟ်အလှူဒါနပေးခြင်းတို့ကို ကောင်းစွာပြုလုပ်ပါသည်။ သို့သော် သူမသည် အိမ်နီးချင်းများကို နှုတ်လျှာဖြင့် ဒုက္ခပေးပါသည်။ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ "သူမသည် ငရဲလားရမည်။" ထိုပုဂ္ဂိုလ်က မေးမြန်းသည်။ "မည်သူမည်ဝါအမျိုးသမီးသည် စွလာသ်ဝတ်ပြုခြင်း၊ စွောင်မ်ဥပုသ်စောင့်ထိန်းခြင်းနှင့် စွဒကဟ်အလှူဒါနပေးခြင်းတို့ကို များစွာ

၁ – ကုရ်အာန် ၄း ၁၁၅။
၂ – အဗူဒါဝူဒ်ကျမ်း၊နံပါတ် – ၄၀၃၁။
၃ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် – ၄၆။

မပြုလုပ်နိုင်ပါ၊ ဒိန်ခဲအနည်းငယ်ကိုသာ စွဒကဟ်အလှူဒါနပေးနိုင်သည်။ သို့သော် သူမသည် အိမ်နီးချင်းများကို ဒုက္ခမပေးပေ။ ကိုယ်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ "သူမသည် ဂျန္နသ်သုခဘုံသို့သွားရမည်။" [1]

**မတ်စ်အလဟ် – (၃၂၂) ဆာလောင်နေသောအိမ်နီးချင်းကို ဂရုမစိုက်သော သူသည် ပြည့်ဝသောမုအ်မင်န်မဖြစ်နိုင်။**

အနတ်စ်ဗင်န်မာလိက် رضي الله عنهထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြာတော်မူသည်။ "ကိုယ်တိုင် ဝမ်းဝအောင်စားပြီး အိမ်နီးချင်း ငတ်မွတ်နေသည်ကိုသိပါလျက် မကျွေးမွေးသူသည် ငါကိုယ်တော့်ကို အီမာန်ယုံကြည်သူမဟုတ်။[2]

**မတ်စ်အလဟ် – (၃၂၃) အိမ်၏ နံရံတံတိုင်းမှ အိမ်နီးချင်းအား အကျိုးခံစားခွင့်မပေးခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အိဗ်နအဗ်ဗားစ် رضي الله عنهထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ အသင်တို့တစ်ဦးတစ်ယောက်သည် မိမိခြံစည်းရိုးပေါ်တွင် အိမ်နီးချင်း၏ သစ်ကိုင်းတင်ခြင်းကို မတားမြစ်လေနှင့်။[3]



## (၃၃) သူတော်စင်များကို အမုန်းစိတ်ထားခြင်း

**မတ်စ်အလဟ် – (၃၂၄) စစ်မှန်သောသာသနာ့ပညာရှင်များကို သတ်ဖြတ်သောသူအတွက် ပြင်းထန်သောပြစ်ဒဏ်၏ သတင်းကောင်းရှိပေသည်။**

---

၁ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် – ၉၆၇၅။

၂ – သွဗ်ရာနီကျမ်း၊ နံပါတ် – ၇၅၄။

၃ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၂၃၃၇။

إِنَّ الَّذِينَ يَكْفُرُونَ بِآيَاتِ اللَّهِ وَيَقْتُلُونَ النَّبِيِّينَ بِغَيْرِ حَقٍّ وَيَقْتُلُونَ الَّذِينَ يَأْمُرُونَ بِالْقِسْطِ مِنَ النَّاسِ فَبَشِّرْهُم بِعَذَابٍ أَلِيمٍ ﴿٢١﴾

အမှန်စင်စစ် အကြင်သူများသည် *အလ္လာဟ်*အရှင်မြတ်၏ *အာယသ်*တော်များကို ငြင်းပယ်ကြသည်။ ၎င်းပြင် သူတို့သည် *နဗီ*တမန်တော်များအား မတရားသတ်ဖြတ်ကြသည်။ ၎င်းပြင် လူများထဲမှ တရားမျှတမှုပြုလုပ်ရန် ညွှန်ကြားသောသူများကိုလည်း သတ်ဖြတ်ကြသည်။ သို့ဖြစ်ရာ အသင်သည် ထိုသူများအား အလွန်နာကျင်စေသော အပြစ်ဒဏ်ဖြင့် သတင်းပေးလိုက်ပါ။[၁]

**မတ်စ်အလဟ် – (၃၂၅) သူတော်စင် သူတော်ကောင်းများကို မုန်းတီးစိတ်ထားသူများကို အလ္လာဟ်အရှင်မြတ်က စစ်ကြေညာတော်မူသည်။**

အဗူဟိုရိုင်ရဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မည်သူမဆို ငါအရှင်မြတ်၏ သူတော်စင်များကို ရန်မူခဲ့ပါက ငါအရှင်မြတ်သည် ထိုသူအား စစ်ကြေညာတော်မူသည်။ ငါအရှင်မြတ်၏ ကျေးကျွန်သည် ငါအရှင်မြတ်ထံသို့ အိဗာဒသ်ဖြင့်ချဉ်းကပ်မှုများတွင် ဖရဇ်အိဗာဒသ်ထက်ပို၍ ငါအရှင်နှစ်သက်သောအရာမရှိပါ။ ငါအရှင်၏ ကျေးကျွန်သည် နဖိလ်အိဗာဒသ်များဖြင့် အစဉ်အမြဲ ငါအရှင့်ထံ ချဉ်းကပ်သည်ရှိသော် ငါအရှင်သည် သူ့အား ချစ်ခင်သွားတော်မူသည်။ ငါအရှင် ချစ်ခင်သွားတော်မူသောအခါ ငါအရှင်သည် သူကြားသောနား ဖြစ်သွားသည်။ သူကြည့်သော မျက်လုံးဖြစ်သွားသည်။ သူကိုင်သောလက်ဖြစ်သွားသည်။ သူလျှောက်သောခြေဖြစ်သွားသည်။ ငါအရှင်မြတ်ထံ သူတောင်းခံလျှင် ငါအရှင် မုချ ပေးတော်မူမည်။ ငါအရှင့်ထံ ခိုလှုံခွင့်တောင်းလျှင် ငါအရှင် မုချ ခိုလှုံခွင့်ပေးတော်မူမည်။[၂]

---

၁ – ကုရ်အာန် ၃း ၂၁။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၆၀၅၂။

**ရှင်းလင်းချက်။** "ငါအရှင်သည် သူကြားသောနားဖြစ်သွားသည်။ သူကြည့်သော မျက်လုံးဖြစ်သွားသည်။ သူကိုင်သောလက်ဖြစ်သွားသည်။ သူလျှောက်သောခြေဖြစ်သွားသည်။"၏အလိုသဘောမှာ ငါအရှင်ချစ်သွားသောအခါ ကျေးကျွန်သည် ငါအရှင်ကြားစေသောအရာကိုသာ ကြားသည်။ ငါအရှင် မြင်တွေ့စေသောအရာကိုသာ သူမြင်သည်။ ငါအရှင် ခွင့်ပြုသော အရာကိုသာ လူ့လက်က ကိုင်မည်။ ငါအရှင်ခွင့်ပြုသောအရာဘက်သို့သာ သူ့ခြေထောက်က ခြေလှမ်းမည်ဖြစ်သည်။

## (၃၄) အခိုင်းစေကို မတရားအနိုင်ကျင့်ခြင်း

**မတ်စ်အလဟ်-(၁၂၆)အခိုင်းစေ၏ အမှားလုပ်ခြင်းအပေါ် အပြစ်ပေးသူ သည် ငရဲဘုံသို့သွားရမည်။**

အဗူမတ်စ်အူးဒ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ "ကျွန်တော် သည် ကျွန်တော့်၏ ကျေးကျွန်အား ကြိမ်ဒဏ်ဖြင့် အပြစ်ပေးနေခဲ့သည်။ ကျွန်တော်သည် အနောက်ဘက်မှ "အို-အဗူမတ်စ်အူဒ်၊ အသင် သိလိုက် ပါ"ဟု ခေါ်သံကို ကြားလိုက်ရသည်။ ကျွန်တော်သည် ဒေါသဖြစ်နေသော ကြောင့် အသံကို မမှတ်မိနိုင်ခဲ့ပေ။ အသံသည် နီးကပ်လာသောအခါမျှ တမန်တော်မြတ် ﷺ ဖြစ်နေမှန်းသိလိုက်ရမည်။ ကိုယ်တော်က ဆက်ပြော နေသည်။ အို-အဗူမတ်စ်အူဒ်၊ အသင် သိလိုက်ပါ၊ အို-အဗူမတ်စ်အူဒ်၊ အသင်သိလိုက်ပါ။ ကျွန်တော်သည် လက်ထံမှ ကြာပွတ်ကို လွှတ်ချလိုက် သည်။ ထိုအခါ ကိုယ်တော်မြတ်က မိန့်တော်မူသည်။ အို-အဗူမတ်စ်အူဒ်၊ အသင်မှတ်သားလော့၊ ဤကျေးကျွန်ကို အသင်တတ်စွမ်းနိုင်သည်ထက် အလ္လာဟ်အရှင်မြတ်သည် အသင့်ကို ပို၍ နိုင်နင်းလွှမ်းမိုးတော်မူသည်။ ကျွန်တော်က လျှောက်တင်သည်။ ကျွန်တော်သည် ဘယ်သောအခါမျှ ကျေးကျွန်ကို ရိုက်မည်မဟုတ်တော့ပါ။ အခြားဆင့်ပြန်ချက်တွင် လာရှိ သည်။ ကျွန်တော်က လျှောက်တင်သည်။ အို-အလ္လာ့ဟ်တမန်တော်၊

အလ္လာဟ်အရှင်မြတ်နစ်သက်မှုအတွက် ထိုကျေးကျွန်ကို သူကောင်းပြု လိုက်ပါပြီ။ ကိုယ်တော်မြတ်က မိန့်ကြားတော်မူသည်။ အသင် ထိုသို့မလုပ် လျှင် အသင့်အား ငရဲမီးထိလိမ့်မည်။[၁]



## (၃၅) ဝင်ခွင့်မတောင်းဘဲ အိမ်ထဲသို့ ဝင်ခြင်း

**မတ်စ်အလဟ်(၃၂၇)လူတစ်ဦး၏တစ်သီးပုဂ္ဂလအချိန်တွင် ချောင်းမြောင်း ခြင်း၊ အခွင့်မရှိဘဲ တစ်ဦးတစ်ယောက်၏ အိမ်သို့ ဝင်ရောက်ခြင်းတို့သည် ကြီးလေးသောအပြစ်ဖြစ်သည်။**

စဟာလ်ဗင်နစအဒ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ လူတစ်ဦး သည် တမန်တော်မြတ် ﷺ၏ အခန်းအတွင်းသို့ အပေါက်မှ ချောင်းမြောင်း ခဲ့သည်။ ထိုအချိန် တမန်တော်မြတ်၏လက်ထဲတွင် ဦးခေါင်းကို ကုတ်သော ကုတ်တံတစ်ချောင်းရှိသည်။ တမန်တော်မြတ် ﷺက မိန့်တော်မူခဲ့သည်။ "အသင် ချောင်းကြည့်နေသည်ကိုသာ ကျွန်ုပ်တွေ့မြင်ခဲ့လျှင် ဤကုတ်တံ ဖြင့် အသင့်မျက်လုံးကို ထိုးပစ်တော်မူမည်။ ခွင့်တောင်းရန် အမိန့်ပေးထား ခြင်းမှာ မမြင်သင့်မမြင်အပ်သည်များကို မမြင်တွေ့စေရန်အတွက်ပင် ဖြစ် ပေသည်။[၂]

**မတ်စ်အလဟ် - (၃၂၈) ခွင့်မရှိဘဲ အိမ်အတွင်းသို့ ချောင်းကြည့်သူ၏ မျက်လုံးကို ထိုးဖောက်လိုက်သည်ရှိသော် လျော်ကြေးပေးရန်မလိုပေ။**

အဗူဟိုရိုင်ရဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ အဗူဟိုရိုင်ရဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်တော်သည် တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်ကို ကြားခဲ့သည်။ မည်သူမဆို လူတစ်စု၏ ခွင့်ပြု

---

၁ - မွတ်စ်လင်မ်ကျမ်း၊ နံပါတ် - ၁၆၅၉။

၂ - ဗုခါရီကျမ်း၊ နံပါတ် - ၆၂၄၁။

ချက်မပါဘဲ သူတို့၏အိမ်အတွင်းသို့ ချောင်းကြည့်ခဲ့သောကြောင့် သူတို့က သူ့မျက်လုံးကို ထိုးဖောက်ခဲ့ကြလျှင် သူ၏ မျက်လုံးအတွက် အစားလျော် ကြေးပေးဆောင်ရန်မလို။[၁]



## (၃၆) သားသမီးက မိဘကို မုန်းတီးခြင်း

**မတ်စ်အလဟ် – (၃၂၉) မိမိ၏ ဖခင်ကို မုန်းတီးခြင်းသည် ကြီးလေးသော အပြစ်ဖြစ်သည်။**

အဗူဟိုရိုင်ရဟ် ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် မိန့်ကြားတော်မူသည်။ “မိမိတို့၏ ဖခင်များဘက်မှ မျက်နှာမလွှဲကြ လေနှင့်။ မိမိ၏ ဖခင်ဘက်မှ မျက်နှာလွှဲသူသည် ကုဖ်ရ်ကျူးလွန်သူ ဖြစ် သည်။[၂]

**မတ်စ်အလဟ် – (၃၃၀) အဖေအရင်းမဟုတ်သူအား အဖေဟု ပြောသူ သည် ဂျန္နသ်သို့ ဝင်ရမည်မဟုတ်။**

စအဒ် နှင့် အဗူဗက်ရဟ် တို့နှစ်ဦးထံမှ ဆင့်ပြန်ချက်လာရှိ သည်။ သူတို့နှစ်ဦးစလုံးက ပြောကြသည်။ တမန်တော်မြတ် မိန့်ကြား တော်မူသည်ကို ကျွန်ုပ်တို့နားက ကြားခဲ့ပြီး ကျွန်ုပ်တို့၏ နှလုံးသားက ကျက် မှတ်ခဲ့သည်။ “မည်သူမဆို သိပါလျက်နှင့် မိမိ၏ ဖခင်မဟုတ်သူအား မိမိ၏ ဖခင်ပါဟု ကြွေးကြော်လျှင် ဂျန္နသ်သုခဘုံသည် သူ့အပေါ်တွင် ဟရာမ်ဖြစ် မည်။[၃]



---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၅၁၇၂။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၆၂။

၃ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၆၁။

## (၃၇) ဆွေးမျိုးဂုဏ်ဖြင့် ဂုဏ်မောက်ခြင်း

**မတ်စ်အလဟ် – (၃၃၁) ဆွေးမျိုးဂုဏ်ဖြင့် ဂုဏ်မောက်သောသူသည် ငရဲဘုံ၏ လောင်စာဖြစ်လိမ့်မည်။**

အဗူဟိုရိုင်ရဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အမိုက်ခေတ်၏ မောက်မာပလွှားမှုများနှင့် ဆွေမျိုးဂုဏ်မောက်မှုများကို ပယ်ဖျက်တော်မူလိုက်လေပြီ။ ယခုမူ မုအ်မင်န် မုသ်သကီနှင့်၊ ဖာဂျိရ် လူဆိုး ဟူ၍ နှစ်မျိုးသာရှိပေသည်။ အသင်တို့အားလုံးသည် အာဒမ်၏ သားသမီးများဖြစ်သည်။ အာဒမ်သည် မြေကြီးမှ ဖြစ်တည်လာသည်။ ထို့ကြောင့် လူမျိုးဂုဏ်ကြောင့် မောက်မာနေသူများသည် ထိုမောက်မာမှုကို စွန့်လွှတ်လိုက်ကြကုန်။ အမှန်စင်စစ်တွင် သူတို့သည် ငရဲဘုံ၏မီးသွေးများဖြစ်သည်။ သို့မဟုတ်ပါက သူတို့သည် အလ္လာဟ်ထံတွင် အညစ်အကြေးကို နှာခေါင်းဖြင့် တွန်းနေသော နွားချေးပိုးထက်ပင်ပို၍ သေးသိမ်ကြလိမ့်မည်။[၁]

**မတ်စ်အလဟ် – (၃၃၂) မိမိ၏ ဆွေးမျိုးဂုဏ်ဖြင့် မောက်မာပြီး အခြားသူများ၏ ဆွေးမျိုးဂုဏ်ကို စော်ကားခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အဗူဟိုရိုင်ရဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "လူတို့တွင် အချက်နှစ်ချက်သည် ကုဖ်ရ် ဖြစ်သည်။ (၁) ဆွေးမျိုးတော်စပ်မှုကို ထိပါးစော်ကားခြင်း၊ (၂) သေသူအပေါ် အော်ဟစ်ငိုကြွေးကာ ငိုချင်းချခြင်းတို့ ဖြစ်သည်။[၂]

  

---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၅၁၁၆။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၆၇။

## (၃၆) လွတ်လပ်သောသူအား ရောင်းစားခြင်း

**မတ်စ်အလဟ် – (၃၃၃) လွတ်လပ်သောသူကို ရောင်းစားသူအား ကိယာမသ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် ရန်သူကဲ့သို့ ဆက်ဆံတော်မူမည်။**

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "အလ္လာဟ်အရှင်မြတ်က မိန့်ကြားတော်မူသည်။ ကိယာမသ်နေ့တွင် ငါအရှင်မြတ်သည် လူသုံးဦးအား တရားစွဲတော်မူမည်။ (၁) ငါအရှင်မြတ်၏ နာမတော်ဖြင့် ကတိပေးပြီး ကတိဖောက်ဖျက်သူ၊ (၂) လွတ်လပ်သောသူအား ရောင်းစားသူ၊ (၃) အလုပ်သမားအား အလုပ်အပြည့်အဝခိုင်းစေပြီး လုပ်အားခမပေးသူတို့ ဖြစ်ကြသည်။[၁]



## (၃၉) လူနှစ်ဦး၏ကြားတွင် ခွင့်ပြုချက်မရှိဘဲ ဝင်ထိုင်ခြင်း

**မတ်စ်အလဟ် – (၃၃၄) ခွင့်ပြုချက်မရှိဘဲ လူနှစ်ဦး၏ကြားတွင် ဝင်ထိုင်ခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အဗ်ဒုလ္လာဟ်ဗင်န်အမရ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "လူတစ်ဦးအဖို့ ခွင့်ပြုချက်မရှိဘဲ လူနှစ်ဦးအကြားတွင် ဝင်ထိုင်ခွင့်မရှိပေ။[၂]



---

၁ – ဗုခါရီကျမ်း၊ နံပါတ် ၂၂၂၇။

၂ – သိရ်မိဇီကျမ်း၊ နံပါတ် – ၂၇၅၂။

## (၄၀) အမျိုးသမီးသည် သူစိမ်းအမျိုးသားနှင့် ခရီးထွက်ခြင်း

**မတ်စ်အလဟ် – (၁၃၅) အမျိုးသမီးတစ်ဦးသည် သူစိမ်းအမျိုးသားနှင့်အတူ ခရီးထွက်ခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အိဗ်နအဗ္ဗားစ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အမျိုးသားတစ်ဦးသည် အမျိုးသမီးတစ်ဦးနှင့် နှစ်ကိုယ်တည်း မတွေ့ဆုံလေနှင့်၊ အမျိုးသမီးတစ်ဦးသည် မိမိနှင့် နေကဟ် ဟာရာမ်ဖြစ်သောမဟ်ရာမ် မပါဘဲနှင့် ခရီးမထွက်လေနှင့်။"[၁]

အိဗ်နအဗ္ဗားစ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်ုပ်သည် တမန်တော်မြတ် ﷺခွသ်ဗဟ်မိန့်ကြားသည်ကို ကြားခဲ့သည်။ "အမျိုးသား တစ်ဦးသည် အမျိုးသမီးတစ်ဦးအား မဲဟ်ရာမ်တစ်ဦးမပါဘဲ နှစ်ကိုယ်တည်း မတွေ့ဆုံလေနှင့်။ အမျိုးသမီးတစ်ဦးသည် မဲဟ်ရာမ်မပါဘဲ ခရီးမသွားလေ နှင့်။ ထိုအခါ ပုဂ္ဂိုလ်တစ်ဦးက ထရပ်လိုက်သည်။ အို – တမန်တော်၊ ကျွန် တော်မျိုး၏ ဇနီးသည် ဟဂ်ျလုပ်ရန်ထွက်သွားပါသည်။ ကျွန်တော်ကမူ အဘာယ် အဘာယ်စစ်ပွဲတွင်လိုက်ပါရန် နာမည်စာရင်းပေးပြီးသွားပါပြီ။ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ "အသင် သွားလိုက်ပါ။ အသင့်ဇနီးနှင့်အတူ ဟဂ်ျပြုလုပ်ပါ။"[၂]

  

---

၁ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် – ၁၉၃၄။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၃၄၁။

# အုပ်ချုပ်မှုပိုင်းနှင့်ဆိုင်သော ပြစ်မှုများ

## (၁) တိုင်းသူပြည်သားများအား လိမ်ပြောခြင်း

မတ်စ်အလဟ် – (၁၃၆) မိမိ၏ တိုင်းသူပြည်သားများအား လိမ်ညာသော အုပ်ချုပ်သူသည် ကိယာမသ်နေ့တွင် အပြစ်ဒဏ်လေးမျိုးကို ခံစားရမည်။
(၁) အလ္လာဟ်အရှင်မြတ်သည် သူ့အား စကားပြောတော်မူမည်မဟုတ်။
(၂) အလ္လာဟ်အရှင်မြတ်သည် သူ့အား သန့်ပြန့်စင်ကြယ်အောင် လုပ်တော်မူမည်မဟုတ်။
(၃) အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ လက်မဲ့ဖြစ်မည်။
(၄) ငရဲဘုံတွင် ပြင်းထန်သောပြစ်ဒဏ်ကို ခံရမည်။

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "ကိယာမသ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် လူသုံးဦးကို စကားပြောတော်မူမည်မဟုတ်။ သူတို့ဘက်သို့ ကြည့်မည်လည်းမဟုတ်။ သူတို့အတွက် ပြင်းထန်သောအပြစ်ဒဏ်ရှိပေသည်။ (၁) ဇိနာကျူးလွန်သော အသက်အရွယ်ကြီးရင့်သူ၊ (၂) လိမ်လည်သော အုပ်ချုပ်သူ၊ (၃) မောက်မာပလွှားသော သူဆင်းရဲတို့ ဖြစ်သည်။"[၁]



## (၂) အုပ်ချုပ်သူက ပြည်သူများ၏ အခွင့်အရေးများကို အလွဲသုံးစားလုပ်ခြင်း

မတ်စ်အလဟ် – (၁၃၇)တိုင်းသူပြည်သားများ၏ လောကီ၊ လောကုတ္တရာ နှစ်ခုစလုံးနှင့်ဆိုင်သော အခွင့်အရေးများကို အလွဲသုံးစားလုပ်သော အုပ်

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၀၇။

ချုပ်သူသည် ဂျဟာန္နမ်လားရမည်။

မအ်ကိလ်ဗင်န် ယစား၍ ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်ကို ကြွန်ုပ်ကြားခဲ့သည်။ "အကြင်မည်သူကိုမဆို အလ္လာဟ်အရှင်မြတ်က ပြည်သူများအား အုပ်ချုပ်ခွင့်ပေးထားသည်၊ ထိုသူသည် ပြည်သူလူထုအား သစ္စာမဲ့သူအဖြစ်နှင့် သေဆုံးခဲ့မည်ဆိုပါက အလ္လာဟ်အရှင်မြတ်သည် ထိုသူ့အပေါ် ဂျန္နသ်သုခဘုံအား ဟာရာမ်သတ်မှတ်တော်မူသည်။"[၁]

**ရှင်းလင်းချက်။** အုပ်ချုပ်သူတစ်ဦးသည် မိမိလက်အောက်ငယ်သားများအား လောကီလောကုတ္တရာရေး နှစ်ခုစလုံးကို ကောင်းမွန်အောင်လုပ်ပေးရန်တာဝန်ရှိသည်။ အကယ်၍အုပ်ချုပ်သူသည် လက်အောက်ငယ်သားများ၏ သာသနာရေးကို ဖျက်ဆီးမည်၊ ရှရီအသ်တရားတော်၏ အမိန့်များကို စွန့်လွှတ်မည်၊ လက်အောက်ငယ်သားများ၏ အသက် အိုးအိမ်စည်းစိမ်ကို စောင့်ရှောက်မှုမပြု၊ သူတို့အပေါ် မတရားနှိပ်စက်ခြင်းများ ပြုလုပ်ခဲ့သည်ရှိသူ ထိုအုပ်ချုပ်သူသည် မိမိ၏ ဖရဇ်တာဝန်ကို မကျေပွန်ရာ ရောက်သည်။ မိမိ၏ ဖရဇ်တာဝန်တွင် သစ္စာမဲ့ရာရောက်သည်။[၂]

**မတ်စ်အလဟ် – (၁၃၈) လက်အောက်ငယ်သားများကို သစ္စာမဲ့သောအုပ်ချုပ်သူသည် အကြီးမားဆုံးသောသစ္စာမဲ့သူ ဖြစ်သည်။**

အဗူစအီးဒ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ကိယာမသ်နေ့တွင် သစ္စာမရှိသူတိုင်းအတွက် သူ၏ သစ္စာမဲ့မှုနှင့်အညီ အလံတစ်ခု လွှင့်ထူထားမည်။ မှတ်သားကြကုန်၊ မိမိ၏ လက်အောက်ငယ်သားများအား သစ္စာမဲ့သောအာဏာပိုင်ထက်ပို၍ ကြီးမားသောသစ္စာမဲ့သူ မည်သူမျှရှိမည်မဟုတ်။"[၃]

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၄၂။

၂ – နဝဝီ။

၃ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၇၃၈။

## (၃) အုပ်ချုပ်သူက လူတို့အား မတရားညှင်းပန်းနှိပ်စက်ခြင်း

**မတ်စ်အလဟ် – (၃၃၉) ပြည်သူလူထုပေါ်မတရားနှိပ်စက်သောအုပ်ချုပ်သူများအပေါ် နံနက်ညနေ အလ္လာဟ်အရှင်မြတ်၏ အမျက်တော်သင့်ပေသည်။**

အဗူအိုမာမဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "နောက်ဆုံးခေတ်အခါသမယများတွင် ဤအွမ္မသ်အတွင်း၌ နွားအမြီးကဲ့သို့သောကြိမ်များကိုင်ဆောင်ထားသော အုပ်ချုပ်သူများ လွှမ်းမိုးလိမ့်မည်။ သူတို့သည် အလ္လာဟ်အရှင်မြတ်၏ အမျက်ဒေါသတွင် နံနက်မိုးလင်းလာကြပြီး၊ အလ္လာဟ်အရှင်မြတ်၏ အမျက်ဒေါသတွင် ညနေခင်းသို့ရောက်ကြသည်။"[၁]

**မတ်စ်အလဟ် – (၃၄၀) မတရားနှိပ်စက်သောအုပ်ချုပ်သူများကို အလ္လာဟ်အရှင်မြတ်က မုန်းတီးတော်မူသည်။**

အဗူဟိုရိုင်ရဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "လူလေးဦးကို အလ္လာဟ်အရှင် ရွံရှာမုန်းတီးတော်မူသည်။ (၁) လိမ်လည်ကျိန်ဆိုပြီး အရောင်းအဝယ်လုပ်သူ၊ (၂) မောက်မာပလွှားသော သူဆင်းရဲ၊ (၃) ဇိနာကျူးလွန်သော အသက်ကြီးရင့်သူ၊ (၄) မတရားနှိပ်စက်သော အုပ်ချုပ်သူများ ဖြစ်ကြသည်။"[၂]

**မတ်စ်အလဟ် – (၃၄၁) ပြည်သူလူထုကို မတရားနှိပ်စက်သော၊ ပြည်သူလူထု၏ အခွင့်အရေးများကို မတရာသိမ်းသောအုပ်ချုပ်သူသည် တမန်တော်မြတ် ﷺ၏ ရှဖာအသ်အာသနားခံပေးမှုမှ လက်မဲ့ဖြစ်လိမ့်မည်။**

---

၁ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ ဟာကိင်မ်ကျမ်း၊ သွဗ်ရာနီကျမ်း။

၂ – နစာအီကျမ်း၊ နံပါတ် – ၂၅၇၆။

အဗူအိုမာမဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “ငါကိုယ်တော်၏ အွမ္မသ်နောက်လိုက်သား များတွင် အုပ်စုနှစ်မျိုးသည် ငါကိုယ်တော်၏ ရှဖာအသ်အသနားခံပေးမှုကို ရကြလိမ့်မည်မဟုတ်ပေ။ (၁) မတရားနိုပ်စက်သော၊ မတရားလုယူသိမ်း ပိုက်သော အုပ်ချုပ်သူ၊ (၂) သာသနာတွင် အစွန်းရောက်ပြီး သာသနာမှ ထွက်သွားသူတို့ ဖြစ်ကြသည်။”[၁]

  

# (၄) အလ္လာဟ်အရှင်မြတ်၏ သတ်မှတ်ချက် စည်းမျဉ်းဥပဒေများကို အဟန့်အတားလုပ်သူ

**မတ်စ်အလဟ် – (၃၄၂) ဟုဒူးဒ်ခေါ် အလ္လာဟ်အရှင်မြတ်သတ်မှတ်ထား သောပြစ်ဒဏ်များကို အကောင်အထည်ဖော်ခြင်းမှ ဟန့်တားသူအပေါ် အလ္လာဟ်အရှင်မြတ်၊ ကောင်းကင်တမန်များနှင့် အီမာန်ရှင်အားလုံး၏ လအ်နသ်ကျပေသည်။**

**မတ်စ်အလဟ် – (၃၄၃)ဟုဒူးဒ်ခေါ် အလ္လာဟ်အရှင်မြတ်သတ်မှတ်ထား သောပြစ်ဒဏ်များကို အကောင်အထည်ဖော်ခြင်းမှ ဟန့်တားသူ၏ ဖရဇ်နှင့် နဖိလ်အိဗာဒသ်များ လက်ခံခြင်းမခံရပေ။**

အိဗ်နအဗ္ဗားစ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “အကြင်မည်သူမဆို လူအုပ်တွင် အသတ်ခံရ မည်၊ သို့မဟုတ် အချင်ချင်း ကျောက်ခဲများ၊ ကြိမ်များ၊ တုတ်များဖြင့် ပစ်ခြင်းကြောင့် အသတ်ခံရမည်ဆိုပါက ထိုလူသတ်မှု၏ ပြစ်ဒဏ်သည် မှား ယွင်းပြီး သတ်မိသည့်ပြစ်ဒဏ်ဖြစ်မည်။ မည်သူမဆို တမင်သက်သက်

၁ – သွဗ်ရာနီကျမ်း၊ နံပါတ် – ၈၀၇၉။

လုပ်ကြံအသတ်ခံရလျှင် ကိစ္စားစ် – အသေစားအသေစေ အမိန့်ချရမည်။ ထိုကိစ္စားစ် အသေစားအသေစေအမိန့်ချခြင်းမှ အဟန့်အတားလုပ်သူ အပေါ် အလ္လာဟ်အရှင်မြတ်၊ ကောင်းကင်တမန်များနှင့် လူသားအားလုံး၏ လအ်နသ်ကျရောက်ပေမည်။ သူတို့ပြုလုပ်သော ဖရ်ဇ်ဖြစ်စေ၊ နဖိလ်ဖြစ်စေ မည်သည့်အိဗာဒသ်ကိုမျှ အလ္လာဟ်အရှင်မြတ် လက်ခံတော်မူမည်မဟုတ်ပေ။[၁]

**မတ်စ်အလဟ် – (၃၄၄)အလ္လာဟ်အရှင်မြတ်သတ်မှတ်ထားသော စည်းမျဉ်းဥပဒေများ အကောင်အထည်ဖော်ဆောင်ရာတွင် ဟန့်တားသောသူများသည် ပျက်စီးသွားကြရသည်။**

အာအိရှဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺရှိစဉ်အခါက မက္ကာဟ်မြို့အောင်နိုင်သောနှစ်တွင် ခိုးမှုကျူးလွန်ခဲ့သော အမျိုးသမီးတစ်ဦးကိစ္စကြောင့် ကုရိုင်းရှ်မျိုးနွယ်ဝင်များသည် ပူပန်သောက ရောက်ခဲ့ကြသည်။ သူတို့က "သူမနှင့်ပတ်သက်ပြီး ကိုယ်တော်မြတ် ﷺ အား မည်သူ သွားစကားပြောမည်နည်း" ဟု တိုင်ပင်ခဲ့ကြသည်။ သူတို့က ပြောကြသည်။ တမန်တော်မြတ် ﷺ၏ အချစ်တော် အိုစာမဟ်ဗင်န်ဇိုင်ဒ်မှ လွဲပြီး မည်သူက ပြောရဲပါမည်နည်း။ ထို့နောက် ယင်းအမျိုးသမီးကို တမန်တော်မြတ် ﷺထံ ခေါ်ဆောင်လာခဲ့ကြသည်။ သူမအား အပြစ်လျှော့ပေါ့ပေးရန် အိုစာမဟ်ဗင်န်ဇိုင်ဒ် ﷺက တမန်တော်မြတ် ﷺအား စကားပြောသည်။ ထိုအခါ တမန်တော်မြတ် ﷺ၏ မျက်နှာတော်သည် အမျက်ဒေါသကြောင့် အရောင်ပြောင်းသွားခဲ့သည်။ ကိုယ်တော်မြတ်က "အလ္လာဟ်အရှင်မြတ်၏ စည်းမျဉ်းဥပဒေတစ်ခုအကောင် အထည်မဖော်ဖို့ အသင်က ကြားဝင် အသနားခံပေးနေသည်လော" ဟု မိန့်ကြားတော်မူလေသည်။ အိုစာမဟ် ﷺက လျှောက်တင်သည်။ အို– အလ္လာ့ဟ်တမန်တော်၊ ကျွန်တော်မျိုးအတွက် လွတ်ငြိမ်းချမ်းသားခွင့် တောင်းခံပေးတော်မူပါ။ သို့နှင့်

---
၁ – နစာအီကျမ်း၊ နံပါတ် – ၄၇၈၉။

ညနေခင်းသို့ရောက်သောအခါ တမန်တော်မြတ် ﷺသည် မတ်တတ်ရပ်တော်မူပြီး ခွသ်ဗဟ်မိန့်ကြားတော်မူသည်။ ကိုယ်တော်မြတ်သည် ဦးစွာ အလ္လာဟ်အရှင်မြတ်အား အရှင်မြတ်နှင့် ထိုက်တန်သည်နှင့်အညီ ချီးမွမ်းတောမနာပြုသည်။ပြီးနောက်မိန့်ကြားတော်မူသည်။ "အသင်တို့အလျင်က မျိုးနွယ်စုများ ပျက်စီးခဲ့ကြခြင်းမှာ သူတို့သည် လူကုန်ထံများ ခိုးမှုကျူးလွန်လျှင် လွှတ်ပေးလိုက်ကြသည်။ အားအင်ချည့်နဲ့သူ ခိုးမှုကျူးလွန်လျင်မူ ဖမ်း၍ အပြစ်ပေးကြသည်။ ငါကိုယ် တော်၏အသက်ကို စိုးပိုင်တော်မူသော အရှင်မြတ်၏ ကစမ်၊ အကယ်၍ မုဟမ္မဒ်၏သမီးဖြစ်သူ ဖာသွိမဟ်က ခိုးမှုကျူးလွန်ခဲ့လျင်လည်း သူမ၏ လက်ကို မုချ ငါဖြတ်တောက်တော်မူမည်။ ထို့နောက် ကိုယ်တော်မြတ်သည် ယင်းအမျိုးသမီးအား လက်ဖြတ်ရန်အမိန့်ပေးတော်မူလိုက်ရာ သူမသည် လက်ဖြတ်ခံခဲ့ရသည်။[၁]

**မတ်စ်အလဟ် – (၃၄၅) ဟုဒူးဒ်ခေါ် အလ္လာဟ်အရှင်မြတ်သတ်မှတ်ထားပြစ်ဒဏ်များကို အကောင်အထည်ဖော်ခြင်းမှ ဟန့်တားသူသည် အလ္လာဟ်အရှင်မြတ်၏ ရန်သူဖြစ်သည်။**

အဗ်ဒုလ္လာဟ်ဗင်န်အုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်ကို ကျွန်ုပ် ကြားခဲ့သည်။ "မည်သူမဆို အလ္လာဟ်အရှင်မြတ်သတ်မှတ်ထားသောပြစ်ဒဏ်တစ်ခုအား ဟန့်တားရန် ကြားဝင်အသနားခံပေးခဲ့ပါက ထိုသူသည် အလ္လာဟ်အရှင်မြတ်အား ဆန့်ကျင်အန်တုလိုက်ခြင်းဖြစ်သည်။ မည်သူမဆို သိပါလျက်နှင့် အမှားဘက်မှ ကာကွယ်ပြောဆိုပေးခဲ့သော် ထိုသူသည် ယင်းအမှုကို မစွန့်လွှတ်မချင်း အစဉ်အမြဲ အလ္လာဟ်အရှင်မြတ်၏ အမျက်ဒေါသတွင် ရှိနေလိမ့်မည်။ မည်သူမဆို မုအ်မင်န်တစ်ဦးအား သူ့ထံတွင်မရှိသောအချက်ဖြင့် စွပ်စွဲပြောဆိုခဲ့ပါက သူသည် ယင်းအမှုမှ သောင်ဗဟ်မလုပ်မချင်း ငရဲဘုံသားများ၏

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၆၈၈။

သွေ့ပြည်အိုင်ထဲတွင် နေထိုင်စေတော်မူမည်။[၁]

  

## (၅) မတရားသောအုပ်ချုပ်သူအား ကူညီခြင်း

**မတ်စ်အလဟ် – (၃၄၆) ပြည်သူလူထုအား လိမ်ညာသော၊ မတရားလုပ်သော မင်းဆိုးမင်းညစ်များကို ကူညီသူသည် ကောင်ဆရ်ရေကန်သို့ လာရောက်နိုင်မည်မဟုတ်။**

ကအဗ်ဗင်န်အုဂ်ျရဟ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်တော်တို့ထံသို့ တမန်တော်မြတ် ﷺကြွမြန်းလာတော်မူခဲ့သည်။ ကျွန်တော်တို့၏ အရေအတွက်မှာ ကိုးဦးရှိခဲ့သည်။ ကိုယ်တော်မြတ်က မိန့်ကြားတော်မူသည်။ “ငါကိုယ်တော်၏ နောက်တွင် အုပ်ချုပ်သူများ ရောက်လာကြလိမ့်မည်။ မည်သူမဆို သူတို့၏ လိမ်လည်မှုအား ထောက်ခံမည်၊ သူတို့၏ မတရားမှုတွင် အကူအညီပေးခဲ့မည်ဆိုလျှင် ထိုသူသည် ငါနှင့်မသက်ဆိုင်၊ ငါသည်လည်း သူနှင့် သက်ဆိုင်တော့မည်မဟုတ်။ ထို့ပြင် သူသည် ကောင်ဆရ်ကန်တွင် ငါကိုယ်တော့်ထံ လာရမည်မဟုတ်။ မည်သူမဆို သူတို့၏ လိမ်လည်မှုအား ငြင်းဆန်မည်၊ သူတို့၏ မတရားမှုတွင် အကူအညီမပေးခဲ့ဘူးဆိုလျှင် ထိုသူသည် ငါ့ဘက်မှ ဖြစ်မည်။ ငါသည်လည်း သူ့ဘက်မှ ဖြစ်မည်။ ထို့ပြင် သူသည် ကောင်ဆရ်ကန်တွင် ငါကိုယ်တော့်ထံ လာရောက်ရမည်။[၂]

  

---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၃၅၉၇။

၂ – နစာအီကျမ်း၊ နံပါတ် – ၄၂၁၉။

# (၆) လောကီအကျိုးတစ်စုံတရာအတွက် အုပ်ချုပ်သူအား ကူညီခြင်း

**မတ်စ်အလဟ် – (၃၄၇) မည်သူမဆို လောကီအကျိုးအတွက် အုပ်ချုပ်မင်း လုပ်သူများကို ကူညီခဲ့မည်၊ သို့မဟုတ် လောကီအကျိုးအတွက် အုပ်ချုပ် မင်းလုပ်သူများကို ဆန့်ကျင်ခဲ့မည်ဆိုပါက ကိယာမသ်နေ့တွင် အလ္လာဟ် အရှင်မြတ်သည် ထိုသူနှင့် စကားပြောတော်မူမည်မဟုတ်၊ သူ့အား သန့်ပြန့် အောင်လည်း လုပ်ပေးတော်မူမည်မဟုတ်၊ သူ့အတွက် ပြင်းထန် သောပြစ် ဒဏ် ရှိပေသည်။**

အဗူဟိုရိုင်ရဟ် ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ လူသုံးဦးကို ကိယာမသ်နေ့တွင် အလ္လာဟ် အရှင်မြတ်က စကားပြောတော်မူမည်မဟုတ်၊ သူတို့အား ကြည့်ရှုတော်မူ မည်လည်းမဟုတ်၊ သူတို့အား သန့်ပြန့်အောင်လည်း လုပ်ပေးတော်မူမည် မဟုတ်။ ထို့ပြင် သူတို့အတွက် ပြင်းထန်သော အပြစ်ဒဏ်ရှိပေသည်။ (၁) လမ်းခရီးတွင် ရေအပိုအလျှံရှိပါလျက်နှင့် ခရီးသည်ကို ရေမပေးသူ၊ (၂) လောကီအကျိုးအတွက် အုပ်ချုပ်သူအား ဗိုင်အသ်သစ္စာခံသူ၊ သူအလိုရှိ သည်ကိုပေးလျှင် အုပ်ချုပ်သူအား သစ္စာရှိသည်။ သို့မဟုတ်ပါက သစ္စာ ဖောက်သည်။ (၃) လူတစ်ဦးသည် ဈေးရောင်းချရာတွင် အစွန်ရှုပြီးချိန် "ငါ သည် ဤပစ္စည်းကို အဘာယ်မျှလောက်ပေးခဲ့ရသည်" ဟု အလ္လာဟ် အရှင် မြတ်၏ နာမတော်ဖြင့် ကျိန်ဆိုပြီး လိမ်လည်ရောင်းချသူတို့ ဖြစ်ကြသည်။[၁]

  

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၇၂၁၂။

## (၇) စီရင်ဆုံးဖြတ်ရာတွင် တရားမျှတမှုမရှိခြင်း

**မတ်စ်အလဟ် – (၃၄၈) စုံစမ်းလေ့လာမှုမပြုဘဲ စီရင်ဆုံးဖြတ်သောတရားသူကြီး၊ သိပါလျက်နှင့် အမှားဘက်မှ စီရင်ဆုံးဖြတ်သောတရားသူကြီးတို့သည် ငရဲလားမည်ဖြစ်သည်။**

ဗုရိုင်ဒဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ “တရားသူကြီး သုံးမျိုးရှိသည့်အနက် နှစ်မျိုးမှာ ငရဲဘုံသို့လားရမည်ဖြစ်၍ နောက်တစ်မျိုးသာ ဂျန္နသ်သုခဘုံသို့ သွားရမည်။ (၁)အမှန်တရားကို သိရှိပြီး အမှန်တရားနှင့်အညီ စီရင်ဆုံးဖြတ်သောတရားသူကြီး၊ သူသည် ဂျန္နသ်သို့ သွားရမည်။ (၂) အသိပညာမရှိဘဲ လူတို့အား စီရင်ဆုံးဖြတ်သောတရားသူကြီး၊ သူသည် ငရဲလားမည်။ (၃) စီရင်ဆုံးဖြတ်ရာတွင် မတရားမျှတမှုမရှိသော တရားသူကြီး။ သူသည် ငရဲလားမည်။[၁]



## (၈) အစိုးရရာထူးလက်ခံထားသူသည် လူတို့ထံမှ လက်ဆောင်ယူခြင်း

**မတ်စ်အလဟ် – (၃၄၉) အစိုးရရာထူးကို ထမ်းဆောင်နေသူ၏ လူတို့ထံမှ လက်ဆောင်ယူခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

အဗူဟိုမိုင်းဒ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် အစဒ်မျိုးနွယ်မှ အိဗ်နလ်လုသ်ဗီယာဆိုသူကို စွဒကာဟ်ကောက်ခံရန် တာဝန်ပေးအပ်ခဲ့သည်။ ထိုသူသည် စွဒကာဟ်ကောက်ခံပြီး၍ ရောက်လာသောအခါ “ဤသည် အသင်တို့အတွက်ဖြစ်ပြီး ဤသည် ကျွန်ုပ်လက်

---

၁ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၂၃၁၅။

ဆောင်ရလာသောပစ္စည်းဖြစ်သည်”ဟု ဆိုလေသည်။ ထိုအခါ တမန်တော်မြတ် ﷺ သည် မင်နဗရ်ပေါ်တွင် ရပ်တော်မူပြီး “အကြင်တာဝန်ခံ၏ အဖြစ်သည် မည်သို့ပါနည်း။ ငါသည် သူ့အား တာဝန်တစ်ခုပေးအပ်ခဲ့ရာ သူက စွဒကဟ်ကောက်ခံပြီး၍ ရောက်လာသောအခါ “ဤသည် အသင်တို့အတွက်ဖြစ်ပြီး ဤသည် ကျွန်ုပ်လက်ဆောင်ရလာသောပစ္စည်းဖြစ်သည်” ဟု လာပြောသည်။ သူသည် မိမိ၏ ဖခင်အိမ် သို့မဟုတ် မိမိ၏ မိခင်အိမ်တွင် ထိုင်နေပြီး လက်ဆောင်ရလား၊ မရလား ကြည့်ပါလား။ ငါကိုယ်တော်၏ အသက်ကို စိုးပိုင်တော်မူသောအရှင်မြတ်၏ ကစမ်၊ အသင်တို့အနက်မှ မည်သူမဆို ထိုကဲ့သို့ ရယူခဲ့ပါက ကိယာမသ်နေ့တွင် လည်ကုပ်ပေါ်တွင် ထိုအရာကို ထမ်းလာရပေမည်။ ကုလားအုတ်ဆိုလျှင် အော်ဟစ်နေမည်၊ နွားဆိုလျှင် အော်ဟစ်နေမည်။ ဆိတ်ဆိုလျှင် အော်ဟစ်နေမည်။ ပြီးနောက် ကိုယ်တော်မြတ်သည် ချိုင်းပေါ်သွားသည်အထိ လက်ကို မြှောက်တော်မူပြီး မိန့်ကြားတော်မူသည်။ “အို – အလ္လာဟ် အရှင်မြတ်၊ ကျွန်တော်မျိုး ပို့ချခဲ့ပါပြီ။”[၁]

  

## (၉) အာဏာတည်မြဲရေးအတွက် မိမိအား ဆန့်ကျင်သူကို သတ်ဖြတ်ခြင်း

**မတ်စ်အလဟ် – (၃၅၀) အာဏာတည်မြဲရေးအတွက် တစ်ဦးတစ်ယောက်အား မတရားသတ်ဖြတ်သောသူသည် ကိယာမသ်နေ့တွင် မိမိ၏ပြစ်မှုများသာမက အသတ်ခံခဲ့ရသူများ၏ပြစ်မှုများကိုပါ ထမ်းရွက်ပြီး ဂျဟန္နမ်သို့ ဝင်ရမည်။**

အဗ်ဒုလ္လာဟ်ဗင်နိမတ်စ်အူးဒ် رضي الله عنه ထံမှ ဆင့်ပြန်ချက်လာရှိသည်။

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၈၃၂။

တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ “လူတစ်ဦးသည် နောက်လူတစ်ဦး၏လက်ကို ကိုင်ပြီး အလ္လာဟ်အရှင်မြတ်ထံ လာ၍ လျှောက်တင်မည်။ “အို – အရှင်၊ ဤလူသည် ကျွန်တော်မျိုးအား သတ်ဖြတ်ခဲ့ပါသည်။” အရှင်မြတ်က မေးမြန်းတော်မူမည်။ အသင်သည် အဘယ့်အတွက်ကြောင့် သူ့အား သတ်ဖြတ်ခဲ့ပါသနည်း။ ထိုသူက လျှောက်ထားမည်။ “သိက္ခာတော်သည် အရှင်မြတ်အတွက်သာ ဖြစ်ရန်အတွက် (အရှင့်သာသနာတော်အတွက်) သတ်ခဲ့ပါသည်။ အရှင်မြတ်က မိန့်တော်မူသည်။ “မှန်ပေသည်။ သိက္ခာတော်သည် ငါအရှင့်အတွက်သာ ဖြစ်သည်။ နောက်ထပ်လူတစ်ဦးသည် လူတစ်ဦး၏ လက်ကို ကိုင်ပြီး အလ္လာဟ်အရှင်မြတ်ထံ လာ၍ လျှောက်တင်မည်။ “အို – အရှင်၊ ဤလူသည် ကျွန်တော်မျိုးအား သတ်ဖြတ်ခဲ့ပါသည်။” အရှင်မြတ်က မေးမြန်းတော်မူမည်။ အသင်သည် အဘယ့်အတွက်ကြောင့် သူ့အား သတ်ဖြတ်ခဲ့ပါသနည်း။ ထိုသူက လျှောက်ထားမည်။ “သိက္ခာတော်သည် မည်သူမည်ဝါအတွက်သာ ဖြစ်ရန်အတွက် (ထိုသူအာဏာတည်မြဲရေးအတွက်) သတ်ခဲ့ပါသည်။ အရှင်မြတ်က မိန့်တော်မူသည်။ “မှားပေသည်။ သိက္ခာတော်သည် ထိုသူနှင့်မထိုက်တန်ပေ။ ထို့နောက် လူသတ်သမားသည် အသတ်ခံရသူ၏ အပြစ်ကိုပါ ယူဆောင်ပြီး ငရဲသို့သွားရမည်။[၁]

  

---

၁ – နစာအီကျမ်း၊ နံပါတ် – ၃၉၉၇။

# အလှအပချယ်သမှုနှင့်ဆိုင်သော ပြစ်မှုများ

## (၁) ရုပ်ပုံရေးဆွဲခြင်း

**မတ်စ်အလဟ် – (၃၅၁) ရုပ်ပုံထုဆစ်သောသူအပေါ် အလ္လာဟ်အရှင်မြတ်သည် လအ်နသ်ပို့တော်မူသည်။**

အဗူဂျုဟိုင်ဖဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် "သွေးမှရသောငွေ၊ ခွေးမှရသောငွေ၊ ပြည့်တန်ဆာလုပ်ငန်းမှရသောငွေတို့မှ တားမြစ်တော်မူခဲ့သည်။ ထို့ပြင် အတိုးစားသူ၊ အတိုးပေးသူ၊ ဆေးမင်ကြောင်ထိုးသူ၊ ဆေးမင်ကြောင်ထိုးခိုင်းသူ၊ ရုပ်ပုံပြုလုပ်သူတို့အား လအ်နသ်ပို့တော်မူခဲ့သည်။[၁]

**မတ်စ်အလဟ် – (၃၅၂) သက်ရှိရုပ်ပုံ ရေးဆွဲသူများသည် ကိယာမသ်နေ့တွင် ပြင်းထန်သောအပြစ်ဒဏ်ကို ခံစားရမည်။**

အဗ်ဒုလ္လာဟ်ဗင်န်မတ်စ်အူးဒ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်ကို ကျွန်ုပ် ကြားခဲ့သည်။ " အလ္လာဟ်အရှင်မြတ်ထံတွင် အပြင်းထန်းဆုံးသောပြစ်ဒဏ်ခံစားရမည့်သူများမှာ သက်ရှိရုပ်ပုံရေးဆွဲသူများ ဖြစ်ကြသည်။[၂]

**မတ်စ်အလဟ်(၃၅၃)သက်ရှိရုပ်ပုံများရှိနေသောအိမ်ကို ကရုဏာကောင်းကင်တမန်များ မဝင်ရောက်ပေ။**

အဗူသွလ်ဟာဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၅၉၆၂။
၂ – ဗုခါရီကျမ်း၊ နံပါတ် – ၅၆၀၆။

မြတ် ﷺ မိန့်တော်မူသည်။ ကောင်းကင်တမန်များသည် ခွေးရှိသောအိမ်နှင့် သက်ရှိရုပ်ပုံရှိသောအိမ်သို့ မဝင်ရောက်ပေ။[၁]



## (၂) အရှက်မလုံခြုံသောအဝတ်များ ဝတ်ဆင်ခြင်း

**မတ်စ်အလဟ် – (၃၅၄) အရှက်မလုံခြုံသောအဝတ် ဝတ်ဆင်သောအမျိုးသမီးများသည် ဂျန္နသ်သို့ ဝင်ရောက်ရမည်မဟုတ်။**

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ “ငရဲဘုံလားရမည့်အုပ်စုနှစ်စုရှိသည်။ ယင်းအုပ်စုနှစ်စုကို ယခုထိ မမြင်တွေ့ရသေးပေ။ အုပ်စုတစ်စုမှာ နွားအမြီးကဲ့သို့ ကြာပွတ်များရှိလိမ့်မည်။ ထိုကြာပွတ်များဖြင့် သူတို့သည် လူတို့အားရိုက်နက်နေကြလိမ့်မည်။ ဒုတိယအုပ်စုမှာ အဝတ်ဝတ်ထားကြသော်လည်း ဝတ်လစ်စလစ်ဖြစ်နေသော၊ အမျိုးသားများဘက် ယိမ်းညွှတ်ကြသော၊ မိမိဘက်သို့ ယိမ်းညွှတ်စေကြသောအမျိုးသမီးများဖြစ်သည်။ သူတို့၏ဆံထုံးများသည် ကုလားအုတ်၏ ကောက်နေသောဘို့ကဲ့သို့ ဖြစ်မည်။ ထိုသို့သောအမျိုးသမီးများသည် ဂျန္နသ်သုခဘုံသို့ ဝင်ရောက်ရမည်မဟုတ်။ ထို့ပြင် ဂျန္နသ်၏ ရနံ့ကိုပင် ရနိုင်မည်မဟုတ်။ ယင်းရနံ့သည် အဘာယ် အဘာယ် အကွာအဝေးမှပင် ရနေပေသည်။[၂]



---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၅၉၄၉။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၁၂၈။

## (၃) အလှအပထုတ်ဖော်ခြင်း

**မတ်စ်အလဟ် – (၃၅၅) ဆံပင်အတုတတ်သောအမျိုးသား၊ အမျိုးသမီးများအပေါ် အလ္လာဟ်အရှင်မြတ်၏ လအ်နသ်ကျပေသည်။**

**မတ်စ်အလဟ် – (၃၅၆) အလှပြင်ဆိုင်များတွင် တရားတော်ကခွင့်မပြုထားသော အလှအပများပြင်ဆင်ပေးသူနှင့်၊ ပြင်ဆင်ပေးခိုင်းသူများအပေါ် အလ္လာဟ်အရှင်မြတ်၏ လအ်နသ်ကျရောက်ပေသည်။**

**မတ်စ်အလဟ် – (၃၅၇) ကိုယ်ခန္ဓာပေါ်တွင် ဖျက်၍မရသော ဆေးမင်ကြောင်များထိုးသောသူမများ၊ ထိုးခိုင်းသောသူမများအပေါ် အလ္လာဟ်အရှင်မြတ်၏ လအ်နသ်သင့်ပေသည်။**

အိဗ်နအုမရ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် “ ဆံပင်ဆက်သောသူမ၊ ဆံပင်ဆက်ခိုင်းသောသူမ၊ ဆေးမင်ကြောင်ထိုးသောသူ၊ ဆေးမင်ကြောင် ထိုးခိုင်းသူမများကို လအ်နသ်ပို့တော်မူခဲ့သည်။[၁]

အတ်စ်မာအ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ အမျိုသမီးတစ်ဦးသည် တမန်တော် ﷺ အား မေးမြန်းလျှောက်ထားခဲ့သည်။ အို – အလ္လာ့ဟ်တမန်တော်၊ ကျွန်တော်မျိုးမ၏သမီးသည် ဝက်သက်ပေါက်ပြီး ဆံပင်များကျွတ်ကုန်ပါသည်။ သူမအား နေကဟ်ထိမ်းမြားရန်လည်း စီစဉ်ပြီးပါပြီ။ ထို့ကြောင့် ကျွန်မသည် သူမအား ဆံပင်ဆက်ပေးလို့ရပါသလား။ တမန်တော်မြတ် ﷺ က မိန့်ကြားတော်မူသည်။ ဆံပင်ဆက်သောသူမနှင့် ဆံပင်ဆက်ခိုင်းသောသူမကို အလ္လာဟ်အရှင် လအ်နသ်ပို့တော်မူပါစေ။[၂]

**မတ်စ်အလဟ် – (၃၅၈) မျက်ခုံးကို အလှဆင်ရန်အတွက် မျက်ခုံးမွှေးနှုတ်**

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၄၈၈၆။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၅၉၄၁။

သော၊ သို့မဟုတ် ရှင်းလင်းသောအမျိုးသမီးအပေါ် အလ္လာဟ်အရှင်မြတ် လအ်နသ်ပို့တော်မူသည်။

မတ်စ်အလဟ် – (၃၅၉) အလှဆင်ရန်အတွက် သွားများကို ပါးအောင်လုပ်သော၊ သွားကြဲအောင်လုပ်သောအမျိုးသမီးများအပေါ် လအ်နသ်ကျပေသည်။

မတ်စ်အလဟ် – (၃၆၀) သူတစ်ပါး၏ မျက်ခုံးမွေးများအလှဆင်ပေးသူ၊ အလှဆင်ရန် သွားများကို ခြဲပေးသူမများအပေါ် အလ္လာဟ်အရှင်မြတ်၏ လအ်နသ်ကျပေသည်။

အဗ်ဒုလ္လာဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်ကို ကျွန်ုပ် ကြားခဲ့သည်။ "အလ္လာဟ်အရှင်မြတ်၏ ဖန်ဆင်းမှုအား အပြောင်းအလဲလုပ်ရန် မျက်ခုံးမွေးနှုတ်သောသူများ၊ ဆေးမင်ကြောင်ထိုးသောသူ၊ သွားများကို ခြဲသောသူများကို အလ္လာဟ်အရှင် လအ်နသ်ပို့တော်မူပါစေ။"[၁]

အဗ်ဒုလ္လာဟ်ဗင်န်မတ်စ်အူးဒ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် ဆေးမင်ကြောင်ထိုးသောသူမများ၊ ဆေးမင်ကြောင်ထိုးခိုင်းသူမများ၊ မျက်ခုံးမွေးနှုတ်သောသူမများ၊ အလှအပအတွက် သွားခြဲသူမများအပေါ် အလ္လာဟ်အရှင်မြတ် လအ်နသ်ပို့တော်မူသည်။ သူမများသည် အလ္လာဟ်အရှင်မြတ်၏ ဖန်ဆင်းမှုကို အပြောင်းအလဲလုပ်သူများ ဖြစ်ကြသည်။[၂]

**ရှင်းလင်းချက်။** (၁) အလှအပအတွက် မျက်နှာ၏ အစိတ်အပိုင်းတစ်ခုခုရှိ အမွေးအမှင်ရှင်းလင်းခြင်းကို အလ္လာဟ်အရှင်မြတ်၏ ဖန်ဆင်းမှုကို အပြောင်းအလဲလုပ်ခြင်းဟု ပညာရှင်များက သတ်မှတ်ကြသည်။ ထို့

---

၁ – နစာအီကျမ်း၊ နံပါတ် – ၅၁၀၇။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၄၈၈၆။

ကြောင့် မပြုလုပ်ပိုင်ပေ။ (၂) အမျိုးသမီးတစ်ဦး၏ မျက်နှာပေါ်တွင် အမျိုးသားများကဲ့သို့ အမွေးအမှင်များ ပေါက်လာပါက ထိုအမွေးအမှင်များကို ဖယ်ရှားပိုင်ခွင့်ရှိပေသည်။



## (၄) အမျိုးသမီးတစ်ဦးသည် အမွှေးအကြိုင်သုတ်လိမ်း၍ အိမ်အပြင်ထွက်ခြင်း

**မတ်စ်အလဟ် – (၃၆၁) အမျိုးသမီးတစ်ဦးသည် အနံ့ပြင်းသော အမွှေးနံ့သာ သုတ်လိမ်းပြီး အိမ်အပြင်သို့ထွက်ခြင်းသည် ကြီးလေးသော အပြစ် ဖြစ်သည်။**

အဗူမူစာ ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "မျက်လုံးတိုင်းသည် ဇိနာကျူးလွန်သည်။ အမျိုးသမီးသည် အမွှေးအကြိုင်လိမ်းပြီး ထိုင်ဝိုင်းတစ်ခုအနီးမှာ ဖြတ်သန်းသွားလျှင် သူမသည် ဇိနာကျူးလွန်သူ ဖြစ်သည်။"[၁]



## (၅) မုတ်ဆိတ်မွှေး ရိတ်ခြင်း

**မတ်စ်အလဟ် – (၃၆၂) မုတ်ဆိတ်ရိတ်ခြင်းသည် မဂျူစီများနှင့် မုရှ်ရိက်များနှင့် တူဆင်အောင်လုပ်ခြင်းဖြစ်သည်။**

အိဗ်နုအုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺအား မီးကိုးကွယ်သူများအကြောင်းကို တင်ပြကြသောအခါ တမန်တော်မြတ် ﷺက မိန့်တော်မူသည်။ "သူတို့သည် နှုတ်ခမ်းမွှေးအရှည်ထားကြပြီး မုတ်ဆိတ်မွှေးကို ရိတ်ကြသည်။ အသင်တို့သည် သူတို့နှင့် ဆန့်ကျင်ဘက်လုပ်ကြကုန်။ အိဗ်နုအုမရ် ﷺ သည် ဆိတ် သို့မဟုတ် ကုလားအုတ်၏

၁ – သိရ်မိဇီကျမ်း၊ နံပါတ် – ၂၇၈၆။

အမွှေးများကို ညှပ်သကဲ့သို့ မိမိ၏ နှုတ်ခမ်းမွှေးကို အပြောင်ညှပ်တော်မူသည်။[၁]

**မတ်စ်အလဟ် – (၃၆၃) အစိုးရရာထူးကို ထမ်းဆောင်နေသူ၏ လူတို့ထံမှ လက်ဆောင်ယူခြင်းသည် ကြီးလေးသောအပြစ်ဖြစ်သည်။**

ဇိုင်ဒ်ဗင်န်အဗီဟာဗီးဗ် ﷺထံမှ ရှည်လျားသောအကြောင်းအရာ တစ်ခု ဆင့်ပြန်လာရှိသည်။ ယင်းထဲတွင် “ပါရှာန်ကိုယ်စားလှယ်နှစ်ဦးသည် တမန်တော်မြတ် ﷺထံသို့ ဝင်ရောက်လာသောအခါ သူတို့နှစ်ဦးသည် မုတ်ဆိတ်မွှေးရိတ်ထားပြီး၊ နှုတ်ခမ်းမွှေးများ ရှည်နေသောကြောင့် တမန်တော်မြတ် ﷺသည် သူတို့ကိုကြည့်ရန် မနှစ်မြို့တော်မူခဲ့ပေ။ ကိုယ်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ အသင်တို့နှစ်ဦးအား ထိုသို့ပြုရန် မည်သူက ညွှန်ကြားထားသနည်း။ သူတို့နှစ်ဦးက လျှောက်တင်သည်။ ကျွန်ုပ်တို့၏ အရှင်သခင်(ကိစ်ရာဘုရင်)က အမိန့်ပေးထားပါသည်။ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ အမှန်မှာ ငါကိုယ်တော်မြတ်၏ အရှင်သည် မုတ်ဆိတ်အရှည်ထားရန်နှင့် နှုတ်ခမ်းမွှေးညှပ်ရန် အမိန့်ပေးထားလေသည်။[၂]

  

## (၆) ပိုးထည် ဝတ်ဆင်ခြင်း

**မတ်စ်အလဟ် – (၃၆၄) ပိုးထည်ဝတ်ဆင်သောအမျိုးသားသည် ကိယာမသ်နေ့တွင် မီးအဝတ်အစား ဝတ်ပေးခြင်းခံရမည်။**

မုအားဇ်ဗင်န် ဂျဗလ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည်ပိုးထည်ဖြင့်အနားကွပ်ထားသောဂျုဗ်ဗာတစ်ထည်ကို

---

၁ – အိဗ်နုဟိဗ်ဗာန်ကျမ်း၊ နံပါတ် – ၅၄၇၆။

၂ – အိဗ်နုကဆီးရ်ကျမ်း၊ တွဲ – ၄၊ စာ – ၆၆၃။

တွေ့မြင်ပြီး မိန့်တော်မူသည်။ "ကိယာမသ်နေ့တွင် မီးကွင်းဖြစ်မည့်အရာ ဖြစ်သည်။"[၁]

  

## (၇) လုံချည်ကို ခြေမျက်စိအောက် တရွတ်တိုက်ဝတ်ခြင်း

**မတ်စ်အလဟ် – (၃၆၅) လုံချည်ကို ခြေမျက်စေ့အောက် တရွတ်တိုက် ဝတ်ဆင်သူသည် ကိယာမသ်နေ့တွင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ လက်မဲ့ဖြစ်မည်။ ထို့ပြင် ငရဲဘုံတွင် ပြင်းထန်သောပြစ်ဒဏ် ခံစားရမည်။**

အဗူဇရ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "အလ္လာဟ်အရှင်မြတ်သည် ကိယာမသ်နေ့တွင် လူသုံးဦးကိုစကားပြောတော်မူမည်မဟုတ်။ သူတို့အားကြည့်ရှုတော်မူမည်လည်းမဟုတ်။ သူတို့အား သန့်ပြန့်အောင်လုပ်ပေးတော်မူမည်လည်း မဟုတ်။ ထို့ပြင် သူတို့အတွက် ပြင်းထန်သော ပြစ်ဒဏ်ရှိပေသည်။ တမန်တော်မြတ်သည် ထိုစကားကို သုံးကြိမ်တိုင်တိုင် မိန့်တော်မူည်။ အဗူဇရ် ﷺ လျှောက်တင်သည်။ "အို – အလ္လာ့ဟ်တမန်တော်၊ ထိုသူများသည် ဆုံးရှုံးသူများဖြစ်ကြပါသည်။ထိုသူများမှာမည်သူများနည်း။တမန်တော်မြတ် ﷺ က မိန့်တော်မူသည်။ လုံချည်ကို ခြေမျက်စိအောက် တရွတ်တိုက်ဝတ်သူ၊ ကျေးဇူးပြုပြီး ဂုဏ်ဖော်သူ၊ ကုန်ပစ္စည်းကို လိမ်လည်ကျိန်ဆိုပြီး ရောင်းချသူတို့ ဖြစ်သည်။[၂]

  

---

၁ – သွဗ်ရာနီကျမ်း။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၀၆။

## (၈) အနက်ရောင်ဖြင့် အရောင်ဆိုးခြင်း

**မတ်စ်အလဟ် – (၃၆၆) အနက်ရောင်ဖြင့် ဦးခေါင်းအရောင်ဆိုးသူများ သည် ဂျန္နသ်၏ ရနံ့ကိုပင် ရမည်မဟုတ်။**

အိဗ်နအဗ်ဗားစ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "နောက်ဆုံးခေတ်တွင် ခို၏စားလုတ်ကဲ့သို့ အနက်ရောင်ဖြင့် ဆေးဆိုးသူများ ပေါ်ပေါက်လာလိမ့်မည်။ သူတို့သည် ဂျန္နသ်၏ ရနံ့ကိုပင် ရမည်မဟုတ်။"[၁]

  

## (၉) အမျိုးသားများ ရွှေဝတ်ဆင်ခြင်း

**မတ်စ်အလဟ် – (၃၆၇) လက်စွပ်၊ ဟန်းချိန်း၊ ဆွဲကြိုး၊ ရွှေနာရီစသည့် ရွှေထည်ပစ္စည်းများ အသုံးပြုသည့်အမျိုးသားများအဖို့ ကိယာမသ်နေ့တွင် ထိုအရာများသည် မီးခဲဖြစ်လိမ့်မည်။**

အဗ်ဒုလ္လာဟ်ဗင်န်အဗ်ဗားစ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် အမျိုးသားတစ်ဦး၏လက်ထဲတွင် ရွှေလက်စွပ်ကို တွေ့မြင်တော်မူလေရာ ထိုလက်စွပ်ကို ဆွဲချွတ်လိုက်ပြီး လွှင့်ပစ်တော်မူလိုက်သည်။ ကိုယ်တော်က အမိန့်ရှိသည်။ "အသင်တို့ တစ်ဦးတစ်ယောက်သည် မီးခဲကို မိမိလက်မှာ ဝတ်ဆင်ဖို့ ရည်ရွယ်တာလား။ တမန်တော်မြတ် ﷺ ထွက်သွားသောအခါ သူ့အား လူတို့က ပြောကြသည်။ အသင့်လက်စွပ်ကို ပြန်ကောက်ယူပြီး တခြားနေရာမှာ အသုံးချပါ။ ထိုအခါ သူက ပြောသည်။ တမန်တော်မြတ် ﷺ လွှင့်ပစ်လိုက်သောအရာကို ငါ ဘယ်သောအခါမျှ ကောက်မည်မဟုတ်ပါ။"[၂]

---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၄၂၁၂။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၀၉၀။

## (၁၀) ရွှေခွက် ငွေခွက်များဖြင့် စားသုံးခြင်း

**မတ်စ်အလဟ် – (၁၆၈) ရွှေခွက်၊ ငွေခွက်များဖြင့် စားသုံးသောသူသည် မိမိ၏ ဝမ်းဗိုက်အတွင်း မီးခဲထည့်နေခြင်းဖြစ်သည်။**

အိဗ်နုအဗ်ဗားစ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်တော်မူသည်။ မည်သူမဆို ရွှေခွက်၊ ငွေခွက်ဖြင့် သောက်သုံးပါက ထိုသူသည် မိမိ၏ ဝမ်းဗိုက်ထဲသို့ မီးလောင်းချနေသကဲ့သို့ ဖြစ်သည်။[၁]

  

## (၁၁) သီချင်းဆိုခြင်း

**မတ်စ်အလဟ် – (၁၆၉) တေးဂီတနှင့် သီချင်း စွဲမက်သောသူများသည် ကိယာမသ်နေ့တွင် သေးသိမ်သောပြစ်ဒဏ်ကို ခံစားရမည်။**

وَمِنَ النَّاسِ مَن يَشْتَرِي لَهْوَ الْحَدِيثِ لِيُضِلَّ عَن سَبِيلِ اللَّهِ بِغَيْرِ عِلْمٍ وَيَتَّخِذَهَا هُزُوًا ۚ أُولَٰئِكَ لَهُمْ عَذَابٌ مُّهِينٌ ﴿٦﴾

ထို့ပြင် လူများထဲတွင် အသိပညာအထောက်အထားမရှိဘဲ (သူတစ်ပါးအား) *အလ္လာဟ်* အရှင်မြတ်၏ လမ်းမှ လွဲချော်အောင်အတွက်နှင့် ထိုလမ်းကို ပြောင်လှောင်မှုပြုလုပ်ရန်အတွက် အကျိုးမဲ့စကားကို ဝယ်ယူသူလည်းရှိသည်။ ထိုသူများအတွက် သေးသိမ်စေသော ပြစ်ဒဏ်ရှိသည်။[၂]

**မတ်စ်အလဟ် – (၁၇၀) တေးဂီတနှင့် သီချင်းများ ပေါ်များလာပါက အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ် ကျရောက်ပေသည်။**

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၀၆၅။

၂ – ကုရ်အာန် ၃၁း ၆။

အိမ်ရာန်ဗင်န်ဟိုစိုင်းန်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "ဤအုမ္မသ်တွင် မြေမျိုခြင်း၊ ရုပ်ပြောင်းရုပ်လွှဲခြင်း၊ ခဲမိုးရွာခြင်းများဖြစ်လာလိမ့်မည်။ မွစ်လင်မ်တစ်ဦးက လျှောက်တင်သည်။ အို - အလ္လာဟ်တမန်တော်၊ ဘယ်အချိန်ဖြစ်လာမည်နည်း။ "သီးချင်းဆိုသောအမျိုးသမီးများ ပေါ်များလာသောအခါ၊ တေးဂီတတီးမှုတ်သောအမျိုးသမီးများ ပေါ်များလာသောအခါ၊ အရက်သေစာသောက်သုံးမှု ပေါ်များလာသောအခါ ဖြစ်ပေါ်မည်။"[၁]

**မတ်စ်အလဟ် - (၃၇၁) သီးချင်းဆိုသောအမျိုးသမီးများ၊ ကချေသည်များ ပေါ်များလာသောအခါအလ္လာဟ်အရှင်မြတ်သည် လူတို့အား မျောက်ရုပ်နှင့် ဝက်ရုပ်များအဖြစ် ရုပ်ပြောင်းရုပ်လွှဲပစ်တော်မူမည်။**

အဗူမာလိက်အရှ်အရီ ﷵ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "ငါ၏ အုမ္မသ်နောက်လိုက်သားများတွင် အရက်အား အမည်ပြောင်း၍ သောက်သုံးလာကြမည်။ သူတို့ရှေ့တွင် တေးမှုတူရိယာများ၊ ကချေသည်များ ရှိကြမည်။ အလ္လာဟ်အရှင်မြတ်သည် သူတို့အား မြေမျိုစေတော်မူမည်။ သူတို့အနက်မှ လူအချို့ကို မျောက်တိရစ္ဆာန်၊ ဝက်တိရစ္ဆာန်အဖြစ် ပြုလုပ်ပစ်တော်မူမည်။"[၂]

**မတ်စ်အလဟ် - (၃၇၂) တမန်တော်မြတ် ﷺ သည် တေးဂီတအသံကိုပင် နားထောင်ရန် နှစ်သက်တော်မမူပေ။**

နာဖိအ်က ပြောပြသည်။ အိဗ်နအုမရ် ﷵ သည် ပလွေမှုတ်သံကို ကြားလေရာ နားနှစ်ဖက်တွင် လက်ပိတ်လိုက်ပြီး ထိုလမ်းမှ ရှောင်ထွက်သွားခဲ့သည်။ နာဖိအ် ﵀ က ကျွန်တော့်အား မေးသည်။ အသင် အသံကြား

၁ - သိရ်မိဇီကျမ်း၊ နံပါတ် - ၂၁၈၅။
၂ - အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် - ၄၀၂၀။

ရသေးလား။ ကျွန်တော်က မကြားရတော့ဘူးဟု ပြောသောအခါ နားမှ လက်ချောင်းကို ဖယ်လိုက်သည်။ ပြီးနောက် သူက ပြောသည်။ ငါသည် တမန်တော်မြတ် ﷺနှင့်အတူ ရှိခဲ့စဉ်အခါက ကိုယ်တော်သည် ဤအသံ ကိုကြားခဲ့ရာ ယခု ငါလုပ်သကဲ့သို့ လုပ်ခဲ့သည်။[၁]



## ကြီးလေးသောအပြစ်များအတွက် ကဖ်ဖွာရာဟ်မှာ စစ်မှန်သော သောင်ဗဟ်လုပ်ခြင်းပင် ဖြစ်သည်။

**မတ်စ်အလဟ်(၃၇၃) စစ်မှန်သောသောင်ဗဟ်လုပ်ခြင်းအားဖြင့် အလ္လာဟ် အရှင်မြတ်သည် ကြီးလေးသောအပြစ်များကို ခွင့်လွှတ်တော်မူသည်။**

يَاَيُّهَا الَّذِيْنَ اٰمَنُوْا تُوْبُوْٓا اِلَى اللّٰهِ تَوْبَةً نَّصُوْحًا ۭ عَسٰى رَبُّكُمْ اَنْ يُّكَفِّرَ عَنْكُمْ سَيِّاٰتِكُمْ وَيُدْخِلَكُمْ جَنّٰتٍ تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ

အို - *အီမာန်* ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် *အလ္လာဟ်* အရှင်မြတ်ထံတော်တွင် စစ်မှန်သော ဝန်ချတောင်းပန်ခြင်းမျိုးနှင့် ဝန်ချ တောင်းပန်ကြပါ။ အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် သည် အသင်တို့၏အပြစ်များကို အသင်တို့ထံမှ ပပျောက်စေတော်မူမည့် အပြင် အသင်တို့အားအကြင် ဥယျာဉ်များထဲသို့ အမှန်ပင် ဝင်ရောက်စေ တော်မူမည်။ ထို ဥယျာဉ်များ၏ အောက်မှ ချောင်းများသည် စီးဆင်းနေ မည်။[၂]

فَمَنْ تَابَ مِنْۢ بَعْدِ ظُلْمِهٖ وَاَصْلَحَ فَاِنَّ اللّٰهَ يَتُوْبُ عَلَيْهِ ۭ اِنَّ اللّٰهَ غَفُوْرٌ رَّحِيْمٌ 

---

၁ - အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် - ၄၉၂၄။

၂ - ကုရ်အာန် ၆၆း ၈။

ဎင်းပြင် မည်သူမဆို ပြစ်မှုကျူးလွန်ပြီးနောက် ဝန်ချတောင်းပန်ပြီး ပြုပြင်နေခဲ့လျှင် အမှန်စင်စစ် *အလ္လာဟ်*အရှင်မြတ်သည် ထိုသူ့ဘက် ပြန်လှည့်ပြီး သူ၏ဝန်ချတောင်းပန်မှုကို လက်ခံတော်မူသည်။ အမှန်စင်စစ် *အလ္လာဟ်*အရှင်မြတ်သည် အလွန်လွတ်ငြိမ်းချမ်းသာခွင့်ပေးသနားတော်မူသောအရှင်၊ အလွန်သနားကြင်နာတော်မူသောအရှင် ဖြစ်တော်မူသည်။[၁]

**မတ်စ်အလဟ် - (၃၇၄) စစ်မှန်သောသောင်ဖဟ်ပြုလုပ်သူများ၏ အပြစ်အားလုံးကို အလ္လာဟ်အရှင်မြတ်က ခွင့်လွှတ်တော်မူမည်ဟု ကတိပြုထားသည်။**

قُلْ يٰعِبَادِيَ الَّذِيْنَ اَسْرَفُوْا عَلٰٓى اَنْفُسِهِمْ لَا تَقْنَطُوْا مِنْ رَّحْمَةِ اللّٰهِ ۭ اِنَّ اللّٰهَ يَغْفِرُ الذُّنُوْبَ جَمِيْعًا ۭ اِنَّهٗ هُوَ الْغَفُوْرُ الرَّحِيْمُ ﴿٥٣﴾

(အို - တမန်တော်)အသင်သည် (ငါအရှင်မြတ်၏ ကိုယ်စား)ပြောလိုက်ပါ - အို - မိမိကိုယ်မိမိအလွန်အမင်းကျူးလွန်ခဲ့ကြသောငါအရှင်မြတ်၏ ကျွန်အပေါင်းတို့၊ အသင်တို့သည် *အလ္လာဟ်* အရှင်မြတ်၏ ကရုဏာတော်မှ မျှော်လင့်ချက်မကင်းမဲ့ကြနှင့်။ အမှန်စင်စစ် *အလ္လာဟ်* အရှင်မြတ်သည် အပြစ်များအားလုံးကို ခွင့်လွှတ်ချမ်းသာပေးသနားတော်မူမည်။ အမှန်စင်စစ် အရှင်မြတ်သည် အလွန်လွတ်ငြိမ်းချမ်းသာခွင့်ပေးတော်မူသောအရှင်၊ အလွန်သနားကြင်နာတော်မူသောအရှင် ဖြစ်တော်မူသည်။[၂]

အဗူဇရ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို ဟောကြားတော်မူသည်။ “ အို - ငါအရှင်မြတ်၏ ကျေးကျွန်အပေါင်းတို့၊ အသင်တို့သည် နေ့နေ့ညည အမှားကျူးလွန်ကြသည်။ ငါအရှင်သည် အသင်တို့၏ အပြစ်အားလုံးကို ခွင့်လွှတ်တော်မူသည်။ ထို့ကြောင့် အသင်တို့သည် ငါအရှင်မြတ်ထံ လွတ်ငြိမ်း

---

၁ - ကုရ်အာန် ၅း ၃၉။

၂ - ကုရ်အာန် ၃၉း ၅၃။

ချမ်းသာခွင့်တောင်းခံကြလေကုန်။[၁]

**မတ်စ်အလဟ် – (၃၇၅) အပြစ်များမှ စစ်မှန်သောသောင်ဗဟ်ပြုလုပ်သူသည် အပြစ်လုံးဝမကျူးလွန်ခဲ့သူကဲ့သို့ ဖြစ်သည်။**

အဗူအိုဗိုင်ဒဟ်ဗင်န် အဗ်ဒုလ္လာဟ် ﷺသည် မိမိ၏ဖခင်ထံမှ ဆင့်ပြန်သည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အပြစ်များမှ သောင်ဗဟ်လုပ်သူသည် အပြစ်မကျူးလွန်သူသကဲ့သို့ ဖြစ်သည်။[၂]

**မတ်စ်အလဟ် – (၃၇၆) လူတိုင်းသည် မသေခင်အချိန်ထိ မိမိ၏ အပြစ်များမှ သောင်ဗဟ်လုပ်နိုင်သည်။**

အိဗ်နအုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "အလ္လာဟ်အရှင်မြတ်သည် လူသား၏ သောင်ဗဟ်လုပ်ခြင်းကို အသက်မငင်သေးခင်အချိန်ထိ လက်ခံတော်မူသည်။[၃]

**မတ်စ်အလဟ် – (၃၇၇) အလ္လာဟ်အရှင်မြတ်သည် စစ်မှန်သောသောင်ဗဟ်လုပ်သူများ၏ အပြစ်အားလုံးကို ခွင့်လွှတ်တော်မူမည်ဟု မိမိ၏ ဂုဏ်သိက္ခာတော်ဖြင့် ကစမ်ဆိုတော်မူပြီး မိန့်ကြားထားသည်။**

အဗူစအီးဒ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ရှိုင်သွာန်က ပြောခဲ့သည်။ အရှင်မြတ်၏ ဂုဏ်သိက္ခာတော်ကိုတိုင်တည်ပါသည်။ ကျွန်တော်သည်အရှင့်ကျေးကျွန်များ၏ ခန္ဓာအတွင်း၌ အသက်ရှိနေသမျှ သူတို့အား လမ်းလွဲအောင်ကြိုးစားအားထုတ်ပါမည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်က မိန့်ကြားတော်မူသည်။ ငါ

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၅၇၇။

၂ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၄၂၅၀။

၃ – သိရ်မိဇီကျမ်း၊ နံပါတ် – ၃၅၃၇။

အရှင်မြတ်၏ ဂုဏ်သိက္ခာတော်၊ ငါ့အရှင်မြတ်၏ အဆင့်အတန်း မြင့်မားမှုကို တိုင်တည်သည်။ သူတို့သည် ငါ့အရှင့်ထံ လွတ်ငြိမ်းချမ်းသာခွင့် တောင်းခံနေသမျှ ငါအရှင်သည် သူတို့အား ခွင့်လွှတ်တော်မူမည်။[၁]

မတ်စ်အလဟ် – (၃၇၈) အောက်ဖော်ပြပါဒုအာများဖြင့် အလ္လာဟ်အရှင်မြတ်ထံ သောင်ဗဟ်လုပ်သူများ၏ အပြစ်များကို အရှင်မြတ်က ခွင့်လွှတ်တော်မူသည်။

ဗိလားလ်ဗင်န်ယစားရ်ဗင်န်ဇိုင်ဒ် ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ မည်သူမဆို အောက်ပါဒုအာဖြင့် လွတ်ငြိမ်းချမ်းသာခွင့်တောင်းခံခဲ့ပါက အလ္လာဟ်အရှင်မြတ်သည် ထိုသူ၏အပြစ်များအား ခွင့်လွှတ်တော်မူသည်။ အကယ်၍ ထိုသူသည် ရှေ့တန်းစစ်မြေပြင်မှ ထွက်ပြေးထားသူဖြစ်ပါစေ။[၂]

أَسْتَغْفِرُ اللهَ الَّذِي لَا إِلٰهَ إِلَّا هُوَ الْحَيُّ الْقَيُّوْمُ وَأَتُوْبُ إِلَيْهِ

မတ်စ်အလဟ် – (၃၇၉) အောက်ဖော်ပြပါ ဒုအာဖြင့် လွတ်ငြိမ်းချမ်းသာခွင့် တောင်းခံခဲ့သည်ရှိသော် အလ္လာဟ်အရှင်မြတ်သည် အပြစ်များကို ခွင့်လွှတ်တော်မူမည့်အပြင် ဂျန္နသ်သုခဘုံကိုပါ ချီးမြှင့်တော်မူမည်။

အိစ်သိဂ်ဖားရ် ခွင့်လွှတ်ချမ်းသာခွင့် တောင်းခံမှုဒုအာများ၏ ထိပ်ခေါင်မှာ အောက်ပါအတိုင်းဖြစ်သည်။

اَللّٰهُمَّ أَنْتَ رَبِّيْ لَا إِلٰهَ إِلاَّ أَنْتَ خَلَقْتَنِيْ وَأَنَا عَبْدُكَ وَأَنَا عَلٰى عَهْدِكَ وَوَعْدِكَ مَا اسْتَطَعْتُ، أَعُوْذُ بِكَ مِنْ شَرِّ مَا صَنَعْتُ، أَبُوْءُ لَكَ بِنِعْمَتِكَ عَلَيَّ، وَأَبُوْءُ بِذَنْبِي فَاغْفِرْ لِيْ فَإِنَّهُ لَا يَغْفِرُ الذُّنُوبَ إِلاَّ أَنْتَ.

"အို – အလ္လာဟ်အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုး၏ မွေး

---

၁ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း။

၂ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၁၅၁၇။

မြှုဖန်ဆင်းရှင် ဖြစ်တော်မူပါသည်။ အရှင်မြတ်မှတစ်ပါး အခြား ကိုးကွယ်ခံထိုက် သူအရှင်မရှိပါ။ အရှင်မြတ်သာလျှင် ကျွန်တော်မျိုးအားဖန်ဆင်းတော်မူခဲ့ပါသည်။ ကျွန်တော်မျိုးသည် အရှင့် ကျေးကျွန် စင်စစ်ဖြစ်ပါသည်။ ကျွန်တော်မျိုးသည် အရှင်မြတ်နှင့်ထားရှိသော ကတိပဋိညာဉ်ပေါ်တတ်နိုင်သလောက် ရပ်တည်ခဲ့ပါသည်။ ကျွန်တော်မျိုးပြုမှားမိခဲ့သော မကောင်းမှုများ၏ အကျိုးဆက် မှအရှင်မြတ်ထံခိုလှုံပါ။ အရှင်မြတ်၏ နိအ်မသ် ကောင်းချီးပေးမှုများ ကျွန်တော်မျိုးအပေါ်ရှိသည်ကို ကျွန်တော်မျိုး ဝန်ခံပါ၏။ ထို့ပြင် ကျွန်တော်မျိုး၏ အပြစ်များကိုလည်း ဝန်ခံပါ၏။ ကျွန်တော်မျိုးကို ခွင့် လွှတ်တော်မူပါ။ အရှင်မြတ်မှတစ်ပါး အပြစ်များကို ခွင့်လွှတ်နိုင်သူ အခြား မရှိပါ။”

မည်သူမဆို နေ့အချိန်တွင် ဤဒုအာအား ယုံယုံကြည်ကြည်ဖြင့် ရွတ်ဖတ်ခဲ့ပြီး ထိုနေ့ နေမဝင်ခင်မှာပင် ကွယ်လွန်သေဆုံးခဲ့ပါက ထိုသူသည် ဂျန္နသ်သုခဘုံသားဖြစ်မည်။ မည်သူမဆို ယင်းဒုအာကို ညအချိန်တွင် ယုံယုံကြည်ကြည်ဖြင့် ရွတ်ဖတ်ခဲ့ပြီး မနက်မိုးမလင်မီ ကွယ်လွန်ခဲ့ပါက ထိုသူသည် ဂျန္နသ်သုခဘုံသားဖြစ်မည်။[၁]

**မတ်စ်အလဟ် – (၁၈၀) အောက်ဖော်ပြပါ၏ဒုအာကို သုံးကြိမ်ရွတ်ဖတ်ပါက သက်တမ်းတစ်လျှောက်လုံးကျူးလွန်ခဲ့သောအပြစ်များကို အလ္လာဟ်အရှင် ခွင့်လွှတ်တော်မူမည်။**

**اَللّٰهُمَّ مَغْفِرَتُكَ أَوْسَعُ مِنْ ذُنُوْبِيْ وَرَحْمَتُكَ أَرْجَى عِنْدِيْ مِنْ عَمَلِيْ**

ဂျာဗိရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ လူတစ်ဦးသည် တမန်တော်မြတ် ﷺထံသို့လာပြီး “ကျွန်တော်မျိုး၏ အပြစ်များမှာ များပြားလိုက်လေခြင်း”ဟု ရေရွတ်လေသည်။ ကိုယ်တော်မြတ်က အသင် ရွတ်ဆိုပါဟု မိန့်ကြားတော်မူသည်။ ထိုသူက ယင်းဒုအာကို ရွတ်ဖတ်လေသည်။ ကိုယ်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ အသင် နောက်တစ်ခေါက်ထပ်ဖတ်ပါ။ ထိုသူက နောက်တစ်ခေါက်ရွတ်ဖတ်သည်။ ကိုယ်တော်မြတ်က မိန့်

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၆၃၀၆။

တော်မူသည်။ အသင် နောက်တစ်ခေါက် ရွတ်ဖတ်ပါ။ ထိုသူက နောက်တစ်ခေါက် ရွတ်ဖတ်သည်။ ထို့နောက် ကိုယ်တော်မြတ်က မိန့်ကြားတော်မူသည်။ "အသင် သွားပါ။ အရှင်မြတ်က အသင့်အား ခွင့်လွှတ်တော်မူလိုက်လေပြီ။[၁]

**မတ်စ်အလဟ် - (၃၈၁) လူပေါင်း (၁၀၀)ကို သတ်ဖြတ်ခဲ့ပြီးနောက် စစ်မှန်သောသောင်ဗဟ်လုပ်သောကြောင့် အလ္လာဟ်အရှင်မြတ်သည် လူသတ်သမျှား၏ အပြစ်များကို ခွင့်လွှတ်ပေးတော်မူခဲ့သည်။**

အဗူစအီးဒ်ခုဒ်ရီ ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "ရှေးယခင်ကလူမျိုးများတွင် လူတစ်ဦးရှိခဲ့သည်။ သူသည် လူပေါင်း (၉၉)ဦးကို သတ်ဖြတ်ခဲ့သည်။ ထို့နောက် အသိပညာအရှိဆုံးသူကို စုံးစမ်းမေးမြန်းဖို့ထွက်လာခဲ့သည်။ နစ္စရာနီဘုန်းတော်ကြီးတစ်ပါးကို လူတို့က ညွှန်ကြသဖြင့် သူ့ထံသို့ လာပြီးပြောသည်။ မိမိသည် လူပေါင်း (၉၉)ဦးကို သတ်ဖြတ်ခဲ့ပါသည်။ ယခု သောင်ဗဟ်လုပ်၍ ရပါသလား။ ထိုဘုန်းတော်ကြီးက သောင်ဗဟ်လုပ်၍ မရတော့ပါဟု ဖြေလေသည်။ ထိုအခါ သူ့ကိုပါ သတ်ဖြတ်ပစ်လိုက်ရာ အယောက် (၁၀၀) ပြည့်သွားလေတော့သည်။

ထို့နောက်တဖန် ပညာအတတ်ဆုံးသောသူအား ရှာဖွေရန် ထွက်လာခဲ့သည်။ ပညာရှင်တစ်ဦးအား လူတို့က ညွှန်ပြကြသည်။ ထိုပညာရှင်ထံသို့လာပြီး သူက မေးမြန်းသည်။ မိမိသည် လူအယောက်တစ်ရာကို သတ်ဖြတ်ခဲ့ပါသည်။ မိမိအတွက် သောင်ဗဟ်အမှားဝန်ချလို့ ရပါသေးသလား။ ထိုပညာရှင်က ဖြေသည်။ သောင်ဗဟ်လုပ်၍ ရပေသည်။ လူတစ်ဦးနှင့် သောင်ဗဟ်လုပ်ခြင်းကြားတွင် မည်သည့်အရာက ဟန့်တားနိုင်ပါသနည်း။ အဘာယ် အဘာယ်ဒေသသို့ အသင်သွားလိုက်ပါ။ ထိုဒေသတွင် လူတို့သည် အလ္လာဟ်အရှင်မြတ်ကိုသာ ကိုးကွယ်ကြသည်။ အသင်လည်း သူတို့နှင့်

---
၁ - ဟာကိင်မ်ကျမ်း။

အတူ အလွှာ့ဟ်ကို ကိုးကွယ်ပါ။ အသင့်ဒေသသို့ မပြန်လေတော့နှင့်။ ထိုဒေသသည် မကောင်းသောဒေသဖြစ်သည်။

သို့နှင့် သူသည်ထွက်လာခဲ့လေသည်။ သွားရင်းနှင့် လမ်းခုလတ်သို့ ရောက် သောအခါ သူသေဆုံးရမည့်အချိန် ဆိုက်ရောက်လာလေသည်။ သို့ဖြစ်ရာ ကရုဏာကောင်းကင်တမန်များနှင့် အပြစ်ဒဏ်ကောင်းကင်တမန်များ အချင်းများကြလေတော့သည်။ ကရုဏာကောင်းကင်တမန်များက ပြောသည်။ ထိုသူသည် သောင်ဗဟ်လုပ်၍ အလွှာ့ဟ်ထံ စိတ်ရောကိုယ်ပါ လှည့်လာသူဖြစ်သည်။ အပြစ်ဒဏ်ကောင်းကင်တမန်များက ပြောကြသည်။ ထိုသူသည် မည်သည့်ကောင်းမှုကုသိုလ်တစ်ခုမျှ မလုပ်ရသေးပါ။ ထို့နောက် ကောင်းကင်တမန်တစ်ပါးသည် လူတစ်ဦးအသွင်ဖြင့် ရောက်လာသည်။ ကောင်းကင်တမန်များက ထိုသူ့အား စီရင်ဆုံးဖြတ်သူအဖြစ် ထားလိုက်ကြသည်။ သူက အဆုံးအဖြတ်ပေးသည်။ ဒေသနှစ်ခုကြားတွင် အသင်တို့ တိုင်းထွာကြည့်ကြပါ။ သူသည် ပို၍ နီးစပ်သောဒေသနှင့် သက်ဆိုင်သည်။ သို့နှင့် ထိုင်းထွားကြည့်ကြသောအခါ သူဦးတည်၍သွားနေသောဒေသနှင့် ပိုနီးစပ်နေသည်ကို တွေ့လိုက်ရသည်။ ထိုအခါ ကရုဏာကောင်းကင်တမန်များက သူ့အား ခေါ်ဆောင်သွားကြလေတော့သည်။ ကသာဒဟ် ﷺက ပြောသည်။ ဟစန် ﷺက မိန့်သည်။ ထိုသူသည် ကွယ်လွန်ခါနီးတွင် ရင်ဘတ်ဖြင့်တရွတ်တိုက်ပြီး ထိုဒေသဘက်သို့ သွားနေသေးသည်။[၁]

  

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၇၆၆။

## သေးငယ်သောအပြစ်များ၏ နိမိတ်လက္ခဏာများ

မတ်စ်အလဟ် –(၃၈၂) လုပ်ရပ်တစ်ခုကို တမန်တော်မြတ် ﷺက တားမြစ်တော်မူခဲ့သည်၊ သို့သော် ပြင်းထန်သောစကားလုံးကို အသုံးမပြု၊ သို့မဟုတ် အမျက်ဒေါသကို ထုတ်ဖော်ပြသခြင်းမရှိသော ပြစ်မှုများသည် သေးငယ်သောအပြစ်များဖြစ်သည်။ ဥပမာ –

အဗူဟိုရိုင်ရဟ် ؓထံမှ ဆင့်ပြန်ချက်လာရှိသည်။ စွလားသ်ဝတ်ပြုနေစဉ် ခါးထောက်ထားခြင်းမှ တားမြစ်ခြင်းခံရသည်။[၁]

မတ်စ်အလဟ် –(၃၈၃) အလ္လာဟ်အရှင်မြတ်နှင့် အရှင့်တမန်တော်က နှစ်သက်တော်မမူ၊ သို့သော် ထိုအတွက်ပြင်းထန်သောစကားလုံးကိုမသုံးထားပါက သေးငယ်သောအပြစ်ဖြစ်သည်။ ဥပမာ –

အဗူဗရ်ဇဟ် ؓထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် ညဥ့်၏ သုံးပုံတစ်ပုံအချိန်ထိ အိရှာစွလားသ်ကို ဆိုင်းငံ့တော်မူသည်။ ကိုယ်တော်မြတ် ﷺသည် အိရှာမတိုင်မီအိပ်စက်ခြင်းနှင့် အိရှာပြီးနောက် စကားစမြည်ပြောဆိုခြင်းကို နှစ်သက်တော်မမူပေ။[၂]

အမရ်ဗင်န်ရှုအိုင်ဗ် ؓထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် ဆံပင်ဖြူနုတ်ခြင်းမှ တားမြစ်တော်မူခဲ့သည်။ ဆံပင်ဖြူသည် မွတ်စ်လင်မ်တစ်ဦး၏ နူးရ်အလင်းရောင်ဖြစ်သည်ဟု မိန့်ကြားတော်မူခဲ့သည်။[၃]



---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၁၂၂၀။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၆၄၇။

၃ – သိရ်မိဇီကျမ်း၊ နံပါတ် – ၂၈၂၁။

## သေးငယ်သောအပြစ်များ

**မတ်စ်အလဟ် – (၃၈၄) သေးငယ်သောအပြစ်များကို အောက်တွင် ဖော်ပြလိုက်ပါသည်။**

**(၁) ဝူဇူလုပ်ပြီးနောက် လက်ချောင်းကလေးများကြားတွင် အခြားလက်ချောင်းကလေးများကို ယှက်သမ်းခြင်း။**

ကအဗ်ဗင်န်အုဂျ်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်။ အသင်တို့တစ်ဦးတစ်ယောက်သည် ဝူဇူလုပ်သောအခါကောင်းမွန်ကျနစွာပြုလုပ်မည်၊ပြီးနောက်ဗလီဝတ်ကျောင်းတော်သို့သွားသောအခါ လက်ချောင်းကလေးများကို ယှက်သမ်းမထားလေနှင့်။ အဘယ့်ကြောင့်ဆိုသော် သူသည် စွလားသ်အတွင်း၌ ရှိနေပေသည်။[၁]

**(၂) စွလားသ်ဝတ်ပြုနေစဉ်ဆံပင်ကိုပြုပြင်ခြင်း၊ အဝတ်ကိုခေါက်သိမ်းခြင်း**

အိဗ်နအဗ်ဗားစ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် အရိုးခုနစ်ခုပေါ်တွင် စဂျ်ဒဟ်ဦးချရန် အမိန့်ပေးတော်မူခဲ့သည်။ ထို့ပြင် စွလားသ်ဝတ်ပြုနေစဉ် အဝတ်အစားနှင့် ဆံပင်များကို ခေါက်လိပ်ခြင်းမပြုလေနှင့်။[၂]

**(၃) စွလားသ်ဝတ်ပြုနေစဉ် ခါးထောက်ထားခြင်း**

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ "ခါးထောက်၍ စွလားသ်ဝတ်ပြုခြင်းကို တမန်တော်မြတ် ﷺ က တားမြစ်တော်မူခဲ့သည်။[၃]

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၅၆၂။

၂ – ဗုခါရီကျမ်း၊ နံပါတ် – ၈၁၁။

၃ – ဗုခါရီကျမ်း၊ နံပါတ် – ၁၂၂၀။

(၄) **စွလားသ်ဝတ်ပြုနေစဉ် သန်းဝေခြင်းကို မထိန်းချုပ်ခြင်း**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ စွလားသ်ဝတ်ပြုနေစဉ် သန်းဝေခြင်းသည် ရှိုင်သွာန်ဘက်မှဖြစ်သည်။ ထို့ကြောင့် တစ်ဦးတစ်ယောက်သည် သန်းဝေပါက အတတ်နိုင်ဆုံး ထိန်းချုပ်ပါ။[၁]

(၅) **စွလားသ်ဝတ်ပြုစဉ် မှီ၍ ထိုင်ခြင်း။**

အိဗ်နအုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် စွလားသ်ဝတ်ပြုရာတွင် မှီ၍ ထိုင်ခြင်းကို တားမြစ်တော်မူခဲ့သည်။[၂]

(၆) **အကြောင်းမရှိဘဲ အိရှာဟ်စွလားသ်မတိုင်မီ အိပ်စက်ခြင်းနှင့် အိရှာဟ်စွလားသ်ဝတ်ပြုပြီးနောက် စကားစမြည်ပြောခြင်း**

အဗူဗရ်ဇဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် အိရှာဟ်စွလားသ်ကို ညဉ့်၏သုံးပုံတစ်ပုံအထိ ဆိုင်းငံ့တော်မူလေ့ရှိသည်။ ကိုယ်တော်မြတ် ﷺသည် အိရှာဟ်မတိုင်မီ အိပ်စက်ခြင်းနှင့် အိရှာဟ်ပြီးနောက် စကားစမြည်ပြောခြင်းကို တားမြစ်တော်မူခဲ့သည်။

(၇) **ရေသောက်သောအခါ ရေခွက်ထဲ အသက်ရှုခြင်း။**

(၈) **ကျင်ငယ်စွန့်သောအခါ ညာဘက်လက်ဖြင့် အရှက်ကို ကိုင်ခြင်း**

(၉) **ကျင်ကြီး ကျင်ငယ်စွန့်သောအခါ ညာဘက်လက်ဖြင့် ဆေးကြောခြင်း**

ကသာဒဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ အသင်တို့တစ်ဦးတစ်ယောက်သည် ရေသောက်သောအခါ ခွက်အတွင်းသို့ အသက်ရှုမထုတ်လေနှင့်။ ကျင်ငယ်စွန့်သောအခါ အရှက်အင်္ဂါကို ညာဘက်လက်ဖြင့် မကိုင်လေနှင့်။ အညစ်

---

၁ – သိရ်မိဇီကျမ်း၊ နံပါတ် – ၃၇၀။

အကြေးဆေးကြောသောအခါ ညာဘက်လက်ဖြင့် မဆေးကြောလေနှင့်။[၁]

## (၁၀) ဗလီဝတ်ကျောင်းတော်များ အလှအပချယ်သမှုဖြင့် ဂုဏ်မောက်ခြင်း

အနတ်စ်ဗင်န်မာလိက် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် ဗလီဝတ်ကျောင်းတော်များကို အလှဆင်ချယ်သပြီး ဂုဏ်ပြိုင်ခြင်းမှ လူတို့အား တားမြစ်တော်မူခဲ့သည်။[၂]

## (၁၁) လက်ခလယ်နှင့် လက်သကြွယ်တို့တွင် လက်စွပ်ဝတ်ဆင်ခြင်း

အလီ ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် ကျွန်တော့်အား လက်ခလယ်နှင့် လက်သကြွယ်တွင် လက်စွပ်ဝတ်ခြင်းမှ တားမြစ်တော်မူခဲ့သည်။[၃]

## (၁၂) ဘယ်လက်ဖြင့် အစာစားခြင်း

အိဗ်နအုမရ် ﵁ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ အသင်တို့အနက်မှ မည်သူမျှ ဘယ်ဘက်လက်ဖြင့် မစားသောက်လေနှင့်၊ ဘယ်ဘက်လက်ဖြင့် မသောက်လေနှင့်။ အဘယ်ကြောင့်ဆိုသော် ရှိုင်သွာန်သည် ဘယ်ဘက်လက်ဖြင့် စားသည်၊ ဘယ်ဘက်လက်ဖြင့် သောက်သည်။[၄]

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၁၄၉။

၂ – အိဗ်နဟိဗ်ဗာန်ကျမ်း၊ နံပါတ် – ၆၁၃။

၃ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၀၉၅။

၄ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၀၂၀။

## (၁၃) မီးအိမ်ကို မငြိမ်းသတ်ဘဲ အိပ်စက်ခြင်း

အိဗ်နအုမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ အသင်တို့ ညဥ့်အိပ်စက်သောအခါ မီးအိမ်ကို မငြိမ်းဘဲ မထားကြလေနှင့်။[၁]

## (၁၄) မှောက်လျက် လှဲအိပ်ခြင်း

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် မှောက်လျက်လှဲ၍ အိပ်စက်နေသူကို တွေ့မြင်တော်မူပြီး မိန့်ကြားတော်မူသည်။ ဤပုံစံ လှဲလျောင်းခြင်းကို အလ္လာဟ်အရှင်မြတ် နှစ်သက်တော်မမူပေ။[၂]

## (၁၅) ဆံပင်ဖြူနှုတ်ခြင်း

အမရ်ဗင်နရှုအိုင်ဗ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် ဆံပင်ဖြူနှုတ်ခြင်းမှ တားမြစ်တော်မူခဲ့သည်။ ကိုယ်တော်မြတ် ﷺက မိန့်ကြားသည်။ ဆံပင်ဖြူသည် မွတ်စ်လင်မ်တစ်ဦး၏ နူးရ် အလင်းရောင်ဖြစ်သည်။[၃]

## (၁၆) ဟလားလ်အစားအသောက်အား မနှစ်မြို့ခြင်း

ဟလဗ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ အား လူတစ်ဦးက မေးမြန်းခဲ့သည်။ "အဘယ်အစားအသောက်ကို ကျွန်တော်မျိုး ရှောင်ကြဉ်ရမည်နည်း။" တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ ဟလားသ်အစားအသောက်နှင့်စပ်လျဉ်းပြီး စိတ်ထဲတွင် မနှစ်သက်မှုမဖြစ်လေနှင့်။ အသင်တို့သည် နစ္စရာနီများနှင့် ဆင်တူအောင်လုပ်နေ

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၀၁၅။

၂ – သိရ်မိဇီကျမ်း၊ နံပါတ် – ၂၇၆၈။

၃ – သိရ်မိဇီကျမ်း၊ နံပါတ် – ၁၆၃၅။

ကြသလော။[၁]

## (၁၇) တစ်ဦးတစ်ယောက်၏ လေလည်ခြင်းအား ရယ်မောခြင်း

ဂျာဗိရ် ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် "လေလည်ခြင်းအား ရယ်ခြင်းမှ တားမြစ်တော်မူခဲ့သည်။"[၂]

## (၁၈) နေရိပ်တစ်ဝက် နေပူတစ်ဝက် ဖြစ်နေသောနေရာတွင်ထိုင်ခြင်း

စွဟာဗဟ် ﵁ တစ်ဦးထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် နေရိပ်တစ်ဝက် နေပူတစ်ဝက်ဖြစ်နေသောနေရာတွင်ထိုင်ခြင်းမှ တားမြစ်တော်မူခဲ့သည်။ "ယင်းသည် ရှိုင်သွာန်ထိုင်သောနေရာဖြစ်သည်" ဟု မိန့်ကြားတော်မူခဲ့သည်။[3]

## (၁၉) ချေ့သည်အတွက် မိမိတတ်စွမ်းနိုင်သည်ထက်ပိုချေ့ခံခြင်း

စလ်မာန်ဖာရိစီထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် ချေ့သည်အတွက် မိမိတတ်စွမ်းနိုင်သည်ထက်ပို ချေ့ခံခြင်းမှ တားမြစ်တော်မူခဲ့သည်။[၄]

## (၂၀) အကာအကွယ်မရှိသော ခေါင်မိုးပေါ်တွင် အိပ်စက်ခြင်း

ဂျာဗိရ် ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ် ﷺ သည် အကာအကွယ်လုပ်မထားသော ခေါင်မိုးပေါ်တွင် အိပ်စက်ခြင်းမှ တားမြစ်တော်မူခဲ့သည်။[၅]

---

၁ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၃၇၈၄။

၂ – သွပ်ရာနီကျမ်း။

၃ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် – ၁၅၄၃။

၄ – ဟာကင်မ်ကျမ်း။

၅ – သိရ်မိဇီကျမ်း၊ နံပါတ် – ၂၈၅၄။

## (၂၁) မတ်တတ်ရပ်ပြီး ဖိနပ်စီးခြင်း

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် မတ်တတ်ရပ်ပြီး ဖိနပ်စီးခြင်းမှ တားမြစ်တော်မူခဲ့သည်။[၁]

## (၂၂)ကြက်ကို မကောင်းပြောခြင်း

ဇိုင်ဒ်ဗင်န်ခါလိဒ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ အသင်တို့သည် ကြက်ကို မကောင်းမပြောကြလေနှင့်။ အဘယ်ကြောင့်ဆိုသော် ကြက်သည် စွလားသ်ဝတ်ပြုမှုအတွက် နှိုးပေးခြင်းဖြစ်သည်။[၂]

## (၂၃) များများရယ်မောခြင်း

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ များများ မရယ်ကြလေနှင့်။ အဘယ်ကြောင့်ဆိုသော် များများရယ်ခြင်းသည် စိတ်နလုံးကို သေစေသည်။[၃]

## (၂၄) နာမကျန်းဖြစ်နေသူအား ဖွတ်အတင်း ကျွေးမွေးခြင်း

အုက်ဗဟ်ဗင်န်အာမိရ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ အသင်တို့ နာမကျန်းဖြစ်နေသူများကို အစားအသောက်အတွက် ဖွတ်အတင်းမလုပ်ကြလေနှင့်၊ အလ္လာဟ်အရှင်မြတ်သည် သူတို့အား ကျွေးတော်မူသည်၊ ရေတိုက်တော်မူသည်။[၄]

---

၁ – အဗူဒါဝူဒ်ကျမ်း၊ နံပါတ် – ၄၁၃၅။

၂ – အဗူဒါဝူးဒ်ကျမ်း။

၃ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၅၁၀၁။

၄ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၃၄၄၄။

**(၂၅) ဖျားနာခြင်းကို မကောင်းပြောဆိုခြင်း**

ဂျာဗိရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ ဖျားနာခြင်းကို မကောင်းမပြောကြလေနှင့်။ အဘယ်ကြောင့်ဆိုသော် ပန်းပဲဖိုသည် သံ၏ အညစ်အကြေးကို ပပျောက်စေသကဲ့သို့ ဖျားနာခြင်းသည် လူသား၏ အပြစ်များကို ပပျောက်စေသည်။[၁]

  

## သေးငယ်သောအပြစ်များအတွက် ကဖ်ဖွာရဟ်မှာ ကောင်းမှုလုပ်ခြင်း ဖြစ်သည်။

**မတ်စ်အလဟ် – (၃၈၅) ကောင်းမှုကုသိုလ်များသည် သေးငယ်သော အပြစ်များ လွတ်ငြိမ်းချမ်းသာခွင့်ရရန် အကြောင်းခံဖြစ်သည်။**

اِنَّ الْحَسَنٰتِ يُذْهِبْنَ السَّيِّاٰتِ

အမှန်စင်စစ် ကောင်းမှုများသည် မကောင်းမှုများကို ပပျောက်စေသည်။[၂]

အဗူဇရ်ထံ ﷺမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "အသင်ဘယ်နေရာမှာရှိရှိ အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့ပါ။ မကောင်းမှုတစ်ခုကျူးလွန်ပြီးနောက် ကောင်းမှုတစ်ခုကို ပြုလုပ်ပါ။ ထိုကောင်းမှုသည် မကောင်းမှုကို ပယ်ဖျက်ပေးသည်။ လူတို့အား ကောင်းမြတ်သောစာရိတ္တဖြင့် ဆက်ဆံပါ။[၃]

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၅၇၅။

၂ – ကုရ်အာန် ၁၁း ၁၁၄။

၃ – သိရ်မိဇီကျမ်း၊ နံပါတ် – ၁၉၈၇။

**မတ်စ်အလဟ် – ( ၁၈၆) ဝူဇူလုပ်ခြင်းအားဖြင့် မျက်လုံး၊ လက်နှင့် ခြေတို့မှ ကျူးလွန်ထားသောပြစ်မှုငယ်များ ပလပ်သွားသည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "မွတ်စ်လင်မ်တစ်ဦးသို့မဟုတ်မုအ်မင်န်တစ်ဦး သည် ဝူဇူလုပ်သောအခါ မျက်နှာဆေးကြောလိုက်သည်နှင့် သူ့မျက်လုံးက ကျူးလွန်ထားသောပြစ်မှုများသည် ရေနှင့်အတူ၊ သို့မဟုတ် နောက်ဆုံး ရေစက်နှင့်အတူ ထွက်ကျသွားလေသည်။ လက်ဆေးလိုက်သောအခါ သူ့လက်က ကျူးလွန်ထားသောပြစ်မှုများသည် ရေနှင့်အတူ၊ သို့မဟုတ် နောက်ဆုံးရေစက်နှင့်အတူ ထွက်ကျသွားလေသည်။ ခြေထောက်ဆေး လိုက်သောအခါ သူ့ခြေထောက်က ကျူးလွန်ထားသောပြစ်မှုများသည် ရေနှင့်အတူ၊ သို့မဟုတ် နောက်ဆုံးရေစက်နှင့်အတူ ထွက်ကျသွားလေ သည်။ နောက်ဆုံးတွင် သူသည် အပြစ်များမှ လုံးဝ သန့်စင်သွားလေသည်။[၁]

**မတ်စ်အလဟ် – (၁၈၇) စွဒကဟ်အလှူဒါနလုပ်ခြင်းနှင့် သဟာဂျ်ဂျုဒ် စွလားသ်ဆောက်တည်ခြင်းသည် အပြစ်များကို ပပျောက်စေသည်။**

မုအားဇ်ဗင်န်ဂျဗလ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော် မြတ် ﷺ မိန့်ကြားတော်မူသည်။ "ကောင်းခြင်း၏တံခါးများကို အသင်တို့ အား ငါကိုယ်တော် မပြောပြရဘူးလား။ စွောင်ဥပုသ်စောင့်ထိန်းခြင်းသည် ဒိုင်းသဖွယ်ဖြစ်သည်။ စွဒကဟ်အလှူဒါနနှင့် ညအလယ်တွင် စွလားသ် ဝတ်ပြုခြင်းသည် အပြစ်များကို ငြိမ်းသတ်ပေးသည်။[၂]

**မတ်စ်အလဟ် – (၁၈၈) ဒုတိယစွလားသ်သည် ပထမစွလားသ်ပြီးနောက် ကျူးလွန်ခဲ့သည့်သေးငယ်သောအပြစ်များကို ပလပ်စေသည်။**

အွစ်မာန် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ်

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၄၄။

၂ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် – ၂၂၀၆။

ﷺ မိန့်ကြားတော်မူသည်ကို ကျွန်ုပ်ကြားခဲ့သည်။ "မည်သူမွတ်စ်လင်မ်ဆို ဖရဇ်စွလားသ်အချိန်ကျလာသောအခါ ဝူဇူကို ကောင်းမွန်ကျနစွာလုပ်မည်၊ စွလားသ်တွင် ခုရှူးအ်စိတ်နှလုံးရှိကျိုးမှုနှင့် ရကူးအ်ဦးညွတ်မှုတို့ကို ကောင်းမွန်ကျနစွာပြုလုပ်ခဲ့ပါက ယင်းစွလားသ်သည် သူမတိုင်မီက ကျူး လွန်ခဲ့သည့်အပြစ်များကို ပလပ်စေသည်။ သို့သော် စည်းကမ်းချက်မှာ ကြီးလေးသောအပြစ်များကို မကျူးလွန်ထားရပေ။ ဤသည် တစ်သက်တာ လုံး အတွက် ဖြစ်သည်။[၁]

**မတ်စ်အလဟ် –(၃၈၉) လက်ရှိဂျုမုအဟ်သည် သူ့အလျင် ဂျုမုအဟ် စွလားသ်အကြားတွင် ကျူးလွန်ခဲ့သော အပြစ်ငယ်များကို ပလပ်စေသည်။**

**မတ်စ်အလဟ် –(၃၉၀) လက်ရှိရမဇာန်သည် သူ့အလျင်ဂျုမုအဟ် စွလားသ်အကြားတွင် ကျူးလွန်ခဲ့သော အပြစ်ငယ်များကို ပလပ်စေသည်။**

ရှင်းလင်းချက်။ မတ်စ်အလဟ် –(၁) တွင် ဟဒီးဆ်ကို ရှုစားပါကုန်။

**မတ်စ်အလဟ် –(၃၉၁) ဖရဇ်စွလားသ်ဝတ်ပြုရန်အတွက် ဗလီဝတ် ကျောင်းတော်သို့ လမ်းလျှောက်သွားခြင်းသည် အပြစ်များမှ လွတ်ငြိမ်းချမ်း သာခွင့်ရရန် အကြောင်းခံဖြစ်သည်။**

အဗူဟိုရိုင်ရဟ် ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ အပြစ်များကို ပလပ်စေသောအရာများမှာ (၁) (ရောဂါကြောင့် သို့မဟုတ် ရာသီဥတုအေးသောကြောင့်) မနှစ်မြို့ပါလျက် နှင့် ဝူဇူကို သေချာကျနစွာ ပြုလုပ်ခြင်း၊ (၂) ဗလီဝတ်ကျောင်းတော်ဘက်သို့ ခြေလှမ်းခြင်း၊ (၃) စွလားသ်တစ်ကြိမ်ပြီးနောက် နောက်စွလားသ်တစ်ကြိမ်

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၂၈။

အတွက် စောင့်ဆိုင်းခြင်းတို့ဖြစ်သည်။[၁]

**မတ်စ်အလဟ် – (၃၉၂) အရဖဟ်နေ့ညရဲ့ ဈောင်မ်ဉပုသ်သည် လွန်ခဲ့သော တစ်နှစ်တာလုံး၏ အပြစ်နှင့် လာမည့်တစ်နှစ်တာလုံး၏ အပြစ်များအတွက် ကဖ်ဖာရဟ်ဖြစ်သည်။**

**မတ်စ်အလဟ် – (၃၉၃) အာရှူရာနေ့၏ ဈောင်ဉပုသ်စောင့်ထိန်းခြင်းသည် လွန်ခဲ့သောတစ်နှစ်တာလုံး၏ အပြစ်များကို ပလပ်စေသည်။**

အဗူကသာဒဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “အရဖဟ်နေ့၏ ဉပုသ်ကြောင့် အလ္လာဟ် အရှင်မြတ်သည် လွန်ခဲ့သောနှစ်နှင့် လာမည့်နှစ်၏ အပြစ်များကို လွတ်ငြိမ်းချမ်းသွာခွင့်ပေးမည်ဟု ငါကိုယ်တော်မှတ်ယူသည်။ အာရှူရာနေ့၏ဉပုသ်စောင့်ထိန်းခြင်းကြောင့် အလ္လာဟ်အရှင်မြတ်သည် လွန်ခဲ့သောနှစ်တစ်နှစ်၏ အပြစ်များကို လွတ်ငြိမ်းချမ်းသာခွင့်ပေးမည်ဟု ငါကိုယ်တော် ထင်မှတ်သည်။[၂]

**မတ်စ်အလဟ် – (၃၉၄) ကဒရ်ညဥ့်မြတ်တွင် အိဗာဒသ်လုပ်ခြင်းသည် သက်တမ်းတစ်ခုလုံး၏ အပြစ်များကို ပလပ်စေသည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ မည်သူမဆို ကဒရ်ညဥ့်မြတ်တွင် ယုံယုံကြည်ကြည်ဖြင့် အကျိုးကုသိုလ်မျှော်ကိုးပြီး အိဗာဒသ်လုပ်ခဲ့ပါမူ အလျင်ကသူကျူး လွန်ခဲ့သည့်အပြစ်များ လွတ်ငြိမ်းချမ်းသာခွင့်ပေးခြင်းခံရသည်။[၃]

---

၁ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၄၂၈။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၁၆၂။

၃ – ဗုခါရီကျမ်း၊ နံပါတ် – ၁၉၀၁။

**မတ်စ်အလဟ် – (၃၉၅) ဘေးဒုက္ခများ၊ ပူဆွေးသောကရောက်စရာများသည်လည်း စွဗရ်သည်းခံခြင်းတရားလက်ကိုင်ထားပါက အပြစ်များကို ချွတ်ကယ်ပေးသောအရာဖြစ်သည်။**

အဗူစအီးဒ်နှင့် အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ “မုအ်မင်န်တစ်ဦးကြုံတွေ့ခံစားရသည့် ဘေးဒုက္ခများ၊ ရောဂါများ၊ ပူပန်သောကများ၊ ကုန်ကုန်ပြောရလျှင် သူခံစားရသည့် သောကများသည် သူ၏ အပြစ်များအား ချွတ်ကယ်ပေးသည်။[၁]

  

## သေးငယ်သောအပြစ်များ ခွင့်လွှတ်ခြင်းခံရရန် စည်းကမ်းချက်များ

**မတ်စ်အလဟ် – (၃၉၆) သေးငယ်သောအပြစ်များမှ လွတ်ငြိမ်းချမ်းသာခွင့်ရရန်မှာ ကြီးလေးသောအပြစ်များမှ ရှောင်ကြဉ်ရန် အရေးကြီးသည်။**

အဗူဟိုရိုဟ်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ စွလားသ်ငါးကြိမ်သည် တစ်ကြိမ်နှင့်တစ်ကြိမ်ကြား၊ ဂျုမုအဟ်တစ်ကြိမ်နှင့်တစ်ကြိမ်ကြား၊ ရမဇန်တစ်လနှင့်တစ်လကြားတွင် ကျူးလွန်သောအပြစ်ငယ်များသည် ခွင့်လွှတ်ခြင်းခံရသည်။ သို့သော် စည်းကမ်းချက်မှာ ကြီးလေးသောအပြစ်များမှ ရှောင်ကြဉ်ရမည်။[၂]

**မတ်စ်အလဟ် – (၃၉၇) သေးငယ်သောအပြစ်များမှ လွတ်ငြိမ်းချမ်းသာခွင့်ရရန်အတွက် သေးငယ်သောအပြစ်များကို ထပ်ခါတလဲလဲလုပ်ခြင်းမှ ရှောင်ကြဉ်ရမည်။**

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၅၇၃။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၃၃။

အဗ်ဒုလ္လာဟ်ဗင်န်အမရ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် မင်န်ဘာရ်ပေါ်မှ ဟောကြားတော်မူသည်။ "သိပါလျက်နှင့် မိမိကျူးလွန်သောပြစ်မှုများအပေါ် ထပ်ပြန်တစ်လဲလဲ ကျူးလွန်သူများပျက်စီးပါစေ။"[၁]

  

## လောကတွင် အကုသိုလ်များ၏ ပြစ်ဒဏ်

**မတ်စ်အလဟ် – (၃၉၈) လူသားတွေကြုံခံစားရသည့် ပူပန်သောကများ၊ ရောဂါဘေးဘယများသည် သူကျူးလွန်သောပြစ်မှုများကြောင့်ဖြစ်သည်။**

وَمَآ اَصَابَكُمْ مِّنْ مُّصِيْبَةٍ فَبِمَا كَسَبَتْ اَيْدِيْكُمْ وَيَعْفُوْا عَنْ كَثِيْرٍ ﴿٣٠﴾

ထို့ပြင် အသင်တို့တွင် ကျရောက်သော ဒုက္ခဟူသမျှသည် အသင်တို့၏ လက်များက ဆည်းပူးခဲ့ကြသော လုပ်ရပ်များကြောင့်ပင် ကျရောက်ခဲ့ခြင်းဖြစ်သည်။ ထို့ပြင် အရှင်မြတ်သည် ပြစ်မှုများစွာကို ခွင့်လွှတ်တော်မူသည်။[၂]

**မတ်စ်အလဟ် – (၃၉၉) ပြစ်မှုအကုသိုလ်များ၏အကျိုးဆက်ကြောင့် လူသား၏ဘဝသက်တမ်းတွင် ပူပန်သောကများ၊ ပူးဆွေးစရာများနှင့် ကြုံတွေ့ရသည်။**

وَمَنْ اَعْرَضَ عَنْ ذِكْرِىْ فَاِنَّ لَهٗ مَعِيْشَةً ضَنْكًا وَّنَحْشُرُهٗ يَوْمَ الْقِيٰمَةِ اَعْمٰى ﴿١٢٤﴾

ထို့ပြင် မည်သူမဆို ငါအရှင်မြတ်၏တရားတော်မှ မျက်နှာလွှဲခဲ့လျှင်

---

၁ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် – ၆၅၄၁။

၂ – ကုရ်အာန် ၄၂း၃၀

အမှန်စင်စစ် ထိုသူတွင် ကျပ်တည်းသော အသက်မွေးဝမ်း ကျောင်းမှုရှိလိမ့်မည်။ ထို့ပြင် ငါအရှင်မြတ်သည် သူ့ကို *ကိယာမသ်*နေ့တွင် မျက်ကန်းအဖြစ်နှင့် ရှင်ပြန်ထစေတော်မူမည်ဖြစ်သည်။[၁]

အဗူမူစာ ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "လူသားတွေကြုံခံစားရသော ဒုက္ခကြီးကြီး ငယ်ငယ်တို့သည် သူ၏ အပြစ်အကုသိုလ်ကြောင့် ဖြစ်သည်။ အလ္လာဟ် အရှင်မြတ် ခွင့်လွှတ်ပေးသည်များက ပို၍ များပေသည်။[၂]

**မတ်စ်အလဟ် – (၄၀၀) ကမ္ဘာမြေပထဝီပေါ်တွင် လူတို့၏ ပြစ်မှုများကြောင့် ကပ်ဘေးဆိုးကြီးများပေါ်ပေါက်သည်။**

ظَهَرَ الْفَسَادُ فِي الْبَرِّ وَالْبَحْرِ بِمَا كَسَبَتْ أَيْدِي النَّاسِ لِيُذِيقَهُم بَعْضَ الَّذِي عَمِلُوا لَعَلَّهُمْ يَرْجِعُونَ ﴿٤١﴾

လူများ၏လက်များက ရှာဖွေ(ကျူးလွန်)ခဲ့ကြသည့်အရာ (မကောင်းမှု)များကြောင့် ကုန်းမြေနှင့် ပင်လယ်တွင် ပျက်စီးမှု(ဒုက္ခ)များသည်ဖြစ်ပေါ်နေရသည်။(ထိုသို့ဖြစ်ရခြင်းမှာ) သူတို့သည် (မကောင်းမှုများမှ) ပြန်လှည့်လာကြရန် သူတို့ပြုလုပ်ခဲ့သော လုပ်ရပ်အချို့၏ အရသာကို အရှင်မြတ်က သူတို့အား မြည်းစမ်းစေတော်မူရန်ဖြစ်သည်။[၃]

**မတ်စ်အလဟ် – (၄၀၁) ပြစ်မှုအကုသိုလ်များကြောင့်ပင် လူသားသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ လက်မဲ့ဖြစ်ရသည်။**

وَلَا تَكُونُوا كَالَّذِينَ نَسُوا اللَّهَ فَأَنسَاهُمْ أَنفُسَهُمْ ۚ أُولَٰئِكَ هُمُ الْفَاسِقُونَ ﴿١٩﴾

ထို့ပြင် အသင်တို့သည် အကြင်သူများကဲ့သို့ မဖြစ်ကြနှင့်၊ ထိုသူများသည် *အလ္လာဟ်*အရှင်မြတ်အား မေ့ပစ်ခဲ့ကြသည်။ သို့ဖြစ်ရာ သူတို့အား

၁ – ကုရ်အာန် ၂၀း၁၂၄။
၂ – သိရ်မိဇီကျမ်း။
၃ – ကုရ်အာန် ၃၀း ၄၁။

အရှင်မြတ်ကလည်း သူတို့ကိုယ်ကိုသူတို့ပင် မေ့လျော့စေတော်မူခဲ့သည်။ ထိုသူများကမူ သူတို့ ပင် အမိန့်တော်ကို သွေဖည်သူများ ဖြစ်ကြသည်။[၁]

မတ်စ်အလဟ် – (၄၀၂) ပြစ်မှုအကုသိုလ်များကြောင့် လူသားပေါ်တွင် ရှိုင်သွာန်လွှမ်းမိုးသွားပေသည်။

وَاتۡلُ عَلَيۡهِمۡ نَبَاَ الَّذِىۡۤ اٰتَيۡنٰهُ اٰيٰتِنَا فَانْسَلَخَ مِنۡهَا فَاَتۡبَعَهُ الشَّيۡطٰنُ فَكَانَ مِنَ الۡغٰوِيۡنَ ﴿۱۷۵﴾

ထို့ပြင် အသင်သည် သူတို့ရှေ့၌ အကြင်သူ၏အကြောင်းကို ဖတ်ကြားလိုက်ပါ။ ငါအရှင်မြတ်သည် ထိုသူအား အရှင်မြတ်၏ သက်သေလက္ခဏာများ(အမိန့်ပညတ်တော်များ၏အသိပညာများ)ကို ပေးသနားတော် မူခဲ့သည်။ ထို့နောက် သူသည် ထိုသက်သေလက္ခဏာများကို စွန့်ပစ်ထွက်သွားခဲ့သည်။ သို့ဖြစ်ရာ *ရှိုင်သွာန်*သည် သူ၏ နောက်သို့ လိုက်လာခဲ့သည်။ ထို့နောက် သူသည် လမ်းမှားသူများထဲတွင် အပါအဝင်ဖြစ်သွားခဲ့သည်။[၂]

အဗူအောင်ဖာ ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြာတော်မူသည်။ တရားသူကြီးသည် မတရားမလုပ်သမျှကာလပတ်လုံး သူနှင့်အတူ အလ္လာဟ်အရှင်မြတ် ရှိတော်မူသည်။ မတရားလုပ်လိုက်သောအခါ အလ္လာဟ်အရှင်မြတ်သည် သူ့အား စွန့်ခွာတော်မူပြီး ရှိုင်သွာန်သည် သူနှင့်အတူဖြစ်သွားလေတော့သည်။[၃]

မတ်စ်အလဟ် – (၄၀၃) လူမျိုးစုတစ်ခုတွင် မကောင်းမှုဒုစရိုက်များပေါ်များလာသောအခါ ထိုလူမျိုးများအပေါ် အလ္လာဟ်အရှင်မြတ်၏ အပြစ်ဒဏ်ကျရောက်ပေသည်။

၁ – ကုရ်အာန် ၅၉း၁၉။
၂ – ကုရ်အာန် ၇း ၁၇၅။
၃ – ဟာကိင်မ်ကျမ်း။

အဗ္ဗမိုရုစလမဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ကမ္ဘာမြေပေါ်တွင် မကောင်းမှုဒုစရိုက်များ ပေါ်များလာသောအခါ အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာသူ ကမ္ဘာသားများ အပေါ် အပြစ်ဒဏ်ချတော်မူသည်။ အကယ်၍ လူတို့တွင် ကောင်းမြတ်သူ များရှိနေလျှင်လည်း သူတို့သည် အများနည်းတူ အပြစ်ဒဏ်ခံကြရမည်။ နောင်တမလွန်တွင်မူ ထိုသူမွန်သူမြတ်တို့သည် အလ္လာဟ်အရှင်မြတ်၏ က ရုဏာတော်ကို ရရှိကြပေမည်။"[၁]

**မတ်စ်အလဟ် – (၄၀၄) ကတိမတည်သောလူမျိုးများအပေါ် အလ္လာဟ်အ ရှင်မြတ်သည် ပြည်တွင်းစစ် လွှမ်းမိုးစေတော်မူသည်။**

**မတ်စ်အလဟ် – (၄၀၅) အရှက်သိက္ခာကင်းမဲ့သောလူမျိုးများအပေါ် အလ္လာဟ်အရှင်မြတ်သည် သေခြင်းတရား လွှမ်းမိုးစေတော်မူသည်။**

**မတ်စ်အလဟ် – (၄၀၆) ဇကားသ်မပေးသောလူမျိုးများပေါ်အလ္လာဟ်အရှင် မြတ်သည် အငတ်ဘေးနှင့် ရင်ဆိုင်စေတော်မူသည်။**

ဗုရိုင်ဒဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "ကတိသစ္စာမတည်သောလူမျိုးများတွင် ပြည်တွင်း စစ်ပေါ်ပေါက်မည်။ အရှက်တရားကင်းမဲ့မှုပေါ်များသောလူမျိုးများအပေါ် အလ္လာဟ်အရှင်မြတ်သည် သေခြင်းတရားကို လွှမ်းမိုးစေတော်မူသည်။ ဇကားသ်မပေးဆောင်သောလူမျိုးများအား အလ္လာဟ်အရှင်မြတ်သည် မိုး ခေါင်ရေရှားမှုနှင့် ကြုံတွေ့စေတော်မူသည်။"[၂]

**မတ်စ်အလဟ် – (၄၀၇) အလွဲသုံးစားလုပ်မှုပေါ်များသောလူမျိုးများအပေါ်**

---

၁ – သွဗ်ရာနီကျမ်း။

၂ – ဟာကိင်မ်ကျမ်း။

အလ္လာဟ်အရှင်မြတ်သည် ကြောက်ရွံ့ထိတ်လန့်မှုကို လွှမ်းမိုးစေတော်မူသည်။

မတ်စ်အလဟ် – (၄၀၈) ဇိနာပေါ်များသောလူမျိုးများတွင် သေဆုံးမှုများ ပေါ်များမည်။

မတ်စ်အလဟ် – (၄၀၉) အလေးချိန်၊ တင်းတောင်း ချိန်တွယ်၊ ခြင်တွယ်ရာတွင် ခိုးသူတို့အပေါ် အလ္လာဟ်အရှင်မြတ်သည် ဆင်းရဲမွဲတေမှုကို လွှမ်းမိုးစေတော်မူသည်။

မတ်စ်အလဟ် – (၄၁၀) အလ္လာဟ်အရှင်မြတ်ချပေးထားသော တရားဥပဒေများကို စွန့်လွှတ်ပြီး တခြားသောဥပဒေများဖြင့် စီရင်ဆုံးဖြတ်သူများ အပေါ်အလ္လာဟ်အရှင်မြတ်သည် ပြည်တွင်းစစ် လွှမ်းမိုးစေသည်။

မတ်စ်အလဟ် – (၄၁၁) ကတိဖောက်ဖျက်မှုပေါ်များသောလူမျိုးများအပေါ် အလ္လာဟ်အရှင်မြတ်သည် ရန်သူကို လွှမ်းမိုးစေတော်မူသည်။

အဗ်ဒုလ္လာဟ်ဗင်န်အဗ်ဗားစ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ အလွဲသုံးစားလုပ်သောလူမျိုးများ၏ စိတ်နှလုံးတွင် ကြောက်ရွံ့စိုးရိမ်မှုများ ထည့်သွင်းခြင်းခံရမည်။ ဇိနာမှုပေါ်များသောလူမျိုးများတွင် သေဆုံးမှုများ ပေါ်များလိမ့်မည်။ ချိန်တွယ်၊ ခြင်တွယ်ရာတွင် အလေးခိုးသူများတွင် ရိုဇီရိက္ခာဖျက်တောက် ခြင်းခံရမည်။ အမှန်တရားနှင့်ဆန့်ကျင်ဘက် စီရင်ဆုံးဖြတ်သောလူမျိုးများတွင် သွေးချောင်းစီးမှုများ ပေါ်များမည်။ ကတိဖောက်ဖျက်သောလူမျိုးများအပေါ် ရန်သူလွှမ်းမိုးစေခြင်းခံရမည်။[၁]

---

၁ – မုအသ်သွာမာလိက်ကျမ်း၊ နံပါတ် – ၁၃၂၃။

မတ်စ်အလဟ် – (၄၁၂) အရှက်သိက္ခာကင်းမဲ့မှုပေါ်များသောလူမျိုးများကို အလ္လာဟ်အရှင်မြတ်သည် ကပ်ရောဂါဆိုးများ စွဲကပ်စေတော်မူမည်။

မတ်စ်အလဟ် – (၄၁၃) ချိန်တွယ်၊ ခြင်တွယ်ရာတွင် အလေးခိုးသူများကို အလ္လာဟ်အရှင်မြတ်သည် မိုးခေါင်ရေရှားမှု၊ ဆင်းရဲမွဲတေမှု၊ မိုးမြေမှ ဘေးဥပဒ်များအပြင် ရက်စက်ကြမ်းကြုတ်သော မင်းဆိုးကို အုပ်ချုပ်စေတော်မူမည်။

မတ်စ်အလဟ် – (၄၁၄) အလ္လာဟ်အရှင်မြတ်သည် ဇကားသ်မပေးဆောင်သောလူမျိုးများအား မိုးရွာသွန်းခြင်းမှ ရပ်တန့်တော်မူမည်။

မတ်စ်အလဟ် – (၄၁၅) လူအများစုသည် အလ္လာဟ်အရှင်မြတ်နှင့် အရှင့်တမန်တော်၏အမိန့်များကို ဗီဆန်ပါက အလ္လာဟ်အရှင်မြတ်သည် သူတို့အပေါ် ပြင်ပရန်သူကို လွှမ်းမိုးစေတော်မူမည်။

မတ်စ်အလဟ် – (၄၁၆) တရားရုံးများသည် ကျမ်းမြတ်ကုရ်အာန်နှင့် စွန္နသ်တော်နှင့် ဆန့်ကျင်ပြီး စီရင်ဆုံးဖြတ်လာသည့်အခါ၊ တရားသူကြီးသည် လာဘ်စားပြီး မိမိစိတ်ကြိုက် စီရင်ဆုံးဖြတ်လာသည့်အခါ အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့အား ပြည်တွင်းစစ်ဖြစ်စေတော်မူမည်။

အိဗ်နအုမရ်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ သည် ကျွန်တော်တို့ဘက်သို့ ကြွမြန်းလာတော်မူပြီး မိန့်တော်မူသည်။ “အို – မုဟာဂျိရ်အပါင်းတို့၊ အသင်တို့ထံတွင် ငါးခုသောအရာ ပေါ်ပေါက်လာခြင်းမှ (ကြောက်ကြကုန်)။ ထိုငါးခု ပေါ်ပေါက်လာခြင်းမှ အလ္လာဟ်အရှင်မြတ်ထံတွင် ငါ ခိုလှုံခွင့်တောင်းခံသည်။ (၁) မျိုးနွယ်စုတစ်ခုတွင် အရှက်ကင်းမဲ့မှုကို ပေါ်ပေါ်ထင်ထင် ကျူးလွန်လာပါက အရှင်မြတ်သည် သူတို့ထဲတွင်

ပလိပ်ရောဂါနှင့် သူတို့ ဘိုးဘေးများပင် မကြုံဘူးခဲ့သော ကပ်ရောဂါဆိုးများ ပျံ့နှံ့စေတော်မူမည်။ (၂) ချိန်တွယ်၊ ခြင်တွယ်မှုတွင် အလေးခိုးသောလူမျိုး များကို အလ္လာဟ်အရှင်မြတ်သည် မိုးခေါင်ရေရှားမှု၊ အစားရေစာ ရှားပါးမှု နှင့် ရက်စက်သောမင်းဆိုးများနှင့် အရေးယူတော်မူမည်။ (၃)ဇကားသ် မပေးသောလူမျိုးများကို အလ္လာဟ်အရှင်မြတ်သည် မိုးခေါင်ခြင်းဖြင့် အရေး ယူ တော်မူမည်။ တိရစ္ဆာန်များကြောင့်သာမဟုတ်လျှင် မိုးရေတစ်စက်မျှပင် ရမည်မဟုတ်ပေ။ (၄) အလ္လာဟ်အရှင်မြတ်၏ ကတိတော်နှင့် အရှင့်တမန် တော်၏ ကတိတော်အား ချိုးဖောက်သောလူမျိုးများအား အလ္လာဟ်အရှင် မြတ်သည် ပြင်ပမှရန်သူကို လွှမ်းမိုးစေတော်မူမည်။ ထိုပြင်ပရန်သူသည် သူတို့၏ပိုင်ဆိုင်မှုမှန်သမျှကို သိမ်းပိုက်သွားလိမ့်မည်။ (၅) မျိုးနွယ်စုတစ်စု ၏ အိမာမ်ခေါင်းဆောင်များသည် အလ္လာဟ်အရှင်မြတ်ချပေးထားသော တရားဒေသနာတော်များဖြင့် စီရင်ဆုံးဖြတ်မှုမလုပ်ကြ။ မိမိစိတ်အလိုကျ စီရင်ဆုံးဖြတ်ကြလျှင် အလ္လာဟ်အရှင်မြတ်သည် သူတို့အချင်းချင်းအား တိုက်ခိုက်စေတော်မူမည်။[၁]

**မတ်စ်အလဟ် – (၄၁၇) ဇိနာကျူးလွန်ခြင်း၊ ပိုးထည်ဝတ်ခြင်း၊ အရက်သေ စာသောက်သုံးခြင်း၊ တီးမှုတ်တူရိယာများ၊ ကချေသည်များပေါ်များလာ သောအခါ အလ္လာဟ်အရှင်မြတ်သည် လူတို့အား ခဲမိုးရွာစေတော်မူမည်။ သို့မဟုတ် သူတို့အား မျောက်ရုပ်၊ ဝက်ရုပ်များ ပြောင်းပစ်တော်မူမည်။**

အဗူမာလိက်အရ်အရီ ﵁ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန် တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ “ငါ့အွမ္မသ်နောက်လိုက်သားများ တွင် လူမျိုးစုတစ်ချို့ပေါ်ပေါက်လာပေမည်။ သူတို့သည် ဇိနာကျူးလွန်ခြင်း၊ ပိုးထည်၊ အရက်နှင့် တေးမှုတ်တူရိယာများကို ဟလာလ်အဖြစ်ပြုလုပ်လာ ကြမည်။ လူတစ်ချို့သည် တောင်တစ်တောင်နားထွင်နေထိုင်ကြမည်။ ညနေခင်းတွင် သိုးကျောင်းသားက သူတို့ထံလာပြီး တောင်းသောအခါ

၁ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၄၀၁၉။

သူတို့က “မနက်ဖြန်လာခဲ့ပါ”ဟု ပြောကြမည်။ အလ္လာဟ်အရှင်မြတ်သည် ညအချိန်တွင် သူတို့အပေါ်သို့ တောင်ကို ပြိုကျစေပြီး ဖျက်ဆီးတော်မူမည်။ တစ်ချို့သောသူများကို ကိယာမသ်နေ့တိုင်အောင် မျောက်များ၊ ဝက်များ အဖြစ် ပြောင်းလဲပစ်တော်မူမည်။[၁]

**မတ်စ်အလဟ် – (၄၁၈) တီးမှုတ်တူရိယာများ၊ ကချေသည်များပေါ်များ ခြင်းဖြင့် ငလျင်များစွာ လှုပ်ခတ်မည်။**

စဟာလ်ဗင်နိစအဒ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ နောက်ဆုံးခေတ်တွင် မြေမျိုခြင်းများ၊ ခဲမိုးရွာသွန်းခြင်းများ၊ ရုပ်ပြောင်းရုပ်လွှဲမှုများ ပေါ်ပေါက်လာမည်။ စဟာဗဟ်များက “ဘယ်အခါပါနည်း”ဟု မေမြန်းလျှောက်ထားကြသည်။ ကိုယ်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ တီးမှုတ်တူရိယာများ၊ ကချေသည်များပေါ်များလာပြီး အရက်သေစာကို ဟလာလ်အဖြစ် မှတ်ယူလာကြသော အခါ ဖြစ်မည်။[၂]

**မတ်စ်အလဟ် – (၄၁၉) အရက်သောက်ခြင်း၊ အတိုးစားခြင်း၊ ဟလာလ် ဟရာမ်မခွဲခြားခြင်း၏ ပြစ်ဒဏ်မှာ ရုပ်ပြောင်းရုပ်လွှဲခြင်း ခံရမည်။**

အိဗ်နုအဗ်ဗားစ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ “ငါကိုယ်တော်၏ အသက်ကို စိုးပိုင်တော်မူသောအရှင်မြတ်၏ ကစမ်၊ ငါ၏အွမ္မမ်သားများအနက်မှ တချို့သည် မောက်မာပလွှားခြင်း၊ ကစားခုန်စားခြင်းများတွင် ညတာကုန်ဆုံးကြမည်။ နံနက်မိုးလင်းသောအခါ သူတို့၏ ရုပ်များသည် မျောက်ရုပ်များ၊ ဝက်ရုပ်များ ဖြစ်သွားလိမ့်မည်။ အကြောင်းမှာ ဟရာမ်အရာများကို ဟလာလ်ဟု သတ်မှတ်ခြင်း၊ ကချေသည်များဖြင့် ပျော်မြူးခြင်း၊ အရက်သောက်ခြင်း၊ အတိုးစား

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၅၅၉၀။

၂ – သွဗ်ရာနီကျမ်း။

ခြင်းနှင့် ပိုးထည်ဝတ်ဆင်ခြင်းတို့ကြောင့်ဖြစ်သည်။[၁]

**မတ်စ်အလဟ် – (၄၂၀) ဇကားသ်မပေးဆောင်ကြသူများအပေါ် အလ္လာဟ် အရှင်မြတ်သည် မိုးခေါင်ရေရှားခြင်း၊ ဝေမ်းမွတ်ခေါင်းပါးခြင်းဖြင့် အရေးယူတော်မူမည်။**

ဗုရိုင်ဒဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ ဇကားသ်မပေးဘဲနေသောသူများကို အလ္လာဟ်အရှင်မြတ်သည် မိုးခေါင်ရေရှားမှုဖြစ် အရေးယူတော်မူမည်။[၂]

**မတ်စ်အလဟ် – (၄၂၁) မုသားပြောခြင်းဖြင့် ဗရ်ကသ်မင်္ဂလာ ယုတ်လျော့သည်။**

ဟကီးင်မ်ဗင်န်ဟိဇားမ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ ရောင်းသူနှင့် ဝယ်သူသည် မခွဲခွာသေးမချင်း ရွေးချယ်ပိုင်ခွင့်ရှိသည်။ အကယ်၍ သူတို့နှစ်ဦးသည် မှန်သောစကားကိုဆိုမည်၊ ကုန်ပစ္စည်း၏ အပြစ်အနာအဆာကို ထုတ်ဖော်ပြောမည်ဆိုပါက သူတို့နှစ်ဦးလုံး၏ အရောင်းအဝယ်တွင် မင်္ဂလာရှိမည်။ အကယ်၍ သူတို့နှစ်ဦးသည် ဖုံးကွယ်ထားမည်၊ မုသားစကားဆိုခဲ့မည်ဆိုပါက သူတို့နှစ်ဦး၏ အရောင်းအဝယ်မှ ဗရ်ကသ်မင်္ဂလာရှိမည်မဟုတ်။[၃]

**မတ်စ်အလဟ် – (၄၂၂) အချင်းချင်း ခိုက်ရန်ဖြစ်ပွားခြင်းသည် အလ္လာဟ် အရှင်မြတ်၏ ကရုဏာတော်မှ လက်မဲ့ဖြစ်ရန် အကြောင်းခံဖြစ်သည်။**

အိုဗာဒဟ်ဗင်န် စွာမိသ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺသည် ကျွန်တော်တို့အား ကဒ်ရ်ညဥ့်မြတ်အား ပြောပြတော်

---

၁ – မွတ်စ်နဒ်အဟ်မဒ်ကျမ်း၊ နံပါတ် – ၂၂၇၉၀။

၂ – သွဗ်ရာနီကျမ်း။

၃ – ဗုခါရီကျမ်း၊ နံပါတ် – ၂၀၇၉။

မှုရန် ထွက်လာခဲ့သည်။ ထိုစဉ် မွတ်စ်လင်မ်နှစ်ဦးသည် ရန်ဖြစ်နေကြသည်။ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ ငါသည် အသင်တို့အား ကဒရ်ညဉ့်မြတ်ကိုပြောပြရန် ထွက်လာတော်မူခဲ့သည်။ သို့သော် မည်သူ မည်ဝါနှစ်ဦးသည် ခိုက်ရန်ဖြစ်သွားနေသည့်အတွက်ကြောင့် ထိုညဉ့်၏ အသိသည် ရုတ်သိမ်းခြင်းခံလိုက်ရသည်။ ဤသည်လည်း အသင်တို့ အတွက် ကောင်းခြင်းဟုပင် ငါကိုယ်တော်မျှော်လင့်ပါသည်။ ထို့ကြောင့် အသင်တို့သည် ယင်းညဉ့်အား ရမ်ဇာန်လမြတ်၏ (၂၉)ရက်မြောက်၊ (၂၇) ရက်မြောက်၊ (၂၅) ရက်မြောက်ညဉ့်များတွင် ရှာဖွေကြလေကုန်။[၁]

**မတ်စ်အလဟ် – (၄၂၃) ပြစ်မှုအကုသိုလ်များကြောင့် လူသားသည် သူ့ထံ လာနေ သောရိဇ်ကရိ ကွာမှ လက်မဲ့ဖြစ်ရလေသည်။**

ဆောင်ဗာန် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ လူသားသည် မကောင်းမှုအကုသိုလ်ကြောင့် သူ့ထံလာနေသောရိဇ်ကရိကွာမှ လက်မဲ့ဖြစ်ရလေသည်။[၂]

**မတ်စ်အလဟ် – (၄၂၄) မကောင်းမှုဒုစရိုက်များကြောင့် လူသား၏ နှလုံး သားသည် မည်းမှောင်သွားလေသည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော် မြတ် ﷺမိန့်ကြားတော်မူသည်။ "မုအ်မင်န်တစ်ဦးသည် မကောင်းမှုတစ်ခု ကျူးလွန်လိုက်သောအခါ နှလုံးသားတွင် အမည်းစက်တစ်စက်ဖြစ်ပေါ်သွား သည်။ အကယ်၍ သူသည် သောင်ဗဟ်လုပ်လိုက်မည်၊ ထိုမကောင်းမှုအား စွန့်လွှတ်မည်၊ အရှင်မြတ်ထံမှ ခွင့်လွှတ်ချမ်းသာမှုကို တောင်းခံမည်ဆိုပါက သူ့နှလုံးသားသည် ပြောင်လက်သွားပေသည်။ အကယ်၍ သူသည် မကောင်းမှုအကုသိုလ်ကို ထပ်မံကျူးလွန်လိုက်ပါက အမည်းစက်တစ်စက်

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၂၀၂၃။
၂ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၄၀၂၂။

ထပ်၍ တိုးသွားပေသည်။ ကျမ်းမြတ်ကုရ်အာန်တွင် အလ္လာဟ်အရှင်မြတ် မိန့်ကြားထားသည့် စိတ်နှလုံးတွင် သံချေးတက်ခြင်းဟူသည် ဤသည်ကို ဆိုလိုပေသည်။[၁]

**မတ်စ်အလဟ် – (၄၂၅) မကောင်းမှုအကုသိုလ်များကြောင့် အီမာန်လျော့နည်းသွားသည်။**

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "မုအ်မင်န်တစ်ဦးသည် ဇိနာမှုကျူးလွန်သောအခါ မုအ်မင်န်အဖြစ်နှင့် ကျူးလွန်နေသည်မဟုတ်။ မုအ်မင်န်တစ်ဦးသည် ခိုးမှုကျူးလွန်သောအခါ မုအ်မင်န်အဖြစ်နှင့် ကျူးလွန်နေသည်မဟုတ်။ မုအ်မင်န်တစ်ဦးသည် အရက်သောက်နေသောအခါ မုအ်မင်န်အဖြစ်နှင့် ကျူးလွန်နေသည် မဟုတ်။ ထို့နောက်တွင်လည်း သောင်ဗဟ်တံခါးဖွင့်ထားလျက်ရှိသည်။[၂]

**မတ်စ်အလဟ် – (၄၂၆) မကောင်းမှုအကုသိုလ်များကြောင့် ဟိဒါယသ် လှမ်းမှန်တရားမှ လက်မဲ့ဖြစ်ရသည်။**

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "မုအ်မင်န်တစ်ဦးသည် မကောင်းမှုတစ်ခုကျူးလွန်လိုက်သောအခါနှလုံးသားတွင် အမည်းစက်တစ်စက်ဖြစ်ပေါ်သွားသည်။ အကယ်၍ သူသည် သောင်ဗဟ်လုပ်လိုက်မည်၊ ထိုမကောင်းမှုအားစွန့်လွှတ်မည်၊ အရှင်မြတ်ထံမှ ခွင့်လွှတ်ချမ်းသာမှုကို တောင်းခံမည်ဆိုပါက သူ့နှလုံးသားသည် ပြောင်လက်သွားပေသည်။ အကယ်၍ သူသည် မကောင်းမှုအကုသိုလ်ကို ထပ်မံကျူးလွန်လိုက်ပါက အမည်းစက်တစ်စက် ထပ်၍ တိုးသွားပေသည်။ နောက်ဆုံးတွင် အမည်းစက်များ ဖုံးလွှမ်းသွား

---

၁ – အိဗ်နမာဂျဟ်ကျမ်း၊ နံပါတ် – ၄၂၄၄။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၅၇။

ပေတော့သည်။ ကျမ်းမြတ်ကုရ်အာန်တွင် အလ္လာဟ်အရှင်မြတ် မိန့်ကြားထားသည့် စိတ်နှလုံးတွင် သံချေးတက်ခြင်းဟူသည် ဤသည်ကို ဆိုလိုပေသည်။[၁]

كَلَّا بَلْ ۜ رَانَ عَلٰى قُلُوْبِهِمْ مَّا كَانُوْا يَكْسِبُوْنَ ﴿١٤﴾

"(ပုံပြင်) လုံးဝမဟုတ်ပေ၊ အမှန်စင်စစ် သူတို့ဆည်းပူးနေခဲ့ကြသည့်အရာ(ပြစ်မှု)များသည် သူတို့၏ စိတ်နှလုံးများပေါ်တွင် ဖုံးလွှမ်းခဲ့ခြင်းဖြစ်သည်။"[၂]

မတ်စ်အလဟ် – (၄၂၇) အတိတ်ခေတ်တွင် ပျက်စီးခဲ့ကြသောလူမျိုးတိုင်းသည် မကောင်းမှုအကုသိုလ်များကြောင့်ပင် ပျက်စီးခဲ့ကြခြင်းဖြစ်သည်။

فَكُلًّا اَخَذْنَا بِذَنْۢبِهٖ ۚ فَمِنْهُمْ مَّنْ اَرْسَلْنَا عَلَيْهِ حَاصِبًا ۚ وَمِنْهُمْ مَّنْ اَخَذَتْهُ الصَّيْحَةُ ۚ وَمِنْهُمْ مَّنْ خَسَفْنَا بِهِ الْاَرْضَ ۚ وَمِنْهُمْ مَّنْ اَغْرَقْنَا ۚ وَمَا كَانَ اللّٰهُ لِيَظْلِمَهُمْ وَلٰكِنْ كَانُوْٓا اَنْفُسَهُمْ يَظْلِمُوْنَ ﴿٤٠﴾

သို့ဖြစ်ရာ ငါအရှင်မြတ်သည် တစ်ဦးချင်းစီအား သူတို့၏အပြစ်ကြောင့် ဖမ်းဆီးကွပ်မျက်တော်မူခဲ့သည်။ ငါအရှင်မြတ်သည် သူတို့ထဲမှ အချို့၏အပေါ်တွင် ကျောက်ခဲမုန်တိုင်းကို စေလွှတ်တော်မူခဲ့သည်။ ထို့ပြင် အချို့အား ကျယ်လောင် ပြင်းထန်သည့်အသံက ဖမ်းဆီးကွပ်မျက်ခဲ့သည်။ ထို့ပြင် အချို့အား ငါအရှင်မြတ်သည် မြေမျိုစေတော်မူခဲ့သည်။ ထို့ပြင် အချို့အားရေနစ်စေတော်မူခဲ့သည်။ ထို့ပြင် *အလ္လာဟ်*အရှင်မြတ်သည် သူတို့အား နှိပ်စက်တော်မမူခဲ့ပေ။ (အပြစ်ရှိသူအား အပြစ်ပေးခြင်းသည် အပြစ်မရှိသူအား ဆုလာဘ်ပေးခြင်းပင်ဖြစ်သည်။) သို့ရာ တွင် သူတို့သည် သူတို့ကိုယ်သူတို့နှိပ်စက်နေခဲ့ကြခြင်းဖြစ်သည်။[၃]

---

၁ – သိရ်မိဇီကျမ်း၊ နံပါတ် – ၃၃၃၄။

၂ – ကုရ်အာန် ၈၃း ၁၄။

၃ – ကုရ်အာန် – ၂၉း ၄၀။

**မတ်စ်အလဟ် - (၄၂၈) ဆမူးဒ်မျိုးနွယ်သည် မကောင်းမှုအကုသိုလ်များကြောင့်ပင် ကမ္ဘာလောကမှ အရိပ်အယောင်ပင်မကျန်အောင် ပျက်စီးသွားခဲ့ကြသည်။**

كَذَّبَتۡ ثَمُوۡدُ بِطَغۡوٰىهَآ ﴿۱۱﴾ اِذِ انۡۢبَعَثَ اَشۡقٰىهَا ﴿۱۲﴾ فَقَالَ لَهُمۡ رَسُوۡلُ اللّٰهِ نَاقَةَ اللّٰهِ وَ سُقۡيٰهَا ﴿۱۳﴾ فَكَذَّبُوۡهُ فَعَقَرُوۡهَا ۙ فَدَمۡدَمَ عَلَيۡهِمۡ رَبُّهُمۡ بِذَنۡۢبِهِمۡ فَسَوّٰٮهَا ﴿۱۴﴾ وَلَا يَخَافُ عُقۡبٰهَا ﴿۱۵﴾

*ဆမူဒ်* အမျိုးသားတို့သည် သူတို့၏ ဆိုးသွမ်းမှုနှင့် (တမန်တော် *စွာလေ့ဟ်*ကို)မဟုတ်မမှန်ငြင်းပယ်ခဲ့ကြသည်။ တစ်ခါက သူတို့ထဲမှ နဖူးစာအဆိုးဆုံးသူသည် တရှိန်ထိုးထွက်ပေါ်လာခဲ့သည်။ သို့ဖြစ်ရာ *အလ္လာဟ်* အရှင်မြတ်၏ တမန်တော်က သူတို့အား "အသင်တို့သည် *အလ္လာဟ်* အရှင်မြတ်၏ကုလားအုတ်မကို(သတ်ဖြတ်ခြင်းမှ)သာမက သူရေသောက်ခြင်းကို(တားမြစ်ခြင်းမှ)လည်း(ရှောင်ကြဉ်ကြပါ"ဟု)ပြောဆိုခဲ့သည်။

ထို့နောက် သူတို့သည် ၎င်း(တမန်တော်)ကို မဟုတ်မမှန်ဟု ငြင်းပယ်၍ ထိုကုလားအုတ်မ၏ ခြေများကို ဖြတ်တောက်(၍သတ်ဖြတ်)ခဲ့ကြသည်။ သို့ဖြစ်ရာ သူတို့အားဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်က သူတို့အပေါ်တွင် သူတို့၏ ပြစ်မှုများကြောင့် ပြစ်ဒဏ်ကို ချမှတ်တော်မူခဲ့သည်။ ထို့ပြင် အရှင်မြတ်သည် ထိုပြစ်ဒဏ်ကို အားလုံးအပေါ် တညီတညာတည်း ပြုလုပ်ချပေးတော်မူလိုက်သည်။ ထို့ပြင် အရှင်မြတ်သည် ထိုပြစ်ဒဏ်၏ နောက်ဆက်တွဲ (ဖြစ်ပေါ်လာမည့် တုံ့ပြန်မှု)ကို လုံးဝ စိုးရိမ်တော်မမူပေ။[1]

**မတ်စ်အလဟ် - (၄၂၉) တမန်တော်လူးသ်၏ မျိုးနွယ်ဝင်များကို လိင်တူဆက်ဆံမှုပြစ်ဒဏ်ကြောင့် အလ္လာဟ်အရှင်မြတ်သည် ခဲမိုးရွာစေပြီး ဖျက်ဆီးပစ်တော်မူခဲ့သည်။**

وَ اَمۡطَرۡنَا عَلَيۡهِمۡ مَّطَرًا ؕ فَانۡظُرۡ كَيۡفَ كَانَ عَاقِبَةُ الۡمُجۡرِمِيۡنَ ﴿۸۴﴾

---

၁ - ကုရ်အာန် ၉၁၊ ၁၁ - ၁၅။

ထို့ပြင် ငါအရှင်မြတ်သည် သူတို့အပေါ်တွင် (ခဲ)မိုးရွာသွန်းစေတော်မူခဲ့သည်။ သို့ဖြစ်ရာ ပြစ်မှုကျူးလွန်သူများ၏ အကျိုးဆက်သည် မည်သို့ဖြစ်ခဲ့သည်ကို အသင် ကြည့်လိုက်ပါ။[၁]

**မတ်စ်အလဟ် – (၄၃၀) စဗအ်မျိုးနွယ်စုတို့၏ မကောင်းမှုအကုသိုလ်များကြောင့် အလ္လာဟ်အရှင်မြတ်သည် သူတို့အား ချီးမြှင့်ထားသည့် နိအ်မသ်ကျေးဇူးတော်အားလုံးကို ရုတ်သိမ်းတော်မူခဲ့သည်။**

لَقَدْ كَانَ لِسَبَإٍ فِيْ مَسْكَنِهِمْ اٰيَةٌ ۚ جَنَّتٰنِ عَنْ يَّمِيْنٍ وَّشِمَالٍ ۬ كُلُوْا مِنْ رِّزْقِ رَبِّكُمْ وَاشْكُرُوْا لَهٗ ؕ بَلْدَةٌ طَيِّبَةٌ وَّ رَبٌّ غَفُوْرٌ ﴿۱۵﴾ فَاَعْرَضُوْا فَاَرْسَلْنَا عَلَيْهِمْ سَيْلَ الْعَرِمِ وَبَدَّلْنٰهُمْ بِجَنَّتَيْهِمْ جَنَّتَيْنِ ذَوَاتَيْ اُكُلٍ خَمْطٍ وَّ اَثْلٍ وَّ شَيْءٍ مِّنْ سِدْرٍ قَلِيْلٍ ﴿۱۶﴾ ذٰلِكَ جَزَيْنٰهُمْ بِمَا كَفَرُوْا ؕ وَهَلْ نُجْزِيْٓ اِلَّا الْكَفُوْرَ ﴿۱۷﴾

အမှန်စင်စစ် *စဗအ်* မျိုးနွယ်ဝင်များအတွက် သူတို့၏ နေထိုင်ရာဒေသ ၌ပင် ကြီးကျယ်သော သက်သေသာဓကရှိခဲ့သည်။ သူတို့မြို့ ရွာများ၏ လက်ယာ ဘက်နှင့် လက်ဝဲဘက်တွင် ဥယျာဉ်နှစ်ခုရှိခဲ့သည်။ (တမန်တော်များကတစ်ဆင့် ပြောခံခဲ့ရသည်)။ "အသင်တို့သည် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်က (ပေးသနားတော်မူသော) စားနပ်ရိက္ခာကိုစားသုံးကြပါ။ ထို့ပြင် အသင်တို့သည် အရှင်မြတ်အား ကျေးဇူး တင်ကြပါ။ (အသင်တို့၏ မြို့ရွာသည်)ကောင်းမွန်သန့် ပြန့်သော မြို့ရွာဖြစ်ပြီး (အသင်တို့၏ အရှင်မြတ်သည်လည်း) အလွန် လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူသော ဖန်ဆင်းမွေးမြူရှင် ဖြစ်တော်မူသည်။ ထို့နောက် သူတို့သည် (အမိန့်တော်ကို)မျက်နှာလွှဲခဲ့သည့်အတွက် ငါအရှင်မြတ် သည် သူတို့အပေါ်တွင် *အရင်မ်* ရေကာတာမှ အပြင်းအထန်စီးဆင်းသည့်ရေကို လွှတ်ပေးတော်မူခဲ့သည်။ ထို့ပြင် ငါအရှင်မြတ်သည်

၁ – ကုရ်အာန် ၇း ၈၄။

သူတို့အား သူတို့၏ ဥယျာဉ်နှစ်ခု၏အစား (အခြား)ဥယျာဉ်နှစ်ခုကို လဲလှယ်ပေးတော်မူခဲ့သည်။ ထိုနှစ်ခုတွင် ဖန်သော၊ ခါးသော၊ အရသာ မကောင်းသော သစ်သီးဝလံများ၊ အသားမာသော မန်ကျည်းပင်များနှင့် ဆီးပင်အနည်းငယ်ရှိသော ဥယျာဉ်နှစ်ခု ဖြစ်ခဲ့သည်။ ဤသည်မှာ ငါအရှင် မြတ်သည် သူတို့အား သူတို့၏ ကျေးဇူးကန်းမှုကြောင့် ပေးတော်မူခဲ့သော အပြစ်ဒဏ်ပင်ဖြစ်သည်။ ထို့ပြင် ငါအရှင်မြတ်သည် အလွန်ကျေးဇူးကန်း သည့်သူ များကိုသာ အပြစ်ပေးလေ့ရှိတော်မူသည်။[၁]

**မတ်စ်အလဟ် – (၄၃၁) အစ္စရာအီလ်လူမျိုးများအားသူတို့၏အမိန့်ဖီဆန်မှု၊ ပြစ်မှုဒုစရိုက်များကျူးလွန်မှုတို့ကြောင့် အလ္လာဟ်အရှင်မြတ်သည် လေပြင်း မုန်တိုင်း၊ ကျိုင်းကောင်၊ သန်းကောင်၊ ဖား၊ သွေး စသည့်အရာများဖြင့် ဒဏ်ခတ်အရေးယူတော်မူခဲ့သည်။**

فَأَرْسَلْنَا عَلَيْهِمُ الطُّوفَانَ وَ الْجَرَادَ وَ الْقُمَّلَ وَ الضَّفَادِعَ وَ الدَّمَ اٰيٰتٍ مُّفَصَّلٰتٍ فَاسْتَكْبَرُوْا وَكَانُوْا قَوْمًا مُّجْرِمِيْنَ ﴿١٣٣﴾

သို့ဖြစ်ရာ ငါအရှင်မြတ်သည် သူတို့အပေါ်တွင် ရေလွှမ်းမိုးမှု၊ ကျိုင်း ကောင်များ၊ သန်းကောင်ပိုးမွှားများ၊ ဖားပြုပ်များ၊ သွေးများကို တသီးတခြား သက်သေလက္ခဏာများအဖြစ် ပို့တော်မူခဲ့သည်။ သို့ပါလျက် သူတို့သည် မာနထောင်လွှားမှုသာ ပြုခဲ့ကြသည်။ ၎င်းပြင် သူတို့သည် ပြစ်မှုကျူးလွန် သူများပင်ဖြစ်ကြသည်။[၂]

## တမလွန်တွင်ခံရမည့် မကောင်းမှု၏ အပြစ်ဒဏ်များ

မတ်စ်အလဟ် – (၄၃၂) အိရှာဟ်စွလားသ်စွန့်လွှတ်သူများ၏ ဦးခေါင်း

---

၁ – ကုရ်အာန် ၃၄း ၁၅ – ၁၇။

၂ – ကုရ်အာန် ၇း ၁၃၃။

**သည် ကျောက်ခဲများဖြင့် ထုခြင်းခံရမည်။**

စမုရဟ်ဗင်န်ဂျွန်ဒုဗ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ အိမ်မက်အကြောင်းလာရှိသည့်ဟဒီးဆ်တော်တွင် တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ ကောင်းကင်တမန်နှစ်ဦးက ငါ့အား ပြောသည်။ အသင်ပထမဦးဆုံးတွေ့ခဲ့သည့် မိမိ၏ ဦးခေါင်းအား ကျောက်တုံးဖြင့်ထုနေသူမှာ ကုရ်အာန်ကျမ်းမြတ်ကိုသင်ယူပြီး မေ့ပစ်လိုက်သည်။ ထို့ပြင် ဖရဇ်စွလားသ်ဝတ်မပြုဘဲ အိပ်စက်သည်။[၁]

**ရှင်းလင်းချက်။** စွလားသ်တစ်ကြိမ်စွန့်လွှတ်ခြင်း၏အပြစ်ဒဏ်သည် ဤမျှကြီးမားလျှင် စွလားသ်ငါးကြိမ်စွန့်လွှတ်သည့်အပြစ်သည် အဘယ်မျှ ကြီးမားမည်နည်း။

**မတ်စ်အလဟ် – (၄၃၃) ဇကားသ်မပေးဆောင်သောသူ၏ လည်ကုပ်တွင် အဆိပ်ပြင်းသောမြွေဆိုးကို စွပ်ပေးခြင်းခံရမည်။ ယင်းမြွေက ထိုသူ့အား အဆက်မပြတ်ပေါက်နေမည်။**

အဗူဟုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺအမိန့်ရှိတော်မူသည်။ "အကြင်သူတစ်ဦးတစ်ယောက်ကို အလ္လာဟ်အရှင်မြတ်က ငွေကြေးဥစ္စာ ချီးမြှင့်ထားပါလျက်နှင့် ထိုသူသည် ယင်းဥစ္စာပစ္စည်းမှ ဇကားသ်ဒါနကြေး မပေးဆောင်ခဲ့ပါက ကိယာမသ်နေ့တွင် ထိုဥစ္စာပစ္စည်းများသည် ထိပ်ပြောင်ပြီး မျက်လုံးတွင် အစက်နှစ်စက်ပါသော မြွေဆိုးအဖြစ်သို့ပြောင်းလဲကာပိုင်ရှင်၏လည်ပင်းတွင်စွပ်ပေးခြင်းခံရမည်။ ထို့နောက် ယင်းမြွေဆိုးသည် ပိုင်ရှင်အား အဆွယ်နှစ်ဖက်ဖြင့် ကိုက်ခဲကာ "ကျွန်ုပ်သည် သင်၏ဥစ္စာပစ္စည်းဖြစ်သည်၊ ကျွန်ုပ်သည် သင်၏ဘဏ္ဍာတိုက်ဖြစ်သည်"ဟု ပြောလိမ့်မည်။ ပြီးနောက် ကိုယ်တော်မြတ် ﷺသည် ဤအာယသ်တော်ကို ရွတ်ဖတ်တော်မူလေသည်။

---

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၇၀၄၇။

وَلَا يَحْسَبَنَّ الَّذِينَ يَبْخَلُونَ بِمَا آتَاهُمُ اللَّهُ مِن فَضْلِهِ هُوَ خَيْرًا لَّهُم ۖ بَلْ هُوَ شَرٌّ لَّهُمْ ۖ سَيُطَوَّقُونَ مَا بَخِلُوا بِهِ يَوْمَ الْقِيَامَةِ ۗ

ထို့ပြင် *အလ္လာဟ်*အရှင်မြတ်သည် အရှင်မြတ်၏ကျေးဇူးတော်နှင့် ပေးသနားထားသောအရာ(ပစ္စည်းဥစ္စာ)များနှင့် ပတ်သက်၍ စေးနဲတွန့်တို သောသူများသည် ထိုကဲ့သို့(စေးနဲတွန့်တိုခြင်း)သည် သူတို့အတွက် ကောင်းသည်ဟု လုံးဝမထင်မှတ်ကြနှင့်၊ အမှန်မှာ ထိုအရာသည် သူတို့ အတွက် ဆိုးရွားလှသည်။ မကြာမီ သူတို့သည် ရှင်ပြန်ထမည့်နေ့တွင် သူတို့စေးနဲတွန့်တို(၍စုဆောင်း)ခဲ့သောပစ္စည်းများနှင့် လည်ပင်းတွင်ကွင်း စွပ်ခြင်းခံကြရမည်ဖြစ်သည်။[1]

**မတ်စ်အလဟ် – (၄၃၄) စွောင်မ်ဥပုသ်စောင့်ထိန်းခြင်းစွန့်လွှတ်သူများအား ကိယာမသ်နေ့တွင် ဇောက်ထိုးအခြေအနေတွင်ထားကာ သူတို့၏ ပါးစပ် များ ဆုပ်ဖြဲခြင်းခံရမည်။**

အဗူအိုမာမဟ် ဘာဟိလီ ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန် တော်မြတ် ﷺ ဤသို့ မိန့်ကြားတော်မူသည်ကို ကျွန်ုပ်ကြားခဲ့သည်။ “ငါ ကိုယ်တော် အိပ်ပျော်နေစဉ် ပုဂ္ဂိုလ်နှစ်ဦး ငါ့ထံရောက်လာပြီး ငါ၏ ပခုံး နှစ်ဖက်ကို ကိုင်ပြီး တက်ရခက်သောတောင်တစ်တောင်ပေါ်သို့ ခေါ်ဆောင် လာခဲ့ကြသည်။ သူတို့နှစ်ဦးက “အသင် တက်ပါ”ဟု ပြောသဖြင့် ငါကိုယ် တော် တက်လိုက်သည်။ တက်ရင်း တောင်ထိပ်သို့ရောက်သောအခါ ငါ ကိုယ်တော်သည် အော်ဟစ်သံများကိုကြားလိုက်ရသည်။ “ဤအသံများမှာ အဘယ်အရာများနည်း”ဟု ငါက မေးမြန်းသောအခါ သူတို့နှစ်ဦးက “ဤ သည် ဂျဟာန္နမ်ငရဲဘုံသားများ၏ အော်ဟစ်သံများဖြစ်သည်ဟု ပြောသည်။ ထို့နောက် သူတို့နှစ်ဦးသည် ငါ့အား ရှေ့သို့ ဆက်ခေါ်ဆောင်သွားခဲ့ရာ လူ တစ်ချို့အား ဇောက်ထိုးချထားသည်ကို တွေ့မြင်ရသည်။ သူတို့၏ ပါးစပ်

---

[1] – ကုရ်အာန် ၃း ၁၈၀။ ဗုခါရီကျမ်း၊ နံပါတ် – ၁၄၀၃။

များမှာ ဆွဲဖြဲခြင်းခံထားရသည်။ သွေးများလည်း စီးကျနေသည်။ ဤသူများ သည် မည်သူများပါနည်း”ဟု ငါကိုယ်တော် မေးမြန်းရာ ထိုသူနှစ်ဦးက အဖြေပေးသည်။ ဤသူများမှာ စွောင်မ်ဉပုသ် ဝါဖြေချိန် မတိုင်မီမှာပင် ဝါလွှတ်လိုက်ကြသူများ ဖြစ်ကြသည်။[၁]

**မတ်စ်အလဟ် – (၄၃၅) လုပ်ကြံသတင်းဖြန့်သူ၊ သို့မဟုတ် လိမ်လည်ပြော ဆိုသူသည် ပါးစောင်များ၊ မျက်လုံးများသည် နောက်ကျောထိ ဆွဲဖြဲခြင်းခံရ မည်။**

**မတ်စ်အလဟ် – (၄၃၆) ဇိနာကျူးလွန်သောအမျိုးသား၊ အမျိုးသမီးများ သည် နောင်တမလွန်တွင် မီးဟုန်းဟုန်းလောင်နေသောဖိုထဲတွင် ဝတ်လစ် စလစ် အတူထည့်ခြင်းခံရမည်။**

**မတ်စ်အလဟ် – (၄၃၇) အတိုးစားသူသည် သွေးပင်လယ်ထဲတွင် ငုပ် လိုက် ပေါ်လိုက်ဖြစ်မည်။ သူ၏ပါးစပ်အား ကျောက်တုံးဖြင့်ထုခြင်း ခံရမည်။**

စမိုရဟ်ဗင်နိဂျွန်ဒုဗ် ﷻသည် အိပ်မက်ဟဒီးဆ်တော်တွင် ဆင့်ပြန် ပြောပြသည်။ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ “ငါကိုယ် တော်၏ မေးမြန်းချက်ကြောင့် ကောင်းကင်တမန်ဂျိဗ်ရီးလ်နှင့် မီကာအီလ် တို့က အဖြေပေးခဲ့သည်။ အသင်တွေ့မြင်ခဲ့သော ပါးစောင်အား နောက်စိထိ ဆွဲဖြဲနေသူ၊ နှာခေါင်းအား နောက်စိထိ ဆွဲဖြဲနေသူ၊ မျက်လုံးအား နောက်စိ ထိဆွဲဖြဲနေသူများ နံနက်တွင် မုသားစကားတစ်ခုကို ပြောဆိုပြီး ထိုမုသား စကားအားကမ္ဘာသို့ပြန့်နှံ့စေသူဖြစ်သည်။ ဆီအိုးထဲတွင်ဝတ်လစ်စလစ်နှင့် အသင်တွေ့မြင်ခဲ့ရသော အမျိုးသား၊ အမျိုးသမီးများမှာ ဇိနာမှုကျူးလွန် သောအမျိုးသား၊ အမျိုးသမီးများဖြစ်ကြသည်။ သွေးပြည်ပုပ်ချောင်းထဲတွင်

---

၁ – အိဗ်နဟိဗ်ဗာန်ကျမ်း

ရေကူးနေပြီး၊ ပါးစပ်ကို ကျောက်တုံးနှင့်အထုခံနေသည်ကို အသင်တွေ့မြင်ခဲ့သူများ အတိုးစားသူများဖြစ်သည်။[၁]

**မတ်စ်အလဟ် – (၄၃၈) ပညာကို ဖုံးကွယ်ထားသူသည် ငရဲမီးဖြင့် နဖားကြိုးအထိုးခံရမည်။**

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "မည်သူမဆို အသိပညာတစ်ခု မေးမြန်းခြင်းခံရသောအခါ သိပါလျက်နှင့် ဖုံးကွယ်ခဲ့ပါက ကိယာမသ်နေ့တွင် မီးနဖားကြိုးအထိုးခံရမည်။[၂]

**မတ်စ်အလဟ် – (၄၃၉) ကုန်းချောကုန်းတိုက်လုပ်သူ၏ နှုတ်လျှာသည် ကိယာမသ်နေ့တွင် မီးနှုတ်လျှာဖြစ်နေလိမ့်မည်။**

အမ္မားရ်ဗင်ယာစိရ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "လောကတွင် ကုန်းချောကုန်းတိုက်လုပ်သူ၏ နှုတ်လျှာသည် ကိယာမသ်နေ့တွင် မီးနှုတ်လျှာဖြစ်လိမ့်မည်။[၃]

**မတ်စ်အလဟ် – (၄၄၀) သေသူအပေါ် အော်ဟစ်ငိုးကြွေးပြီး ငိုချင်းချသောအမျိုးသား၊ အမျိုးသမီးသည် ကိယာမသ်နေ့တွင် ကတ္တရာစေးနှင့်လုပ်ထားသောလုံခြည်နှင့် ဝဲရောဂါအင်္ကျီ ဝတ်ပေးခြင်းခံရမည်။**

အဗူမာလိက်အရှ်အရီ ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်ကြားတော်မူသည်။ "ငါ့အွမ္မသ်သားများတွင် အမိုက်ခေတ်က အချက်လေးချက်ရှိနေလိမ့်မည်။ သူတို့သည် ယင်းအချက်လေးချက်ကို စွန့်လွှတ်ကြမည်မဟုတ်။ (၁) ဆွေးမျိုးဖြင့် ဂုဏ်မောက်ခြင်း၊ (၂)

---

၁ – ဗုခါရီကျမ်း။

၂ – သိရ်မိဇီကျမ်း၊ နံပါတ် – ၂၆၄၉။

၃ – အဗူဒါဝူးဒ်ကျမ်း၊ နံပါတ် – ၄၈၇၃။

သူတစ်ပါး၏ မျိုးရိုးကို စွပ်စွဲခြင်း၊ (၃) ကြယ်တာရာများကို အကြောင်းခံပြီး မိုးဆုပန်ခြင်း၊ (၄) သေဆုံးသူအပေါ် ငိုချင်းချခြင်းတို့ ဖြစ်ကြသည်။ တမန်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ ငိုချင်းချသူသည် မသင်မီ သောင်ဗဟ်မလုပ်ပါက ကိယာမသ်နေ့တွင် ကတ္တရာစေးနှင့်လုပ်ထားသောလုံခြည်နှင့် ဝဲရောဂါအင်္ကျီကို ဝတ်ဆင်ပြီး မတ်တတ်ရပ်ရမည်။[၁]

**မတ်စ်အလဟ် – (၄၄၁) ကိုယ့်ကိုယ်ကိုယ်သတ်သေသောသူသည် သတ်သေခဲ့သောပုံစံအတိုင်း ထာဝရအပြစ်ခံနေရမည်။**

အဗူဟိုရိုင်ရဟ် ؓထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ကြိုးဆွဲချ၍ သတ်သေသူသည် ငရဲမီးတွင်လည်း ကြိုးဆွဲချနေရမည်။ ချွန်ထက်သောလက်နက်ဖြင့် ထိုး၍ သတ်သေသူသည် ချွန်ထက်သောလက်နက်ဖြင့် ငရဲမီးတွင် သတ်သေနေရမည်။[၂]

**မတ်စ်အလဟ် – (၄၄၂) အရက်သေစာသောက်သုံးသူသည် ငရဲဘုံသားတို့၏ သွေးပြည်ပုပ်များကို သောက်သုံးရမည်။[၃]**

**မတ်စ်အလဟ် – (၄၄၃) အတင်းပြောသူသည် ကြေးဖြင့်ပြုလုပ်ထားသောလက်သည်းများဖြင့် မိမိ၏ မျက်နှာကို ကုတ်ခြစ်နေရလိမ့်မည်။[၄]**

**မတ်စ်အလဟ် – (၄၄၄) မတရားညှင်းပန်းနှိပ်စက်သူသည် အမှောင်ထုများထဲတွင် တဝဲလည်လည်ဖြစ်နေလိမ့်မည်။[၅]**

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၉၃၄။
၂ – ဗုခါရီကျမ်း။ နံပါတ် – ၁၃၆၅။
၃ – မတ်စ်အလဟ် – (၁၃၅)တွင် ရှုပါ။
၄ – မတ်စ်အလဟ် – (၇၇)တွင် ရှုစားပါ။
၅ – မတ်စ်အလဟ် – (၁၉၃)တွင် ရှုစားပါ။

မတ်စ်အလဟ် – (၄၄၅) တစ်ဦးထက်ပိုသောဇနီးသည်များကြားတွင် တရားမျှတမှုမရှိသောသူသည် ကိုယ်တစ်ခြမ်း လေဖြတ်နေမည်။[၁]

မတ်စ်အလဟ် – (၄၄၆) သူတစ်ပါး၏အတွင်းရေးများကို ထောက်လှမ်းသူ၊ တိုးတီးစွာနားထောင်သူတို့၏ နားထဲသို့ ခဲပူရည်လောင်းထည့်ခြင်းခံရမည်။[၂]

မတ်စ်အလဟ် – (၄၄၇) မောက်မာပလွှားသူများသည် ပုရွက်ဆိတ်ကဲ့သို့ ခန္ဓာကိုယ်ရရှိကာ သေးသိမ်အောင်လုပ်ခြင်းခံရမည်။[၃]

မတ်စ်အလဟ် – (၄၄၈) သူတစ်ပါးကို လှောင်ပြောင်သူသည် ကိယာမသ် နေ့တွင် ပြန်လည်လှောင်ပြောင်ခြင်းခံရမည်။[၄]

မတ်စ်အလဟ် – (၄၄၉) သူတစ်ပါးကို ကောင်းမှုများ ပွားများရန် ညွှန်ကြားပြီး ကိုယ်တိုင်မကျင့်သုံးသောသူများသည် ငရဲမီးတွင် သူတို့၏ အူများသည် ဝမ်းဗိုက်အပြင်သို့ ထွက်နေလိမ့်မည်။

အိုစာမဟ် ﷽ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်တော်မူသည်ကို ကြှနုပ်ကြားခဲ့သည်။ "ကိယာမသ်နေ့တွင် လူတစ်ဦးအား ခေါ်ဆောင်လာပြီး ငရဲဘုံသို့ ပစ်ချကြမည်။ ထိုအခါ သူ၏ အူများသည် ထွက်ကျလာပြီး မြည်းသတ္တဝါသည် ကြိတ်ဆုံဘေးတွင် လည်ပတ်နေသကဲ့သို့ လည်ပတ်နေမည်။ ထိုအခါ ငရဲဘုံသားများသည် သူ့ထံသို့ စုရုံး

---

၁ – မတ်စ်အလဟ် – (၃၀၆)တွင် ရှုစားပါ။

၂ – မတ်စ်အလဟ် – (၁၂၂) တွင် ရှုစားပါ။

၃ – မတ်စ်အလဟ် – (၁၈၆) တွင် ရှုစားပါ။

၄ – မတ်စ်အလဟ် – (၉၆)တွင် ရှုစားပါ။

ရောက်ရှိလာကြပြီး "အို – မည်သူမည်ဝါ၊ အသင်၏ အခြေအနေသည် ဤသို့ အဘယ်ကြောင့် ဖြစ်ရပါသနည်း။ အသင်သည် ကျွန်ုပ်တို့အား ကောင်းမှုများ ပွားများပြီး မကောင်းမှုများမှ ရှောင်ကြဉ်ရန် ညွှန်ကြားခဲ့သည် မဟုတ်လော။ ထိုသူက အဖြေပေးမည်။ ငါသည် အသင်တို့အား ကောင်းမှုပွားများရန် ညွှန်ကြားခဲ့သောလည်း ကျွန်ုပ်ကိုယ်တိုင် ကောင်းမှုမလုပ်ခဲ့။ အသင်တို့အား မကောင်းမှုမှ တားမြစ်ခဲ့သော်လည်း ကိုယ်တိုင်သည် ထိုမကောင်းမှုကို ကျူးလွန်ခဲ့သည်။"[၁]

**မတ်စ်အလဟ် – (၄၅၀) လူတို့အား ပြစားရန်အတွက် ကောင်းမှုပွားများခဲ့သူများသည် ကောင်းမှု၏အကျိုးကုသိုလ်ကိုသာမြင်ရမည်၊ ရရှိခံစားရမည် မဟုတ်။**

အိဗ်နအဗ္ဗားစ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ နာမည်ကျော်စောရန်အတွက် ကောင်းမှုကုသိုလ်လုပ်သူကို အလ္လာဟ်အရှင်မြတ်က နာမည်ကျော်စောစေတော်မူမည်။ (အကျိုးကုသိုလ်ရမည်မဟုတ်) ပြစားရန်အတွက် ကောင်းမှုကုသိုလ်လုပ်ခဲ့သူအား အလ္လာဟ်အရှင်မြတ်သည် ထိုကောင်းမှုအား ပြတော်မူမည်။ (အကျိုးကုသိုလ်ခံစားရမည်မဟုတ်။)[၂]

**မတ်စ်အလဟ် – (၄၅၁) လင်ယောကျ်ားအိမ်မှာမရှိခိုက် သူ့အမျိုးသမီးအား ဇိနာကျူးလွန်သူကို မြွေဆိုးတစ်ကောင်သည် အဆက်မပြတ် ပေါက်နေလိမ့်မည်။[၃]**

**မတ်စ်အလဟ် – (၄၅၂) ကြီးလေးသောအပြစ်များ ကျူးလွန်ခဲ့သူသည်**

၁ – ဗုခါရီကျမ်း၊ နံပါတ် – ၃၂၆၇။
၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၉၈၆။
၃ – မတ်စ်အလဟ် – (၁၄၅)တွင် ရှုစားပါ။

**ကိယာမသ်နေ့တွင် မိမိ၏ ကောင်းမှုများကို တခြားသူများအား ဝေခွဲပေးရမည်။ ကိုယ်တိုင်သည် ငရဲလားရမည်။**

အဗူဟိုရိုင်ရဟ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺမိန့်ကြားတော်မူသည်။ "ဆင်းရဲမွဲတေသူမှာ မည်သူနည်း အသင်တို့ သိကြသလား။" စဟာဗဟ်များက လျှောက်တင်ကြသည်။ ကျွန်တော်တို့အနက် ရွှေမရှိ၊ ငွေမရှိ၊ ပစ္စည်းပစ္စယမရှိသူသည် မွဲတေနေသူဖြစ်ပါသည်။ ကိုယ်တော်မြတ် ﷺက မိန့်ကြားတော်မူသည်။ "ငါကိုယ်တော်၏ အွမ္မသ်တွင် ဆင်းရဲမွဲတေသူဟူသည် အကြင်သူဖြစ်မည်။ ထိုသူသည် ကိယာမသ်နေ့တွင် စွလားသ်၊ စွောင်မ်၊ ဇကားသ်စသည့် ကောင်းမှုကုသိုလ်များကို ယူလာမည်။ နောက်တစ်ဖက်တွင် ဟိုလူ့ကို ဆဲထားသည်၊ ဒီလူ့ကို စွပ်စွဲပြောဆိုထားသည်။ ဟိုလူ၏ ငွေကြေးကို မတရားစားထားသည်။ ဒီလူ့ကို သတ်ဖြတ်ထားသည်။ ဟိုလူ့ကို ရိုက်ထားသည်။ သို့နှင့် သူမတရားလုပ်ခဲ့သူများအား သူ့ကောင်းမှုများကို ဟိုလူ့နည်းနည်း ဒီလူ့နည်းနည်း လျော်ကြေးပြန်ပေးရင်းနှင့် သူ၏ ကောင်းမှုများအားလုံး ကုန်ခန်းသွားပေမည်။ လျော်ကြေးဆပ်၍ မကုန်ခင် သူ၏ ကောင်းမှုများ ကုန်ခန်းသွားပါက ထိုသူတို့၏ မကောင်းမှုများကို သူယူရမည်။ သူ့အပေါ် မကောင်းမှုများပစ်တင်ခဲ့ရပြီး သူလည်း ငရဲမီးထဲ ပစ်ချခံရသည်။[၁]

**မတ်စ်အလဟ် – (၄၅၃) ဟာရှရ်ကွင်းပြင်တွင် လူတို့သည် မိမိတို့၏ မကောင်းမှုများနှင့်အညီ ချွေးပင်လယ်ထဲ နစ်နေကြမည်။**

မိက်ဒါဒ်ဗင်န် အတ်စ်ဝဒ် ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်ုပ်သည် တမန်တော်မြတ် ﷺမိန့်တော်မူသည်ကို ကြားခဲ့သည်။ "ကိယာမသ်နေ့တွင် နေသည် လူတို့နှင့် အဘာယ်မျှ နီးကပ်သွားမည်ဟူမူ တစ်မိုင်အကွာအဝေးကဲ့သို့ရှိမည်။ လူတို့သည် မိမိတို့လုပ်ခဲ့သော ကျင့်ဆောင်မှုများနှင့်အညီ ချွေးထဲတွင် ရှိနေကြမည်။ တချို့သည် ခြေမျက်စိထိ ချွေးထဲတွင်

---

၁ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၂၅၈၁။

ရှိမည်။ တချို့သည် ဒူးခေါင်းထိ ချွေးထဲတွင် ရှိမည်။ တချို့သည် ခါးထိ ချွေးထဲတွင် ရှိမည်။ တစ်ချို့သည် နားခေါင်းထိ ချွေးဖြင့် နဖားထိုးခြင်းခံရမည်။ ကိုယ်တော်မြတ် ﷺ သည် မိမိ၏ ပါးစပ်ကို ညွှန်ပြတော်မူခဲ့သည်။[၁]

  

---

၁ – မွတ်စ်လင်မ်ကျမ်း။

## အပြေးအလွှား၊ အလျှင်အမြန် သောင်ဗဟ်လုပ်ကြကုန်

မတ်စ်အလဟ်–(၄၅၄) သောင်ဗဟ် အမှားဝန်ချတောင်းပန်မှုကို အလျှင်အမြန်လုပ်ရမည်။

وَسَارِعُوٓا۟ إِلَىٰ مَغْفِرَةٍ مِّن رَّبِّكُمْ وَجَنَّةٍ عَرْضُهَا ٱلسَّمَٰوَٰتُ وَٱلْأَرْضُ أُعِدَّتْ لِلْمُتَّقِينَ ﴿١٣٣﴾

ထို့ပြင်အသင်တို့သည်အသင်တို့အားဖန်ဆင်းမွေးမြူတော်မူသော အရှင်ထံမှ လွတ်ငြိမ်းချမ်းသာခွင့်ဘက်နှင့် *ဂျန္နသ်*သုခဘုံဘက်သို့ သူ့ထက်ငါသာအောင် လျင်မြန်စွာပြေးသွားကြပါ။ ထို *ဂျန္နသ်*သုခဘုံ၏ အကျယ်အဝန်းသည် မိုးကောင်းကင်များနှင့် ကမ္ဘာမြေတစ်မျှဖြစ်သည်။ (အနိမ့်ဆုံးသည် လောကထက် ဆယ်ဆကြီးသည်။) ထို *ဂျန္နသ်*သုခဘုံသည် *မုသ်သကီ* ကြောက်ရွံ့အပြစ်ရှောင် ကောင်းကျိုးဆောင်သူများအတွက် အသင့်ပြင်ဆင်ထားပြီးဖြစ်သည်။[၁]

အဗူဟိုရိုင်ရဟ် ﷺ ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်။ "မှောင်မိုက်နေသောည၏ အစိတ်အပိုင်းကဲ့သို့ရှိသော ဖိသ်နဟ်များမပေါ်ပေါက်မီ ကောင်းမှုများကို အလျင်စလို ပြုလုပ်ကြကုန်။ ထိုအချိန်တွင် လူတစ်ဦးသည် မနက်တွင် မုအ်မင်န်ဖြစ်၍ ညနေတွင် ကာဖိရ်ဖြစ်သွားမည်။ မနက်တွင် ကာဖိရ်ဖြစ်၍ ညနေတွင် မုအ်မင်န်ဖြစ်သွားမည်။ လောကီအကျိုးအနည်းငယ်အတွက် သာသနာကို ရောင်းစားလိမ့်မည်။[၂]

  

---

၁ – ကုရ်အာန် ၃း ၁၃၃။

၂ – မွတ်စ်လင်မ်ကျမ်း၊ နံပါတ် – ၁၁၈။